**သွေးနဲ့ရေးသည့် မြေ**

---

သည်မြေမှာ မွေး
သည်မြေမှာ ကြီးခဲ့ကြတဲ့ လူတွေ
သည်မြေသမိုင်း မရိုင်းဖို့
စုပေါင်းကာကွယ်ခဲ့ကြတယ်.....။

သည်မြေမှာ....
ခေတ်အဆက်ဆက်
တံခါးတချက် မကျိုးပျက်ဖို့အရေး
ညီညွတ်ခြင်း လက်တွေနဲ့
သွေးလဲတက် ဓားလဲထက်ခဲ့ကြတယ်လေ....။

သည်မြေဟာ
မျိုးဆက်တိုင်းရဲ့ သမိုင်းမှာ
မြေတလက်မ ပါမသွားဖို့အရေး
အသက်တွေ စတေး
သွေးပေါင်းများစွာ ပေးခဲ့ -
ပေးဆဲ - ပေးနေရဆဲမို့..
" သွေးနဲ့ရေးသည့် မြေ " ပါ....။



မေဟင်အောင်
သွေးနဲ့ရေးသည့်မြေ

၂၀၁၂ ခုနှစ် ဇွန်လ ရခိုင်ပြည်နယ်အတွင်း အကြမ်းဖက်မှု သမိုင်းနောက်ခံဝတ္ထု
နှင့်
သမိုင်းမှတ်တမ်းများ

# သွေးနဲ့ရေးသည့်မြေ

## မေဟင်အောင်

တတိယအကြိမ်



မသီတာထွေး
အသက် (၂၆) နှစ်
ရမ်းဗြဲမြို့နယ်၊ ကျောက်နီမော်အုပ်စု
သပြေချောင်းကျေးရွာ






၃.၆.၂၀၁၂ ရက်နေ့ တောင်ကုတ်မြို့တွင် အသတ်ခံရသူများအား
သံတွဲသင်္ချိုင်းတွင် သင်္ဂြိုဟ်နေစဉ်



၃.၆.၂၀၁၂ ရက်နေ့၊ စစ်တွေမြို့ အမှတ်(၁) ရဲစခန်းမြင်ကွင်း



မောင်တောမြို့ အကြမ်းဖက်မှု စတင်ခဲ့သည် ဂျာမေဗလီ



မောင်တောမြို့ လုံခြုံရေးများ ရှေ့တွင် အကြမ်းဖက်နေမှု မြင်ကွင်း




မောင်တောမြို့ရှိ ဘင်္ဂလီကုလားတို့ ဖျက်ဆီးလိုက်သည့် သဇင် တည်းခိုရိပ်သာ



၈.၆.၂၀၁၂ ရက် မောင်တောမြို့ ဘင်္ဂလီကုလားတို့
အကြမ်းဖက်မှုကြောင့် ဒဏ်ရာ ရရှိခဲ့သူဒေါက်တာ ခင်မောင်လတ်



၈-၆-၂၀၁၂၊ စစ်တွေမြို့ မှန်စီသုသာန်သို့ အသုဘပို့သူအား ဘင်္ဂလီကုလားတို့မှ ခဲဖြင့် ပစ်ပေါက်ပြီး ဒဏ်ရာ ရသူများ



GTC ကျောင်းသားအလောင်းအား တွေ့ရစဉ်



မင်းဂံရပ်ကွက်ရှိ အမျိုးသမီးများမှ ကိုယ်ထူ ကိုယ်ထ လုံခြုံရေး ယူနေကြစဉ်



စစ်တွေမြို့ကို လုံခြုံရေး စစ်သားများမှ တာဝန်ယူထားစဉ်



စစ်တွေမြို့နယ်၊ ဗျိုင်းဖြူရွာမှ ကုလားနိုင်တို့ သားအမိပုံ



မီးလောင်ပြင် မြင်ကွင်း



၂၀၁၂ ခုနှစ် ဇွန်လ အကြမ်းဖက်မှုတွင် အသက်ပေးသွားသူ
သူရဲကောင်း (၃၄)ယောက်
အမှတ်တရ ကျောက်တိုင်

၂၀၁၂ ခုနှစ် ဇွန်လ ရခိုင်ပြည်နယ်အတွင်း
အကြမ်းဖက်မှုတွင်
အသက်ပေးသွားသူများအား ဂုဏ်ပြုသောအားဖြင့်
ဒက္ခိဏဘုရား ပဏ္ဍိတာရာမကျောင်းတိုက်
ခြံဝင်းရှိ
အောင်မင်္ဂလာဆုတောင်းပြည့်စေတီအနီးတွင်
စိုက်ထူထားသည့် အာဇာနည်ကျောက်တိုင်

၂၀၁၂ ခုနှစ် ဇွန်လရခိုင်ပြည်နယ်အရေးအခင်းတွင် အသက်ပေးသွားကြသူများ

## ဒို့တာဝန်အရေးသုံးပါး

| | |
|---|---|
| ပြည်ထောင်စုမပြိုကွဲရေး | ဒို့အရေး |
| တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး | ဒို့အရေး |
| အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေး | ဒို့အရေး |

◆

## ပြည်သူ့သဘောထား

◆ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
◆နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
◆နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်နှောင့်ယှက်သော ပြည်ပနိုင်ငံများ အားဆန့်ကျင်ကြ။
◆ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

◆

## နိုင်ငံရေးဦးတည်ချက် (၄) ရပ်

◆နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး
◆အမျိုးသားစည်းလုံးညီညွတ်မှုခိုင်မာရေး
◆စည်းကမ်းပြည့်ဝသောဒီမိုကရေစီစနစ် ရှင်သန်ခိုင်မာအောင် တည်ဆောက်ရေး
◆ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ် တည်ဆောက်ရေး

## စီးပွားရေးဦးတည်ချက် (၄) ရပ်

◆စိုက်ပျိုးရေးကို ပိုမိုဖွံ့ဖြိုးတိုးတက်အောင်ဆောင်ရွက်ပြီး ခေတ်မီစက်မှုနိုင်ငံထူထောင်ရေးနှင့် အခြား စီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
◆ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာဖြစ်ပေါ်လာရေး
◆ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
◆နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသား ပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး

## လူမှုရေးဦးတည်ချက် (၄) ရပ်

◆တစ်မျိုးသားလုံး၏စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး
◆အမျိုးဂုဏ်၊ ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသား ရေးလက္ခဏာများ မပျောက်မပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး
◆စစ်မှန်သောမျိုးချစ်စိတ်ဓာတ်ဖြစ်သည့် ပြည်ထောင်စုစိတ်ဓာတ် ရှင်သန်ထက် မြက်ရေး
◆တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး

## ပုံနှိပ်မှတ်တမ်း

ထုတ်ဝေသူ ■ ဒေါ်သင်းသင်းမွန်
သင်းစာပေ
အမှတ် ၁၀၊ ရတနာမြိုင်လမ်း၊
လှည်းတန်း၊ ကမာရွတ်မြို့နယ်။

ပုံနှိပ်သူ ■ ဦးစံလှမောင်
စန္ဒာဝင်းပုံနှိပ်တိုက်
အမှတ် ၁၅၄၊ လွတ်လပ်ရေးလမ်း၊
(ဃ)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်။

ဖြန့်ချိရေး ■ ဝံလက်ဒေသဖွံ့ဖြိုးရေးဖောင်ဒေးရှင်း
အမှတ်(မဘ-၁၆၆)၊ ကျောင်းတက်လမ်း
ခွဆုံအနီး၊ မင်းဘာကြီးလမ်း၊
ကျောင်းတက်လမ်းရပ်ကွက်၊ စစ်တွေမြို့။
ဖုန်း - ၀၉ ၄၅၀၅၄၀၄၀၁

ထုတ်ဝေသည့်အကြိမ် ■ တတိယအကြိမ်

ထုတ်ဝေသည့်ကာလ ■ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ

အုပ်ရေ ■ ၁၀၀၀

တန်ဖိုး ■ ၂၀၀၀ ကျပ်

စီစဉ်သူ ■ မြတ်ဌေး


Ven. Gindobhara 08-02-2014

မူပိုင် – ဒေါ်အေးအေးနွယ် (ဖုန်း ၀၉၄၅၀၅၄၂၉၈၆)

# သွေးနဲ့ရေးသည့်မြေ

ဝေဟင်အောင်

၂၀၁၂ ခုနှစ် ဇွန်လ ရခိုင်ပြည်နယ်အတွင်း အကြမ်းဖက်မှုသမိုင်းနောက်ခံဝတ္ထု
နှင့်
သမိုင်းမှတ်တမ်းများ

ဖြန့်ချိရေး

***

**ဝံလက်ဒေသဖွံ့ဖြိုးရေးဖောင်ဒေးရှင်း(ရခိုင်ပြည်)**

အမှတ်(မဘ-၁၆၆)၊ ကျောင်းတက်လမ်းခွဆုံအနီး၊
မင်းဘာကြီးလမ်း၊ ဘောက်သီးစုရပ်ကွက်၊
စစ်တွေမြို့။
ဖုန်း - ၀၉ ၄၅၀၅၄၀၄၀၁

## မာတိကာ

## ရခိုင်မဂ္ဂဇင်း၊ အယ်ဒီတာချုပ် ဆရာသိန်းနှောင်၏

## အမှာစကား

ဝေဟင်အောင်. . .

သူ့ကိုသတိထားမိသည်မှာ ကြာပြီဖြစ်သည်။ အထူးသဖြင့် သူလက်ရာ၊ သူ့စာမူများကို အင်တာနက်ပေါ်တွင် တွေ့ရသည်။ ခေတ်စကားအရ အင်တာနက်မင်းသားဟုပင် ပြော၍ရမည်ထင်သည်။ သူ့စာများသည် ကျစ်လစ်သည်၊ သွက်လက်သည် အကြောင်းအရာ တစ်ခုကို တိုရှင်းလိုရင်း ပြောနိုင်သည်။ သူ၏စာအများစုတွင် ခေတ်နှင့် ရခိုင်ဒေသ၏ ပုံရိပ်များကို တွေ့ရသည်။

ယခုထုတ်ဝေလိုက်သော "သွေးနဲ့ရေးသည့်မြေ"တွင် ရခိုင်အရေး မီးတောက်မီးလျှံကြီးကို မီးမောင်းထိုးပြထားသည်။ စာရေးသူက ဝတ္ထုရေးဟန်နှင့်ရေးသည်။ သို့သော် ဝတ္ထုထက် ဆောင်းပါးဒိုင်ယာရီ အနည်းငယ်ဆန်နေသလားထင်ရသည်။ ကွင်းဆင်းမှတ်တမ်းတင်ထားခြင်းဖြစ်၍ ထူးခြားသည်။

ဤ"သွေးနဲ့ရေးသည့်မြေ" စာအုပ်နှင့် ပတ်သတ်၍ စာအုပ်ထဲမှ တချို့တချို့သော အကြောင်းအရာများကို မိတ်ဆက်အညွှန်းအဖြစ် ထုတ်နုတ်တင်ပြရန် ဆန္ဒရှိခဲ့သော်လည်း စာဖတ်ပရိတ်သတ်များ နက်နက်နဲနဲ နွေးထွေးစွာ တွေးခေါ်ခံစားနိုင်ရန် ရည်ရွယ်၍ တမင်ချန်လှပ်ထားခဲ့ပါသည်။

နောက် ၂၀၁၂ ခု ဇွန်လအတွင်း ဖြစ်ပွားခဲ့သော ဘင်္ဂလီအရေးအခင်းနှင့်ပတ်သတ်၍ သတင်းမှတ်စုတို များ ဖော်ပြထားသည်မှာလည်း အားရစရာကောင်းလှသလို နောင် မျိုးဆက်သစ် ရခိုင်လူငယ်များအတွက် တပ်လှန့်ထားသလို ခံစားမိသည်။

ဝေဟင်အောင်သည် ရခိုင်အမျိုးသားလူငယ်စာရေးဆရာပီပီ သမိုင်းနှင့်ပတ်သတ်၍ သမိုင်းလိမ် ဘင်္ဂလီများနှင့် အင်တာနက်တွင် စစ်ထိုးရင်း လက်တွေ့အမျိုးသားရေး နယ်ပယ်တွင် ရခိုင်ဒေသ၏ ပထဝီမပျောက်ဖို့အရေး ဘဝင်မကျ ရင်တမမဖြင့် ခံစားရေးဖွဲ့ထားသည်ကို တွေ့မြင်နေရသည်။

နိဂုံးချုပ်အနေဖြင့်တင်ပြရလျှင် လူငယ်စာရေးဆရာ ဝေဟင်အောင် ထုတ်ဝေလိုက်သော "သွေးနဲ့ရေးသည့်မြေ"စာအုပ်သည် ရခိုင် - ဘင်္ဂလီ အရေးအခင်းနှင့်ပတ်သတ်၍ ကျမ်းကြီးတစ်စောင်၊ ပေကြီးတစ်ဖွဲ့ဖြစ်သည်ဟု မပြောလို၊ မရေးလိုငြားသော်လည်း မျိုးချစ်ရခိုင်စာဖတ်ပရိသတ်နှင့် နောင်လာနောင်သား မျိုးဆက်သစ်လူငယ်များအတွက် ရခိုင်အမျိုးသားတို့၏ စာအုပ်စင်တိုင်းတွင် မရှိမဖြစ် ထားသင့်သော စာအုပ်ကောင်းတစ်အုပ်ဟုဆိုလျှင် - လွန်အံ့မထင်ပေ။

**သိန်းနောင်**
အယ်ဒီတာချုပ်
ရခိုင်မဂ္ဂဇင်း
၁၃၊ ၁၀၊ ၁၃

## ဇမ္ဗူမကျိုင် ရွှေရခိုင်ဝယ်

(၁)

* ကျွန်းတွင်ဇမ္ဗူ လူတွင်ရက္ခိုင်၊ ကြိုင်ဘိသတင်း၊ ကင်းဘိအဖြစ်၊ ချစ်သည့်အမျိုး၊ ကြိုးသည့်လုံ့လ၊ မြတ်စာဂနှင့်၊ နှစ်ဝနတ်လူ၊ ချစ်ကြည်ဖြူသည်၊ နိဗ္ဗူဆုတောင်းပြည့်အံ့တည်း။

*(ဗုဒ္ဓဝင်လင်္ကာ)*

* အမျိုးသီလ၊ နှစ်ဌာနကို၊ ပြည်ဝမကျိုင်၊ စောင့်စွမ်းနိုင်သည်၊ ရက္ခိုင်နာမ၊ ဘွဲ့မည်လှနှင့်၊ အန္ဝတ္ထသညာ၊ ခေါ်အပ်ရာတည်း။

*(သျှင်နာဂိန္ဒမော်ကွန်း)*

ရခိုင်သည် 'ရက္ခိတ'စိတ်ဓာတ်ကို မကျိုင်ပြုလျက် မားမားမတ်မတ် ရပ်တည်နေထိုင်လာသည့်လူမျိုးဖြစ်သည်။ ဘာသာ၊ သာသနာ နေလိုလလို ထွန်းလင်းဖြာဝေခဲ့သည်။ ဘူမိနက်သန် ဌာနေမွန်လည်း ဖြစ်သည်။ ရခိုင်တို့သည် ကိုယ့်ထီးကိုယ့်နန်းဖြင့် နှစ်ပေါင်းထောင်ချီ၍ ကိုယ့်ခြေထောက်ပေါ် ကိုယ်ရပ်တည်လာသည့် လူမျိုးလည်းဖြစ်သည်။ ကိုယ်ပိုင်ဘာသာစကား၊ ကိုယ်ပိုင်စာပေ၊ ကိုယ်ပိုင်ယဉ်ကျေးမှု ဓလေ့ထုံးစံတို့ဖြင့် ဇာတ်မြစ်ခိုင်မာလှသည်။ သမိုင်းအစဉ်အလာကြီးမားခဲ့သည်။ ရခိုင့်အောင်လံတော်သည် လွတ်လပ်စွာဖြင့် ငွားငွားစွင့်စွင့် လွင့်မြူးနိုင်ခဲ့သည်။

* တေဇာကြီးထု၊ မာရယုကား၊ စစ်ပြုစစ်တိုက်၊ ငရက္ခိုင်ဟု၊ ဝန်းလိုက်နေငြား၊ ဘီးလူးများကို၊ ထွားထွားညက်ညက်၊ အကုန်ဖျက်မှ၊ အောင်ချက်ဌာန၊ ထိုကစ၍၊ တွင်ထအမည်၊ ရက္ခိုင်ပြည်ဟု၊ ပတ်လည်နှံ့သိ၊ ကျော်ဇောဘိ၏။

*(ရာဇဝင်လင်္ကာ)*

ရခိုင်သည် "ဓညဝတီ၊ ဝေသာလီ၊ လေးမြို့၊ မြောက်ဦး"ဟူသော ခေတ်ကြီးလေးခေတ်ကို အရှိန်အဟုန်ကောင်းစွာဖြင့် ဖြတ်သန်းလာခဲ့ပါသည်။ သမိုင်းမော်ကွန်းထိုးလာခဲ့ကြသည်။ ရခိုင်ရိုးမနှင့် ရခိုင့်ပင်လယ်ပြင်ကြားက လခြမ်းလွင်ပြင်ပေါ်မှာ ထေရဝါဒသာသနာ့အောင်လံတော်ကို ခေတ်အဆက်ဆက် မြင့်မြတ်တင့်တယ်စွာ လွင့်ထူလာနိုင်ခဲ့ကြသည်။ ဆည်းလည်းသံတို့ချိုမြသာယာခဲ့သည်။ ကြေးစည်သံ၊ တုံးမောင်းသံတို့ဖြင့် ငြိမ့်ညောင်းနာပျော်ခဲ့သည်။ ရခိုင်ပြည်သူတို့၏ကြားမှာ ယိုင်းပုခတ်လွှဲသံသာသည် နားဝင်ပီယံရှိလှပါသည်။ ရခိုင်မိခင်တို့၏ အရွှေ့သာခြင်းသံတို့သည် ဇေလုဝနတ်စောင်းသံကဲ့သို့ ပျောင်းအိချိုမြနွဲ့နှောင်းလှပါသည်။ ရွှေရခိုင်တို့ အတိတ်ဘဝကား "ရခိုင်သားလေ - သာစွလေ"

သို့သော်. . .

လောကဓံအလှည့်အပြောင်းမှာ ရွှေရခိုင်တို့၏သမိုင်းရေစီးကြောင်းသည် ကမ္ဘောက်ကပြန်ဖြစ်ခဲ့ရသည်။ ထီးကျိုးစည်ပေါက်ကျွန်သပေါက်ဘဝရောက်ခဲ့ကြရသည်။ "ကျွန်တော်မျိုး"တံဆိပ်ခပ် ပေရှက်ဆွဲကြိုး ဆွဲပြီး အသက်ဆက်လာခဲ့ကြရသည်။ ရက္ခိုတတချို့ကား ချစ်မြတ်နိုးတန်ဖိုးထားရသော ဇာတိရပ်မြေကို ကျောခိုင်းလျှက် အဝေးရောက် ရခိုင်တွေဘဝဖြင့် ဖြတ်သန်းသွားခဲ့ရသည်။

ဟော - နယ်ချဲ့တွေက ဆိုးရွားမျိုးပွါးလွယ်သည့် မိစ္ဆာဒိဋ္ဌိမြောက်မြားစွာကို အမွေဆိုးတစ်ရပ်အဖြစ် ချန်ရစ်ပေးထားခဲ့ကြသည်။

ကြည့်တော့ - ဗုဒ္ဓအမွေ စေတီ၊ ဘုရား၊ ပုထိုးတွေမှာ ညောင်မှတ်ဆိတ်တွေ ဖြန့်ကြက် ဝါးမျိုလို့နေကြလေပြီ။



ကိုလိုနီကင်ဆာက အနာရင့်ခဲ့လေပြီ။

ခုတော့ - "ရခိုင်သားလေ - နာစွလေ"

## (၂)

မိုးဦးလေဦး ရခိုင်ကောင်းကင်ပြင်ကြီးသည်ကား တိမ်လိုင်းမည်းကြီးများ အလိပ်လိပ်အထပ်ထပ် ဖြန့်ကြက်လွှမ်းမိုးလျှက်ရှိလေပြီ။ အုံ့ဆိုင်းနက်မှောင်လို့နေပြီ။ မကြာပါ၊ ရေမမီးခိုးလုံးကြီးများက တိမ်လိုင်းမည်းကြီးများရှိရာ ဝဠာပြင်ဆီသို့ တရှိန်းရှိန်းလှိမ့်တက် ရောယှက်သွားကြလေတော့၏။

မီးခိုးလော! တိမ်ဦးလော! . . . ။ မသိနိုင်လေပြီ။

အို. . . သွေးနီရောင် မီးတောက်မီးလျှံကြီးများကား ကောင်းကင်ပြင်တစ်ပြင်လုံး စွယ်ရောင်ရဲရဲနီလျှက်ပါကလား။ ရခိုင့်ရေ၊ ရခိုင့်မြေ၊ ရခိုင့်ဝဠာပြင်တစ်ခွင်လုံးကို သွေးနီရောင်ဖုံးလေပြီ။ ဘယ်သူဖန်တီးသည့် အိမ်မက်ဆိုးတွေလဲ။ ဘယ်သူမွေးပေးလိုက်သည့် သောကမီး၊ ဒုက္ခမီးတွေလဲ။ လက်သည်ဘယ်မလဲ။ ဘယ်သူတွေလဲ! ။ လဲ. . . လဲ. . . လဲ. . . . . . . . .

## (၃)

"ကမ္ဘာကြီးက ရခိုင်ကို ဘယ်လိုရှုမြင်ပါသလဲ"

"ကမ္ဘာကြီးသည် ရွာကြီးတစ်ရွာဖြစ်သွားပြီ"ဟု ဆိုကြသည်။ ထိုကမ္ဘာ့ရွာသည် "ဘုံရွာ"လား။ အဲဒီကမ္ဘာ့ရွာမှာ သူ့စည်း ကိုယ့်စည်း၊ သူ့မြေ ကိုယ့်မြေ၊ သူ့အိမ် ကိုယ့်အိမ်၊ သူ့လမ်း ကိုယ့်လမ်း၊ သူ့ဓလေ့ ကိုယ့်ဓလေ့ စသည့်ဖြင့် သီးခြားကိုယ်ပိုင်ရပ်တည်ခွင့် မရှိတော့ပြီးလား. . ။

ရခိုင်စကားပြောသော ရခိုင်လူမျိုးတို့ပိုင်ဆိုင်သည့် ရခိုင်မြေပေါ်တွင် ရခိုင်မင်းတို့သည် နှစ်ပေါင်းထောင်ချီ၍ ကိုယ့်ထီးကိုယ့်နန်းဖြင့် သီးခြားလွတ်လပ်စွာ ရပ်တည်နေထိုင်လာခဲ့ကြသည်မှန်သော်လည်း. . .

တစ်ချိန်တစ်ခါက ရက္ခပူရ၊ ဓညဝတီ၊ အာရက္ခဒေ့သျှ၊ အာရကန်၊

ရက္ခိုင်ပြည်သည် ကမ္ဘာ့အလယ်မှာ ဝင့်ကြွားထည်ဝါနိုင်သည် မှန်သော်လည်း. . .

ယနေ့ရခိုင်ပြည်၊ ရခိုင်မြေသည် မီးတဟုန်းဟုန်းတောက်လောင်၊ ကောင်းကင်ပြင်မှာ မီးခိုးငွေ့တလူလူဖြင့် သွေးရောင်လွှမ်းသောမြေ ဖြစ်နေလေပြီ။ ကိုယ့်အိမ်၊ ကိုယ့်ယာ၊ ကိုယ့်ရွာမှာနေပြီး အိုးမဲ့၊ အိမ်မဲ့၊ ရွာမဲ့ ဒုက္ခသည်ဘဝရောက်နေကြရလေပြီ။ ရင်နာကြေကွဲရလေခြင်း. . .။

ကမ္ဘာကြီးက ရခိုင်တို့ဘဝကို ဓမ္မဓိဋ္ဌာန်ကျကျ၊ ယထာဘူတကျကျ နားလည်ရှုမြင်နိုင်ကြပါရဲ့လား. . .။

မည်သို့ဆိုစေ. . . "ကမ္ဘာ့ရွာ"ဆိုတာကြီးထဲ၌ ရခိုင့်အိမ်၊ ရခိုင့်မြေ၊ ရခိုင်လူမျိုး ပျောက်ကွယ်မသွားရေးအတွက် ကာကွယ်ဖို့ရန် ကျွန်ုပ်တို့အားလုံးကိုင်စွဲထားရမည့် လက်နက်သည်ကား "ရက္ခိတလက်နက်"ပင် ဖြစ်ပေသတည်း။

ရခိုင်မြေသည်ကား အမှန်တကယ်ပင်. . .

"သွေးနဲ့ရေးသည့်မြေ"

"သွေးနဲ့ရေးသည့်မြေ"

"သွေးနဲ့ရေးသည့်မြေ"

**လေးဝတီ ခိုင်ကျော်**

၁၆၊ ၁၀၊ ၂၀၁၃



သည်မြေဟာ
မျိုးဆက်တိုင်းရဲ့ သမိုင်းမှာ
မြေတလက်မ ပါမသွားဖို့အရေး
အသက်တွေ စတေး
သွေးပေါင်းများစွာ ပေးခဲ့ –
ပေးဆဲ – ပေးနေရအုံ့မယ့် . . .
'သွေးနဲ့ရေးသည့်မြေ'ပေါ့ . . .။

**သျှင်းသန့်(ပုဏ္ဏားကျွန်း)**

# သွေးနဲ့ရေးသည့်မြေ

## (၁)

မြို့ကလေးသည် သိမ့်သိမ့်ခါအောင် တုန်လှုပ်နေ၏။ အရှေ့အနောက် တောင်မြောက် အရပ်လေးမျက်နှာဝယ် မီးခိုးလုံးများကြောင့် ပတ်ဝန်းကျင်တစ်ခုလုံး မှိုင်းပြနေ၏။ လမ်းပေါ်တွင် အဆောတလျင် သွားလာလှုပ်ရှားနေသော လူတိုင်းလက်ဝယ် ဒုတ်၊ ဓား၊ လေးခွ လက်နက်တို့ ကိုင်စွဲထားကြသည်။ သူတို့မျက်နှာပေါ်တွင် စိုးရိမ်စိတ်များ ပေါ်လွင်နေသည်ကို တွေ့မြင်ရသည်။ အစောင့်လုံခြုံရေးတို့သည်လည်း ခြေချင်းလိမ်နေ၏။ လူခါး ဖုန်းကို ကောက်ကိုင်လိုက်သည်။

"ဟော့ကောင် မင်းဂံရပ်ကွက်ကို ချက်ချင်းထွက်လာခဲ့။ ဒီဖက်ကို ကုလားတွေ တက်လာနေပြီ"ဟု အသံကိုသာ ကြားလိုက်ရပြီး ဖုန်းချသွားလေသည်။

*×*×*

## (၂)

မနက်အိပ်ရာက နိုးလာသည်နှင့် ထားနေကျနေရာတွင်ရှိသော ရေဒီယိုကလေးကို လူခါး လက်ဖြင့်စမ်းပြီး ဖွင့်နေကျ။ သတင်းထူးများ ပါလာလျှင် သောက်နေကျလက်ဖက်ရည်ဆိုင်တွင် ပြောကြ၊ ငြင်းကြ၊ ဆွေးနွေးကြရင်းဖြင့် အချိန်ကုန်လေသည်။ ယနေ့(၂၈. ၅. ၂၀၁၂)တော့ သတင်းက တော်တော်ထူးခြားနေသည်ကို လူခါးကြားလိုက်ရသည်။ ပြည်ပအသံလွှင့်ဌာနမှ အသံကောင်းသော ကြော်ငြာသူ ကောင်မလေးမှ

"ရခိုင်ပြည်နယ်၊ ရမ်းဗြဲမြို့နယ် ကျောက်နီမော်အုပ်စု သပြေချောင်း ကျေးရွာမှ မသီတာထွေးအား မသမာသူ ဘင်္ဂလီ (၃)ဦးမှ မုဒိန်းကျင့် ပစ္စည်းလုယက်ပြီး အသက်ကိုပါ သတ်သွားကြောင်း" ကြေငြာသွားလေသည်။ ဒီသတင်းကို ကြားကြားချင်း လူခါး တက်ခေါက်လိုက်မိသည်။ ဒီသတင်းကို နားထောင်ပြီးချင်း လက်ဖက်ရည်ဆိုင်ဘက်သို့ ချက်ချင်း ထွက်လာရာ လမ်းပေါ်တွင် ကိုကြီးထွန်းက

"လူခါး ရေဒီယိုသတင်းကြားပြီးပြီလား"

ဟု လှမ်းမေးလိုက်သည်။



"ဟုတ်ကဲ့ကြားပြီးပြီ ကိုကြီးထွန်း"လို့ ပြန်ဖြေရင်း

"ဒီသတင်းကို ကြားတာနဲ့ ကျနော် နေလို့ထိုင်လို့မရဘူး ကိုကြီးထွန်း၊ ကောင်မလေးကိုလည်း သားသမီးချင်း ကိုယ်ချင်းစာပါတယ်" ဟု ပြောလိုက်သည်။ ကိုကြီးထွန်းလည်း သက်ပြင်းကို ပြင်းပြင်းချ ကျန်ခဲ့သည်။ လူခါးလည်း ဆက်ထွက်လာခဲ့သည်။

ဒီသတင်းသည် ပတ်ဝန်းကျင်တစ်ခုလုံးသို့ရိုက်ခတ်သွားသည်။ ကမ်းနားလမ်း၊ လေညှင်းသာ ၊ ပလ္လင်တော၊ လက်ရည်ဆိုင် စကားဝိုင်း များသို့ တဟုန်ထိုးပျံ့နှံ့သွားသလို နယ်ဘက် တောရွာတွေအထိ သတင်း က ပျံ့နှံ့သွားသည်။ ထင်မြင်ချက် သောင်းခြောက်ထောင်မက၊ ဝေဖန်ရေး လေကန်ရေးတွေလည်း အများကြီး။ ကောင်မလေးအတွက် ရင်နာကြသူ၊ ကိုယ်ချင်းစာကြသူ၊ တက်ခေါက်သူ၊ အံကြိတ်သူများဖြင့် ပတ်ဝန်းကျင် တစ်ခုလုံးသည် ရခိုင်တွေ နားရွက် တံထွေးဆွတ်ခံရသလိုမျိုး ခံစား လိုက်ရသည်။ ဤသတင်းပြီးနောက် နောက်ဆက်တွဲဖြစ်ပေါ်လာမည့် သတင်းများကို အင်တာနက်လူမှုကွန်ယက်တို့၊ ဝက်ဆိုက်တို့ပေါ်တွင် စောင့်ကြည့်လေ့လာနေသော လူငယ်၊ လူကြီး ၊ အမျိုးသမီး အရွယ် မလတ် ရလာသမျှ သတင်းတို့ကိုလည်း တစ်ဆင့်စကား တစ်ဆင့်နားဖြင့် ပြောကြားသူ၊ ဖြန့်ဝေသူများဖြင့် ပတ်ဝန်းကျင်တစ်ခုလုံးသည် သတင်း အရောင်ဆိုးမှုနောက်တွင် အလုပ်ရှုပ်နေလေတော့သည်။

၃၀. ၅. ၂၀၁၂ ရက်နေ့ ရမ်းဗြဲမြို့တွင်လည်း မတရား မုဒိန်းကျင့်၊ ပစ္စည်းလု၊ လူသတ်တဲ့တရားခံ ထက်ထက် (ခ) ရော်ရှီး၊ ရော့ဗီး၊ ခိုချီး(ခ)အကွက်ချေ ဘင်္ဂလီ(၃)ဦးအား ထိရောက်စွာ ဥပဒေကြောင်းအရ အရေးယူဖို့ ဆန္ဒထုတ်ဖော်မှုတွေ ဖြစ်ခဲ့သည်ဟု နောက်ဆက်တွဲ သတင်း အရ သိရှိခဲ့ရသည်။ တောရော၊ မြို့ပါမကျန် ခံတပြင်းပြင်းဖြင့် သီတာထွေး ကို ညီမချင်း ကိုယ်ချင်းစာသူ၊ သားသမီးလို စာနာသူတို့ဖြင့် ပတ်ဝန်းကျင် သည် ပို၍လှုပ်ရှားအသက်ဝင်လာခဲ့လေတော့သည်။

*×*×*

၃. ၆. ၂၀၁၂ ရက်တွင် ဘင်္ဂလီတို့နှင့်ပတ်သတ်၍ ဂါမပညတ်ထားသောနယ်မြေ၊ တစ်နည်း ဘင်္ဂလီ ဖြတ်သန်းသွားလာခွင့်မရှိသည့် တောင်ကုတ်မြို့သို့ သံသယကြီးစွာဖြင့် သွေးတိုးလာစမ်းသော ဘင်္ဂလီ(၁၀)ယောက်သည် အမျိုးမျိုးသတိပေးတားမြစ်သည့်ကြားက သံတွဲမြို့မှနေ အတင်းဖြတ်သန်းသွားလာ၏။ တောင်ကုတ်မြို့ကလေးပေါ်တွင် သတင်း အမျိုးမျိုး၊ ကောလဟလတို့ဖြင့် ပြန့်နှံ့နေ၏။ တက်ကြွသော လူငယ်အုပ်စု၊ အမည်မသိသော သူစိမ်းများဖြင့် ခြေချင်းလိမ်နေ၏။ သတင်းရှုပ်ရှက်ခတ်နေသော တောင်ကုတ်မြို့ကလေးကို သွေးတိုးလာစမ်းသော ဘင်္ဂလီ(၁၀)ဦးအား ဘယ်ကမှန်းမသိ၊ အမည်မသိသော လူတစ်စုက သွေးဆာစွာဖြင့် ဇီဇီခြွေချလိုက်ကြလေသည်။ ရိုးမသစ္စာကားကိုလည်း တပါတည်း ရောထည့်ပေးလိုက်ကြသည်။

ဤသတင်းသည် လူမှုကွန်ယက်၊ သတင်းဌာနတို့တွင် မျက်နှာဖုံးကြီးကြီးတို့ဖြင့် ချက်ချင်းဖော်ပြခဲ့ကြ၏။ သတင်းခေါင်းစဉ်ကြီးကြီးများဖြင့် မျက်နှာဖုံးပြည့်ဖော်ပြသော သတင်းဌာနများကား အပြည့်။ လူခါးလည်း ဒီသတင်းကို ချက်ချင်း ဖတ်လိုက်ရသည်။ အံ့ဩတုန်လှုပ်သွား၏။ ပတ်ဝန်းကျင်ကို လူခါး အကဲခတ်ကြည့်လိုက်သည်။ ပတ်ဝန်းကျင်တစ်ခုလုံးသည် နောက်ဘာဖြစ်လာမည်ကို စောင့်ကြည့်နေသလို။ တစ်ယောက်ကို တစ်ယောက်၊ တစ်ဦးကိုတစ်ဦး မယုံသင်္ကာသလို အကြည့်တို့သည် ယုံကြည်မှုကင်းမဲ့စွာ ဖြစ်နေတော့သည်။

“အဲ. . လူခါး၊ သွားသတိ လာသတိတော့ ထားပေါ့ကွာ။ အခြေအနေက ဘာဖြစ်လာမယ်လို့ ပြောလို့မရဘူး”

လို့ လူခါးအစ်ကို ကိုကြီးသိန်းက ဖုန်းဆက်လာသည်။ လူခါးကို ချစ်ခင်သူများမှ သတိပေးသော ဖုန်းအမျိုးမျိုး၊ သတင်းအမျိုးမျိုးတို့သည် မပြတ်ဝင်လာတော့သည်။ လူခါးသည်လည်း သတင်းမပြတ်လပ်ရန်အတွက် အပြင်ကို ထွက်ပြီး မိမိတို့ပတ်ဝန်းကျင်တွင် နောက်ဖြစ်လာမည့် သတင်းအချက်အလက်များကို စောင့်ဆိုင်းနေမိတော့သည်။

*×*×*

(၃)

သတင်းပြန့်နှံ့မှုအားသည် စည်းစည်းလုံးလုံး တက်တက်ကြွကြွရှိပြီး အမျိုးသားရေး ပြင်းထန်သော နယ်မြို့ကလေးဖြစ်သည့် တောင်ကုတ်မြို့ပေါ်သို့ ချက်ချင်းပြန့်နှံ့သွားသည်။ မြို့လူထုသည် လှုပ်လှုပ်ရှားရှား ဖြစ်သွား၏။ နှစ်ပေါင်းများစွာ အတူတကွ အေးချမ်းစွာနေလာသော ဘင်္ဂလီကုလားတို့သည် ရခိုင်တို့အပေါ် စော်ကားလိုက်လေပြီ။ ဒီမတိုင်ခင်ကလည်း အင်တာနက် ဝက်ဆိုက်၊ ဘလော့များပေါ်တွင် ရခိုင်တို့၏ နယ်မြေအား သူတို့နယ်မြေဆိုပြီး သမိုင်းလိမ်မှု၊ သတင်းအမျိုးမျိုးတို့ဖြင့် တင်ပြ၊ ဖော်ပြခဲ့မှုတို့ကြောင့် ရခိုင်တို့သည် သံသယစိတ်တို့ဖြင့် လွှမ်းမိုးနေခဲ့သည်။ သံသယမှတစ်ဆင့် အမုန်းမီးစအဖြစ်သို့ ပြောင်းလဲလာပြီး လူမျိုးတစ်ဖက်နှင့်တစ်ဖက်ကြား စောင့်ကြည့်လေ့လာမှုများရှိလာကြသည်။ အထူးသဖြင့် ဘင်္ဂလီတို့၏ ပြည်ပတွင် ရောက်ရှိသော ပညာတတ်ဘင်္ဂလီများက အဓိကကြိုးကိုင်လှုပ်ရှားနေကြသည်ကို မျက်ဝါးထင်ထင် တွေ့မြင်လာခဲ့ကြသည်။ သတင်းအချက်အလက် ပွင့်လင်းမှုခေတ်ကို အသုံးချပြီး ရခိုင်တို့အပေါ် အမျိုးမျိုး စော်ကား၊ ပုတ်ခတ်လာကြခြင်းပင် မဟုတ်ပါလော။

## (၄)

ဘင်္ဂလီတို့၏အလယ်တွင် အထီးကျန်စွာ တည်ဆောက်ထားသော ရသေ့တောင်မြို့ကလေးသည်လည်း ကောလဟလသတင်းများ ပျံ့နှံ့နေပြီး မြို့ကလေးသည် အိပ်မောကျသည့်အလား တိတ်ဆိတ်နေသည်။ မုန်တိုင်း မလာခင် လေငြိမ်နေသကဲ့သို့ နောက်ဖြစ်လာမည့် မီးတောက်မီးလျှံများကို စောင့်ဆိုင်းနေသလိုပင်။ ရသေ့တောင်မြို့ အနောက်ဘက် မယူတောင် တန်းကြီးကို နောက်ခံပြုလျက် တည်ဆောက်ထားသော စေတီပြင်စံပြ ကျေးရွာတွင်လည်း ဘင်္ဂလီတို့သည် ညတွင်းချင်း ဗလီ ဆောက်လုပ်ရန် အသပြာကို လမ်းခင်းပြီး ဆော်သြနေလေသည်ဟု သတင်းအစအန ထွက်လာသည်။ လူခါးလည်း အသိတစ်ယောက်၏ ဖုန်းနံပါတ်ကို ရှာပြီး လှမ်းမေးလိုက်သည်။

"ဟုတ်ပါတယ်. . ဒီမှာ အခြေအနေက တင်းမာနေပါတယ်။ ဒေသခံ ရွာသားတွေကတော့ လက်မခံပါဘူး။ ဒီနေရာက ဗုဒ္ဓဘာသာ တို့ရဲ့အထွတ်အထိပ်ထားရာနေရာပါ"

လို့ ပြောပြီး ဖုန်းချသွားသည်။ တခြား နီးစပ်ရာကို လှမ်းဖုန်းဆက်ကြည့် သည်။ ဟုတ်ကြောင်း အတည်ပြုသူတွေနဲ့ မဟုတ်တစ်ဝက် ဟုတ် တစ်ဝက်ဖြင့် ဖြေကြားသူတို့ဖြင့် ညအမှောင်ထဲတွင် သတင်းရပ်ဝန်း ကြီးသည် လှုပ်ရှားနေလေတော့သည်။

*×*×*

## (၅)

လူခါးဘေးနားတွင် လဲလျောင်းနေသော လူခါး၏ ချစ်ဇနီးသည် မေးနေရာမှ

"ကို. . ဘာတွေထူးခြားသေးလဲ"

"လောလောဆယ်တော့ ဘာဆက်ဖြစ်လာမယ်ဆိုတာကိုတော့ မသိသေးဘူး၊ တစ်ခုခုဖြစ်ဖို့အတွက် တွန်းအားပေးနေသလိုပဲ။ တစ်ခုခု တော့ ဖြစ်လိမ့်မယ်လို့ ကိုယ်တော့ ထင်နေတယ်"

ဟု ပြန်ဖြေလိုက်မိသည်။

ဟုတ်ပါသည်။ နောက် ဘာဖြစ်လာမည်ကို လူတိုင်းနားစွင့်နေ မိသည်။ ပတ်ဝန်းကျင်ကို လူတိုင်း သံသယကြီးစွာဖြင့် နားစွင့်နေမိ ကြသည်။ ငွေကြေးတတ်နိုင်သူတချို့ကတော့ ကြိုတင်နိမိတ်ဖတ်သည့် အနေဖြင့် ရန်ကုန်မြို့နှင့် တခြားလုံခြုံမည်ထင်သည့် မြို့နယ်များသို့ ပြောင်းရွှေ့ရန်ပင်/စိုင်းပြင်းလာကြတော့သည်။ သို့သော်လည်း လူခါး၏

စိတ်ထဲတွင် ဤမြေ ဤရေသည် သူ၏ ဇာတိချက်မြှုပ်မြေ ၊ ဘိုးဘွားတို့ အမွေပေးထားခဲ့သည့်သမိုင်းမြေဖြစ်သောကြောင့် တစ်လက်မမျှ ရွှေ့စရာ ပြောင်းစရာမလိုအပ်ပေဟု ခံယူထားသည်။ အကြောင်းမညီညွတ်လို့ တစ်ခုခုဖြစ်လာခဲ့ရင်တောင်မှ ဤမြေတွင် ခေါင်းချပြီး ပြုံးပြုံးကြီးဖြင့် ဘဝကို ကိုယ့်လူမျိုးအတွက် ပေးဆပ်သွားမည်ဟု ပိုင်းဖြတ်ထားသည်။

လူခါး အိပ်ရာဝင်ရင်း နှဖူးပေါ်လက်တင်ပြီး စဉ်စားကြည့်မိသည်။ လူခါးသည် စာဖတ်ဝါသနာပါသူဖြစ်သည့်အလျောက် ရခိုင်နှင့် ပတ်သက်သမျှ စာပေဗဟုသုတများကို လိုက်စားသည်။ အင်တာနက်ကိုလည်း ရှုးသွပ်စွာ သုံးစွဲတတ်သည်။ သတင်းတစ်ခုခုထူးလာလျှင် တခြားသူများကို တစ်ဆင့် ဖြန့်ဝေတတ်သည်။ လူခါးတို့ပတ်ဝန်းကျင်တွင် အင်တာနက် သုံးတတ်သူဆိုလို့ ရှားရှားပါးပါး (၁၀)ဦးပင်မပြည့်။ ထိုအထဲတွင် လူခါးတစ်ယောက်အပါအဝင်။ ဒါကြောင့်လည်း တစ်ခုခုထူးလာလျှင် အင်တာနက်ပေါ်မှ သတင်းများကို လူခါးက ပြောပြသလို လူခါးကို အားကိုးသူများလည်း အများပေ။ လိပ်ထက်ပင်နှေးကွေးသော အင်တာနက်လိုင်းပေါ်တွင် အင်တာနက်သုံးစွဲသူဆိုတာ ပြတိုက်ထဲက အဆင့် သာသာလောက်ရှိ၏။ ဒီကြားထဲ မီးကလည်း အဆင်မပြေ။ တစ်ရက်လုံး မီးလာသော်လည်း မီးတစ်ယူနစ် (၄၆၀)ကျပ်ဆိုကာ အင်တာနက်ဆိုင် တည်ထောင်သူများလည်း အင်တာနက်သုံးခကို တိုးမြှင့်ကောက်ခံသည်မှာ အဆန်းမဟုတ်တော့ပေ။ အရာရာ စရိတ်စခ ကြီးမြင့်သော ပတ်ဝန်းကျင်တွင် နေရသော လူခါးအတွက်တော့ မထူးတော့ပေ။ လူခါးတို့ ပတ်ဝန်းကျင်တွင် လူခါးက သတင်းဖြန့်ဝေသူတစ်ဦး အလိုလို ဖြစ်နေတော့သည်။

လူခါးဘဝတွင် မိသားစုအရေးသည် ပထမဖြစ်၏။ လူခါးတို့ မိသားစုသည် ချမ်းသာသည့် မိသားစုမဟုတ်သော်လည်း အဆင်းရဲကြီး မိသားစုမဟုတ်။ ခါးမလှသော်လည်း ဝမ်းဝသည့်အဆင့်လောက်သာ။ လူခါး၏ဖခင်ကား လူခါး လူမမည်အရွယ်ကတည်းက လူ့လောကက ထွက်ခွာသွားသည်။ လောကဓံကို အသက်အရွယ်ငယ်ငယ်ကတည်းပင်



မိခင်နှင့်အတူ ခါးစည်းခံလာသူ။ လူခါးတို့ဘဝတွင် ဝမ်းရေးအတွက် ဇနီးက သူပိုင် လက်ဝတ်လက်စားများကို ထုခွဲရောင်းချပြီး ဈေးဆိုင်လေး ရောင်းကာ ဝမ်းမီးအတွက် ကြိုးပမ်းရရှာသည်။ လူခါးတော့ ကျဘန်း၊ ဟိုယောင်ယောင်၊ ဒီယောင်ယောင်အဆင့်လောက်သာ။ ကျောင်းပြီး ကတည်းက အလုပ်မရှိ။ အလုပ်ရှားပါးသော ဒီအရပ် ဒီဒေသတွင် အလုပ်တစ်ခုရဖို့ဆိုသည်က လွယ်ကူသည့် ကိစ္စတော့မဟုတ်။ တစ်ခါ တလေ ကိုကြီးထွန်းတို့နှင့် ပေါင်းပြီး ကုန်ဝယ်၊ ကုန်ရောင်း လုပ်တတ်သည်။

ရခိုင်ဒေသ၏ ခေတ်ရေစီးကြောင်းအတိုင်း နိုင်ငံခြားကို စိတ်ကူးယဉ်နေသူ။ ပြည်ပကို ထွက်ပြီးစီးပွားရှာချင်သူ။ ဒီအရပ်၊ ဒီဒေသမှာ တစ်နှစ်လုံး လယ်ငါးလုပ်ရင်တောင်မှ စပါးတောင်း (၂၀၀)လောက်ပဲ ရတာ။ ငွေအားဖြင့်ဆိုရင် (၂)သိန်းကျပ်လောက်သာ။ လူငယ်တိုင်း၏ စိတ်ကူးယဉ်အိပ်မက်သည် နိုင်ငံခြားထွက် ငွေရှာခြင်း မဟုတ်လော။ လူခါးလည်း လူငယ်ပဲ။ နိုင်ငံခြားကို ရှူးသွပ်တာပေါ့။ လူခါးဘဝတွင် လွှမ်းလောက်စရာမရှိ။ လွှမ်းလောက်စရာဆိုလို့ ချစ်စရာ ချစ်သမီးနှင့် ဇနီးလောက်သာရှိပြီး မွေးသမိခင်လောက်ပင် ဖြစ်လိမ့်မည်။ ထိုထက် မပိုဘူးလားဆိုလာလျှင် လူခါးပတ်ဝန်းကျင် အပေါင်းအသင်းနှင့် ဒီမြေ ပင်ဖြစ်လိမ့်မည်။ သို့သော် ဒီမိသားစု၊ ဒီပတ်ဝန်းကျင်၊ ဒီမြေကို ခွဲခွာပြီး ရွေခြား မြေခြားကို သွားမည်ဆိုလျှင်လည်း လူခါး မလုပ်ရဲ။

*****

## (၄)

"သမိုင်းသည် စက်ရဟတ်ကဲ့သို့ တစ်ပတ်လည်တတ်သည်"ဟု လူခါး လေ့လာဖူးခဲ့သည်။ "ဂျူးလူမျိုးများသည် သူတို့၏ အစ္စရေးမြေကို အသက်ထက်မက ချစ်၏။ ဂျူးတို့၏ အသက်သွေးတို့သည် အစ္စရေးမြေမှုန့်တို့ဖြင့် တည်ဆောက်ထား၏။"ဟုလည်း ဖတ်ခဲ့ဖူးသည်။ လူခါး အိပ်ရာထဲတွင် လူးလိမ့်ရင်း အိပ်မပျော်ဘဲ တွေးကြည့်နေမိသည်။ လူခါး ဘဝတွင် ခါးသီးသည့် ဘဝဒဏ်ကိုလည်း ခံခဲ့ဖူးပြီ။ သို့သော် ဒီတစ်ခါလောက် တစ်ခါမှ လေးလေးနက်နက် မစဉ်းစားမိခဲ့ဖူး။

၂၀၁၀ ခုနှစ် ဩဂုတ်လထဲတွင် ဘီဘီစီသတင်းဌာနက ပစိဖိတ်ရေးရာဌာနမှ အန်နာဂျီဆိုသည့် အမျိုးသမီးက မြန်မာနိုင်ငံ လူမျိုး (၁၃၅)မျိုးတွင် မပါဝင်သည့် ရိုဟင်ဂျာဆိုသည့် လူမျိုးကို မြန်မာနိုင်ငံ၏ မြေပုံ၊ ရခိုင်နေရာတွင် ထည့်သွင်းဖော်ပြခဲ့သည်။ ထိုအချက်ကို ရခိုင်လူမျိုးများသာမက တခြားတိုင်းရင်းသားများလည်း ကန့်ကွက်ခဲ့ကြသည်။ ဒီမတိုင်ခင်ကလည်း လေ့ပြေးဒုက္ခသည်ဆိုသော အသုံးအနှုန်းသစ်တို့ဖြင့် မုသားဝါဒီများက အသံလွှင့်ဌာနဖြစ်လို့နေမှန်းကို လူခါးတို့ မသိခဲ့။



ထိုအချိန်တုန်းက အင်တာနက်ကွန်ယက်သည်လည်း ယနေ့အချိန်အခါလောက်ထိ မကျယ်ပြန့်သေး။ ဒီသတင်းသည် နိုင်ငံတကာထိ ပြန့်နှံ့သွားပြီး ထိုင်း၊ မလေးရှား၊ အမေရိကန်၊ နယူးဇီလန်၊ ဩစတြေးလျစသည့်နိုင်ငံများတွင် ဆန္ဒပြကန့်ကွက်မှုများ ရှိခဲ့သည်ကို လူခါး ဖတ်ဖူးလိုက်သည်။ ရခိုင်ပြည်နယ်ထဲတွင် လက်မှတ်ထိုးပြီး ဘီဘီစီသတင်းဌာနအား ကန့်ကွက်မှုပြုကြသည့်အခါ လူခါးလည်း လက်မှတ်ရေးထိုးပေးခဲ့ဖူးပါသည်။

နောက်တစ်ဖန် လူခါးဘဝတွင် တက္ကသိုလ်ကျောင်းသားဘဝလောက်တုန်းက ခုနှစ်အားဖြင့် ၂၀၀၁ ခုနှစ် ဖေဖဝါရီ(၄)တွင် ကုလား-ရခိုင် အရေးအခင်းတစ်ခုကိုလည်း ကောင်းကောင်း မီလိုက်၊ တွေ့ဖူးလိုက်သည်။ စစ်တွေမြို့၏ မြို့တော်ခန်းမ (ယခု ပြည်နယ်လွှတ်တော်ရုံး)တွင် ကုန်စည်ပြပွဲနှင့် ဈေးရောင်းပွဲတော် ကျင်းပသောအခါလည်း ဘင်္ဂလီကုလားများမှ ဈေးဝယ်လာသည့် ရခိုင်မလေးများအား မဖွယ်မရာလုပ်မှုကို ရဟန်းတော်များ ဟန့်တားရာမှ ရုန်းရင်းဆန်ခတ်ဖြစ်ပြီး အကြမ်းဖက်မှုများဖြစ်ခဲ့သည်ကို မျက်မြင်ကိုယ်တွေ့ တွေ့ခဲ့ဖူးသည်။ ၎င်းအခင်းဖြစ်စဉ်က မီးလောင်မြင်ကွင်းသည် မင်းဘာကြီးလမ်းမပေါ်တွင် သွားတိုင်း လာတိုင်းတွေ့မြင်နေရသည်။ ဒီလို အကြမ်းဖက်မှု ၊ လူအုပ်တို့ဖြင့် အပြန်အလှန်တိုက်ခိုက်မှုတို့ကို ဗွီဒီယို၊ ရုပ်ရှင်ကားထဲတွင်သာ ရှိခဲ့သည်ဟု ထင်မိခဲ့သော်လည်း တကယ်အပြင်တွင် ကိုယ်တွေ့ကြုံခဲ့ဖူးမှ လူခါး ရင်တုန်မိခဲ့သည်။

ဒီမတိုင်ခင်ကလည်း မေယုခရိုင်၊ မယူကမ်းဒေသမှ ဘင်္ဂလီကုလားတွေအကြမ်းဖက်လို့ ပြည်မထဲကို ထွက်ပြေးလာတဲ့ လူခါးတို့ ဦးလေး၊ ဦးလေးစံလှတို့ပြောသံတွေကိုလည်း လူခါး နားထဲ ကြားယောင်ဆဲပါ။

"မယူကမ်းအရေးအခင်းတုန်းက ငါက လူမမည်ကလေးပဲ ရှိသေးတယ်။ ငါ့အဖေက ငါ့ကို ကုန်းပိုးပြီး ထွက်ပြေးရတာပေါ့ကွ။ ငါဆိုရင် ငါ့အဖေကို အဖေရယ်သားကို မထားခဲ့ပါနဲ့၊ အဖေနဲ့အတူလိုက်ပါရစေ

ဆိုပြီး နောက်က အော်ငိုပြီး လိုက်လာခဲ့ရတာ၊ ငါအမေတော့ ပြေးလို့ မရောက်လို့ ငါ့အဖွားနဲ့ အတူကျန်ခဲ့တာ အခုထိတိုင် အမေကို ရှာမတွေ့ တော့ဘူး။ လမ်းမှာလည်း ထမင်းနှစ်ရက်လောက် ငတ်ခဲ့ရတယ်"
လို့ ဆို့နင့်စွာ ပြောခဲ့သော ဦးလေးစကားက အတွေးထဲကကို မထွက်။ နားထဲတွင် ယခုထက်တိုင် ကြားယောင်နေမိသည်။

ပြုန်းခနဲ့ဆို လူခါး ဘေးနားတွင် အိပ်နေသော သမီးလေးနှင့် ဇနီးအား စမ်းကြည့်လိုက်သည်။ လူခါး သက်ပြင်းတစ်ချက် မှုတ်ထုတ် လိုက်၏။

"အော် . . ငါ အတွေးလွန်နေတာကိုး"
လို့ စိတ်မှာ တွေးပြီး ညတစ်ညကို မျက်လုံးအတင်းမှိတ်ပြီး အိပ်ပျော် လိုက်ရသည်။ အိမ်ပြင်ဖက်တွင်တော့ ဇွန်လ၏ မိုးဖွေးဖွေးတွေက လောကကို အအေးဓာတ်ပေးလျက် ဘာမှ မသိလိုပင်။ သဘာဝတရား ကြီးက ပတ်ဝန်းကျင်တစ်ခုလုံးကို အိပ်မွေ့ချထားသလိုပင်။ လျှပ်စီး လက်သံ၊ မိုးခြိမ်းသံတို့ကလွဲပြီး တခြားဘာအသံမှ မကြားရတော့။

နောက် ဘာဖြစ်လာမည်ကို သိနေသည့် ညမင်းကြီးလိုပင်။ ပတ်ဝန်းကျင်တစ်ခုလုံးသည် အိပ်မောကျနေလေတော့သည်။

*×*×*

(၇)

၆. ၆. ၂၀၁၂ ရက် ညဦးပိုင်းတွင် စစ်တွေမြို့၌ ကောလဟလ သတင်းတစ်ခုကြောင့် မြို့ကလေးသည် ရှုပ်ယှက်ခတ်လျက်ရှိသည်။ ဖြစ်စဉ်ကို လူခါး နားစွင့်ကြည့်မိသည်။ မသဲကွဲ။ ကုန်တန်းရပ်ကွက်နှင့် အောင်မင်္ဂလာရပ်ကွက် (အင်ပါလာ)တွင် လူတစ်ဦးအသတ်ခံရသည်ဟု သတင်းထွက်နေသည်။ မယကရုံးကလိုလို၊ ထွေ/အုပ်ရုံးကလိုလို သတင်း ဖြစ်နေသည်။ သေချာတာတစ်ခုကတော့ ထိုနေ့ညဥ့်က စစ်တွေမြို့နယ် ဥပဒေရုံးမှ ဝန်ထမ်းတစ်ဦး အောင်မင်္ဂလာရပ်ကွက်ထဲသို့ ဗိုက်ဆာသည် ဆိုပြီး ကဘား(ခေါက်ဆွဲနှင့် ထမင်းရောကြော်)ဆိုင်သို့ သွားသည်။ ၎င်းကို မြင်သော ဘင်္ဂလီများမှ ဝိုင်းရိုက်ရာ တက်သုတ်ရိုက်ပြီး ထွက်ပြေးလာခဲ့ရ သည်ဟု အနီးအနားက မျက်မြင်လူတစ်ဦးက ပြောပြသည်။ ထိုသူမှာ ဒဏ်ရာပြင်းထန်သောကြောင့် စစ်တွေမြို့၊ ပြည်သူ့ဆေးရုံးကြီးတွင် ဆေးကုသခဲ့ရကြောင့် သူငယ်ချင်း ဆရာဝန်က အတည်ပြုပေးခဲ့သည်။ သို့သော်လည်း ဤသတင်းသည် မြို့ထဲတွင် အမျိုးမျိုးပျံ့လွင့်နေသည်။

လူတို့သည် စိုးရိမ်ကြောင့်ကြစိတ်များကြောင့် မိမိတို့ ပတ်ဝန်းကျင် လုံခြုံရေးအတွက် မိမိတို့ ကိုယ်ထူကိုယ်ထ ကင်းစောင့်သည့် အဖွဲ့ကလေး များဖြင့် မြို့ကလေးမှာ အလုပ်ရှုပ်နေတော့သည်။

ထို့နေ့ညဥ့်အချိန်တွင်ပင် စက်ရုံစုရပ်ကွက်(နာဇီရွာ)ထဲ၌ ဘင်္ဂလီကုလားများ ညာသံပေးသည်ဟု အနီးအနား ဝန်းကျင်ရပ်ကွက်များမှ လုံခြုံရေးများကို တိုင်ကြားသောကြောင့် လုံခြုံရေးများက သွားရောက်ထိန်းသိမ်းခဲ့ရကြောင်းကိုလည်း လူခါးသိရှိခဲ့ရသည်။

ဤဒေသ ဤအရပ်တွင် ခိုင်မာစွာ ထွက်ပေါ်လာသည့် သတင်းဟူ၍ မည်မည်ရရမရှိ။ သတင်းတစ်ခုဖြစ်လာလျှင် အတည်ပြုပေးမည့်သူလည်းမရှိသလို သွားရောက်မေးမြန်းနိုင်သည့်နေရာလည်း မရှိပေ။ ခိုင်မာသည့် သတင်းနှင့် ပြန်ကြားရေး မရှိသောကြောင့် တစ်ဆင့်စကားတစ်ဆင့်နားဖြင့် သတင်းရယူရလေသည်။ သတင်းတို့သည်လည်း အမျိုးမျိုး။ ခဏနေလျှင် မင်းဂံရပ်ကွက်တွင် ဘင်္ဂလီကုလားများ ဝင်လာသည်ဆိုသည့်သတင်းကို မင်းဂံရပ်ကွက်ကို ဖုန်းဆက်မေးမြန်တော့လည်း မဟုတ်ဟု ဆိုသည်။ မည်သူက သတင်းလွှင့်လို့ လွှင့်မှန်းမသိ။ ကောလာဟလ သတင်းဟင်းပေါင်းအိုးကြီးထဲ ရခိုင်လူထုကို ပစ်ချခံထားရသလိုမျိုး ဖြစ်နေသည်။ အတည်မဟုတ်သော်လည်း မျက်ကွယ်ပြု၍တော့မရ။ ဖြစ်သမျှ သတင်းကို နားစွင့်နေရသည်။ လူခါးတို့ရပ်ကွက်တွင်လည်း ညကင်းစောင့်မည့်သူများကို ဆော်ဩလျက်ရှိရာ လူခါးလည်း ကင်းစောင့်မည့် လူစာရင်းထဲတွင် ရောထည့်လိုက်သည်။

ဇွန်လ၏ မိုးရေထဲတွင် အုံဖွဲ့လာသော ခြင်များကို အန်တုရင်းကင်းရုံးကလေးတွင် ရှေးဟောင်းနှောင်းဖြစ် ရခိုင်သမိုင်းများကို တူးဖော်ဆွေးနွေးနေကြသည်။ လူသည် သမိုင်းကို သိရမည်။ သမိုင်းကို သိလေမျိုးကိုချစ်လေဟု လူခါးကြားဖူးသည်။ မြန်မာတွေ မအရအောင် သမိုင်းကို သင်ရမယ်လို့ သမိုင်းပါမောက္ခ ဒေါက်တာသန်းထွန်းပြောဖူးသည်။ ဟုတ်ပေသည်။ ရခိုင်သမိုင်းကို ရှာဖွေလေ သမိုင်းကို တွေ့လေ၊ ဇာတိသွေး၊ ဇာတိမာန် တက်ကြွလေ၊ အမျိုးကို ချစ်လေဖြစ်သည်။

လူခါးလည်း သိသလောက် လေ့လာဖူးသလောက်ဖြင့် သမိုင်းကို ချဉ်းကပ်နည်းကို ပြောပြနေမိသည်။ သမိုင်းစာပေကို လေ့လာမည်ဆိုရင်

(၁) အာဂမယုတ္တိ = ကျမ်းဂန်အကိုးအကားနှင့် ညီညွတ်ရမည်



(၂) သဘာဝယုတ္တိ = သိပ္ပံ လက်တွေ့နှင့်လည်း ညီညွတ်ရမည်

(၃) သာဓကယုတ္တိ = ထင်ရှားသော သက်သေပြချက်များ၊ အထောက်အထားများရှိရမည်

(၄) ကာရဏယုတ္တိ = အကြောင်းအကျိုး၊ ဆက်စပ်မှန်ကန်ရမည်

ဟု ပညာရှင်တွေက စံသတ်မှတ်ထားချက်ရှိသည်။ အဲဒီခိုင်းနှိုင်းချက်များဖြင့် ရခိုင်ကို စတင်ခဲ့သည့် မာရယုမင်းမှသည် ဓညဝတီ၊ ဝေသာလီ၊ လေးမြို့၊ မြောက်ဦးခေတ်များအကြောင်းကို တူးဆွပြောပြပြီး မနက်မိုးလင်းအောင်ထိ အိပ်ချင်စိတ်ကို ဖြေဖျောက်နိုင်ဖို့အတွက် ကုစားခဲ့ရသည်။ သို့သော် နားထောင်သူက နားထောင်ဖြင့် အိပ်သူကလည်း အိပ်ပျော်လျက် ကင်းရုံးကလေး၏ ဗဟုသုတ ဟင်းပေါင်းအိုးကြီးထဲတွင် လူခါးတော့ ရောသမမွှေခဲ့ရလေတော့သည်။

*×*×*

## (၈)

၈. ၆. ၂၀၁၂ ရက် သောကြာနေ့သည် ပတ်ဝန်းကျင်တစ်ခုလုံး အပ်ကျသံကြားရလောက်အောင် တိတ်ဆိတ်လျက်ရှိသည်။ တစ်ခုခု ထူးခြားလိမ့်မည်ဟု လူခါးစိတ်ထဲတွင် လူ့သဘော လူ့မနောအရ အလိုလို သိနေသလိုပင်။ ရခိုင်သမိုင်းတွင် အမည်းစက်ထင်မည့်နေ့လို့ လူခါး မသိခဲ့တာ အမှန်ပင်။ လူခါးသည် အင်တာနက်ပေါ်မှာ တက်လာသမျှ သတင်းများကို တောက်လျှောက်လိုက်ဖတ်နေမိသည်။ သတင်းများတွင်

"ရခိုင်ပြည်နယ်၊ ရမ်းဗြဲမြို့နယ် ကျောက်နီမော်ကျေးရွာမှ မသီတာထွေးအား မုဒိမ်းကျင့်၊ သတ်ဖြတ်၊ လုယက်မှုပြုလုပ်သူ တရားခံ ဘင်္ဂါလီ (၃)ဦး အား ကျောက်နီမော်ရဲစခန်းမှ (ပ) ၂၃/၂၀၁၂၊ ပြစ်မှုပုဒ်မ ၃၀၂/ ၃၇၆/ ၃၉၂ ဖြင့် ဇွန် ၈ ရက် နံနက် ၉ နာရီခန့်တွင် ကျောက်ဖြူခရိုင်တရားရုံးသို့တရားစွဲဆိုရာ ခရိုင်တရားရုံးမှ ရာကြီးအမှတ် ၁၄/၂၀၁၂ ဖြင့် လက်ခံစစ်ဆေးခဲ့ကြောင်း နိုင်ငံပိုင်ရုပ်သံ မီဒီယာများတွင် ထုတ်ပြန်လိုက်သည်"ဟု ဖတ်ရသည်။ ဤသတင်းသည် လူခါးတို့



ပတ်ဝန်းကျင်တွင် စိတ်ဝင်စားစရာအဖြစ်ဆုံး သတင်းဖြစ်သည်။ လူခါး အင်တာနက်ဆိုင်မှ ထွက်လာလိုက်သည်နှင့် လမ်းပေါ်တွင် အသိမိတ်ဆွေ များမှ အခြေအနေကို ပါးစပ်ဖြင့် မေးမြန်းသူက တစ်မျိုး၊ ကိုယ်အမူရာဖြင့် မေးသူက တစ်မျိုး၊ နီးစပ်ရာ တစ်ဆင့်စကား တစ်ဆင့်နားဖြင့် ပြောနေ သူတို့ဖြင့် နံနက်ပိုင်းကလေးသည် အလုပ်ရှုပ်နေလေ၏။

မနက်စာ ထမင်းစားပြီး မွေးကနဲအိပ်ပျော်သွားသည်။ နေ့လယ် (၁)နာရီ (၁၅)မိနစ်လောက်တွင် ဖုန်းသည် ကျယ်လောင်စွာ ဝင်လာသည်။ ဖုန်းကို ကောက်ကိုင်ကြည့်လိုက်သောအခါ မြန်မာနိုင်ငံ၏ အနောက်ဘက် တံခါးဖြစ်သော မောင်တောမြို့မှ မိတ်ဆွေ ဝင်းမြင့်၏ ဖုန်းဖြစ်နေသည်။

"ဟလို . . ပြောပါ ကိုဝင်းမြင့်"

"ပြောလို့မရတော့ဘူးဗျာ၊ ဒီမှာ ကုလားတွေ ဆော်နေပြီ။ ရခိုင်အိမ် တွေကို မီးရှို့နေပြီ. . ."

"ဟလို ဟလို. . ."

တူတူမြည်ပြီး ဖုန်းကျသွားသည်။ လူခါး ဆက်ခေါ်ကြည့်သည်။ ဖုန်းလိုင်းက မရတော့။ အရေးကြီးလာလျှင် ဖုန်းလိုင်းက ကျပ်နေကျ။

ကိုဝင်းမြင့်ကို ဖုန်းခေါ်လို့မရတော့ တခြားနီးစပ်ရာ ဖုန်းများကို ရှာကြည့်ပြီး လှမ်းခေါ်ကြည့်သည်။ မောင်တောမြို့ယူနစ်တက် (United) တည်းခိုခန်းပိုင်ရှင် ဦးစံရွှေ ဖုန်းကို ရှာတွေ့တော လှမ်းခေါ်ကြည့်လိုက် သည်။ ကံကောင်းချင်တော့ ဖုန်းက တန်းဝင်သွားသည်။

"ဟလို ဦးစံရွှေ၊ ဟလို ယူနစ်တက်ကလား၊ ကျနော် လူခါးပါ၊ မောင်တောက အခြေအနေကို သိချင်လိုပါ"လို့ ဒဲ့လှမ်းမေးလိုက်သည်။

"အဲ . . အဲ. . ခဏကိုင်ထား"

"(၁) နာရီ (၁၅)မိနစ်လောက်မှာ ဆုတောင်းပွဲက အပြန်မှာ ဖြစ်တာ။ လူအုပ်ကြီးကများတော့လည်း သွေးကြွလာတယ် ထင်ပါတယ်။ အဲဒါနဲ့ ကုလားတွေ လမ်းကနေပြီးတော့မှ အုတ်ခဲတွေ၊ ခဲတွေနဲ့ ပထမ United တည်းခိုခန်းကို စပြီးတော့ ခဲနဲ့ပစ်တာပေါ့။ ပြီးတာနဲ့ တည်းခိုခန်း ပိုင်ရှင်အိမ်ကို ထုတယ်။ လူအုပ်က များလာတော့ လမ်းမှာအပြည့်

ပေါ့လေ။ ကျနော်တို့အိမ်ရော တစ်ဆက်တည်းဆိုတော့ အိမ်ရော ပါသွားတာပေါ့။ အဲဒီကမှတစ်ဆင့် ဒီဘက် ဗိုလ်မှူးရွာမှာ ဒီဘက်က သဇင်တည်းခိုခန်းကို မီးရှို့တယ်။ ပြီးတာနဲ့ ဘေးနားကအိမ်ကို ဖျက်ဆီးတယ်။ နောက်ပြီးတော့ ဗိုလ်မှူးရွာအတွင်းမှာရှိတဲ့အိမ် ၇ လုံးလောက် မီးရှို့ပစ်တယ်။ အခြေအနေကတော့ ဆိုးရွားနေတယ်”ဟု လှမ်းဖြေပြီး ဖုန်းချသွားသည်။

လူခါးလည်း အံ့သြတုန်လှုပ်ပြီးကျန်ခဲ့သည်။ ဒီမတိုင်ခင် မနက်က မောင်တောမြို့နှင့် တခြား မြန်မာပြည်မြို့များရှိ ဗလီများတွင် တောင်ကုတ်မြို့၌ ဆုံးပါးသွားသော ဘင်္ဂလီ(၁၀)ဦးအတွက် ဆုတောင်းပွဲများရှိသည်ဟု သတင်းသဲ့သဲ့ကလေးတော့ ကြားမိသည်။ ဒီလောက်ထိတော့ မထင်ထားမိ။ ပြက္ခဒိန်ကို လှန်လှော၍ကြည့်မိသောအခါ ၈-၆-၂၀၁၂ သောကြာနေ့၊ ဘာသာရေးနေ့။ ဘာသာရေးကျောင်းတွင် ဘာသာရေးထုံးတမ်းစဉ်လာအရ ဆုတောင်းပွဲပြုလုပ်သူတွေက ဒီလိုအကြမ်းဖက်လိမ့်မယ်လို့ လူခါး ထင်မထားခဲ့တာ အမှန်ပင်။ လူခါးသည် စစ်တွေမြို့တွင် ကိုယ်နှင့်နီးစပ်ရာကို ဖုန်းလှမ်းဆက်ကြည့်သည်။ အရင်ဆုံး ကိုကြီးသိန်း ဖုန်းကို ခေါ်လိုက်သည်။

“ကိုကြီးသိန်း မောင်တောသတင်း ကြားမိလား”

“အဲ. . ဒီဘက်ကို ထွက်လာခဲ့။ ဒီမှာ သတင်းပိုစုံတယ်။ ငါတို့အခု မောင်တောကို ဖုန်း(၁၀)လုံးလောက်နဲ့ တောက်လျှောက် ဖုန်းခေါ်ပြီး မှတ်တမ်းတင်နေတယ်။ အခြေအနေကိုလည်း စောင့်ကြည့်နေတယ်” လို့ ပြောသည်။ လူခါးလည်း ဆိုင်ကယ်ကိုထုတ် ဖုန်းကိုယူရင်း အပြင်းထွက်လာခဲ့သည်။

လမ်းပေါ်တွင် လူများ လောလောဖြင့် ဈေးဆိုင်များလည်း ပိတ်နေကြပြီ။ မနက်ကတည်းက ဘင်္ဂလီကုလားများသည် ဈေးဆိုင်များကို ပိတ်ထားခဲ့ကြသည်။ ရခိုင်တို့သည် သောကြာနေ့ဖြစ်သောကြောင့် ဘင်္ဂလီကုလားတို့ ဘာသာရေးအရ ဗလီတက်ကြမည်ဟု ထင်မှတ်ထားခဲ့ကြသော်လည်း အမှန်တကယ်တမ်းတွင် ထင်မြင်ချက်နဲ့အများကြီး



ကွဲလွဲနေခဲ့ကြသည်။ ခါတိုင်း ဖြစ်နေကျ နိစ္စဓူဝထက် ကွဲလွဲနေသည်ကို သတိမထားမိခဲ့ကြပေ။ လူခါးလည်း ဆိုင်ကယ်ကို သတိထားမောင်းရင်း စစ်တွေမြို့ လမ်းမကြီးအတိုင်း ဗလီကြီးနားက ဖြတ်မောင်းလာခဲ့သည်။ လမ်းပေါ်တွင် ဗလီကြီးကို မော့ကြည့်ရင်း ယဉ်ကျေးမှုပြတိုက်ကို ကျော်လွန်လာခဲ့တော့သည်။ ဆိုင်ကယ်မောင်းနေစဉ် ဖုန်းသည် အဆက်မပြတ် ဝင်လာနေသည်ကို လူခါး မကိုင်အား။ စစ်တွေမြို့၏ လမ်းမကြီးကား ခါတိုင်းနေ့တွေထက် လူရှုပ်နေသဖြင့် လူခါး သတိကြီးစွာ မောင်းနေရသည်။ ပတ်ဝန်းကျင်တစ်ခုလုံးတွင်လည်း ဖုန်းခေါ်သံ၊ ဖုန်းစကားပြောသံ၊ အော်သံ၊ ငိုသံတို့ဖြင့် လောကငရဲကို အရှင်လတ်လတ် ရောက်နေရသလို မျိုးပင် ဖြစ်နေလေတော့သည်။

*×*×*

## (၉)

### ၈. ၆. ၂၀၁၂ ရက်
### နေ့လယ် (၁) နာရီ (၂၀)မိနစ် ပတ်ဝန်းကျင်

လူခါးသည် ဆိုင်ကယ်ကို လမ်းကြောင်းပြောင်းလိုက်သည်။ စစ်တွေမြို့ရဲ့ မြို့မဈေးကြီးဘက်သို့ ဦးတည်လိုက်သည်။ မြို့မဈေးအခြေအနေ ကို သုံးသပ်ရန်နှင့် တခြားထူးခြားချက်များရှိလျှင် သိရအောင်လို့ ဖြစ်သည်။ မြို့ထဲရှိ ဖုန်းများမှာ စက္ကန့်မလပ် အလုပ်ရှုပ်နေသကဲ့သို့ မြို့ထဲရှိ ဆိုးရွားသော လမ်းမများကိုလည်း ကွေ့ကွင်းရှောင်ရှားပြီး ဆိုင်ကယ်ကို သတိကြီးစွာဖြင့် မောင်းနေရသည်။ မြို့မဈေးထဲတွင်လည်း လူတိုင်းသည် ပျားပန်းခပ်မျှ အလုပ်ရှုပ်နေ၏။ အထုပ်ပိုးသူ၊ ဆိုင်ပိတ်သူ၊ ပစ္စည်းများကို ပခုံးပေါ်ထမ်းနေသူ၊ တွန်းလှည်းတို့ဖြင့် ပြောင်းရွှေ့နေသူတို့ကို ပုံစံမျိုးစုံဖြင့်တွေ့နေရသည်။ လူခါးအနီးမှ ဖြတ်သွားသူတစ်ဦးက

"ထမ်းနိုင်ရဲ့လား၊ မြန်မြန်လုပ်စမ်းပါ၊ မြန်မြန်သွား"

လို့ လှမ်းပြောပြီး သုတ်သုတ်ဖြင့် ထွက်သွားသည်။ နာရီကို တစ်ချက်ကြည့်လိုက်သည်။ အချိန်အားဖြင့် နေ့လယ် (၁း၂၀)မိနစ်လောက်ပဲ ရှိသည်။ ဆိုင်အားလုံးကို ပိတ်လိုက်ပြီ။ လူခါး ရောက်သွားချိန်တွင် ဈေးတံခါးမကြီးတောင် ပိတ်နေပြီ။ ဈေးပြင်ဘက် လမ်းမတွင် အလုပ်ရှုပ်နေကြသော ဈေးသူ၊ ဈေးသားများဖြင့် နောက်လာမည့် နိမိတ်ပုံများကို



ပုံဖော်နေလေတော့သည်။ ရခိုင်ပြည်သူများ၏ ကံကြမ္မာကို ဖန်ဆင်းဖို့ အတွက် ကြမ္မာနတ်ဆိုးသည် အမျိုးမျိုးသော ကကြိုးတို့ကို တန်ဆာဆင်ရင်း လူခါးတို့ပတ်ဝန်းကျင်တွင် အလုပ်ရှုပ်နေလေရဲ့။

လူခါးသည် ကမ်းနားလမ်းတွင်ရှိသော လေညင်းသာဖက်ကို ဖြတ်မောင်းလိုက်သည်။ ကမ်းနားလမ်းမပေါ်တွင် ဆိုင်ကယ်၊ ဆိုက္ကား၊ တွန်းလှည်း၊ စက်ဘီး၊ သုံးဘီးဆိုင်ကယ်၊ ကားတို့ဖြင့် လမ်းကျပ်နေသည်။ သတိထားပြီး ဆိုင်ကယ်ကို မောင်းထွက်လာသည်။

"မလာသေးဘူးလား။ ဒီမှာ မင်းကို စောင့်နေကြတယ်။ အမြန်လာခဲ့"

ဟု ကိုကြီးသိန်းက ဖုန်းလှမ်းဆက်သည်။

"ဟုတ်ကဲ့ ကိုကြီးသိန်းလာနေပြီ၊ ကျနော် လမ်းမှာပဲ၊ လမ်းကျပ်နေလို့"

ဟု လှမ်းဖြေလိုက်သည်။ လေညှင်းသာသို့ ဖြတ်မောင်းလာသောအခါ လေညှင်းသာတွင် ခါတိုင်းလိုသက်ကြီးပိုင်းတွေ မတွေ့ရတော့ဘူး။ ခါတိုင်းဆိုလျှင် လေညှင်းသာတွင် သက်ကြီးပိုင်း၊ လူလတ်ပိုင်း အရွယ်တို့သည် ဟိုအကြောင်း ဒီအကြောင်းပြောရင်းနဲ့ အပန်းဖြေအနားယူသောနေရာကလေးကား တိတ်ဆိတ်ခဲ့လေပြီ။ ယနေ့ကား အင်းပေါက်ဝ ကစ္ဆပနဒီမြစ်ကို ဖြတ်ကျော်တိုက်ခတ်လာသော လေညှင်းကလေးသည် လူခါးတို့ အတွက် အအေးဓာတ်ကို မပေးနိုင်တော့ပေ။

လူခါး ဆိုင်ကယ်အနီးမှ လုံခြုံရေးကား (၃)စီး ဖြတ်မောင်းသွားသည်။ သူတို့က သဘော်ဆိပ်ဘက်ကို မောင်းသွားသည်။ မောင်တောမြို့ သို့ လုံခြုံရေးယူရန်သွားသည်ဟု ထင်မှတ်လိုက်သည်။ မဟုတ်ရင် သဘော် ဆိပ်ဘက်ကို သွားစရာမရှိ။ လုံခြုံရေးတို့ မျက်နှာပေါ်တွင်လည်း ညှိုးငယ်ရိပ်တို့ဖြင့် ကားပေါ်တွင် တိတ်ဆိတ်ပြီး ပါသွားလေသည်။ လူခါး ပတ်ဝန်းကျင်ကို တစ်ချက်လောက် ချိုးကြည့်လိုက်သည်။ မြို့ထဲလမ်းများတွင် လုံခြုံရေးတို့သည် ဟိုနားတစ်ယောက် ဒီနားတစ်ယောက် လက်နက်ကိုယ်စီဖြင့် ကင်းယူထားသည်ကို တွေ့ရသည်။

လူခါးသည် တောင်ညိုတောင်တန်းများကို ဖြတ်ပြီး ကစ္ဆပနဒီမြစ်ကို မေးတင်ကာ ဖြတ်ကျော်လာသော လေကို ဝအောင် ရှူသွင်းလိုက်၏။ သို့သော် အသက်ရှူကား မဝပေ။ တစ်ခုခု မွန်းကြပ်နေသလို။ လေကို အပြင်းမှုတ်ထုတ်လိုက်၏။ စိတ်တို့က ဂယောင်ချောက်ချားဖြင့် ဆိုင်ကယ်ကို ထိန်းပြီး ဘောက်သီးစုရပ်ကွက်တွင်ရှိသော ကိုကြီးသိန်းတို့အိမ်ဆီကို မောင်းလာခဲ့သည်။

ကိုကြီးသိန်းအိမ်ရှေ့တွင် ဆိုင်ကယ် (၁၀)စီးလောက်ရှိသည်။ ဆိုင်ကယ်ကို ကိုကြီးသိန်းအိမ်ရှေ့တွင် ရပ်လိုက်သည်။ ပြီး အပေါ်ထပ်ကို တက်လာလိုက်သည်။ အပေါ်ထပ်တွင် စာပွဲဝိုင်းတစ်ခုပေါ်တွင် ရေနွေးဓာတ်ဗူးတစ်လုံး၊ ခွက် လေးငါးခြောက်ခွက်လောက် အားလုံး လူ(၁၅)ယောက်လောက်ရှိမည်။ စာရွက်စာတမ်းများလည်း ပြန့်ကျဲနေသည်။ အားလုံးအလုပ်ရှုပ်နေကြသည်။ လူတိုင်း လက်ထဲတွင် ဖုန်းကိုယ်စီဖြင့်။ ကိုကြီးသိန်း၊ ဆရာသိန်း၊ ကိုကြီးထွန်း၊ ကောင်းဇံ၊ စံရွှေ၊ ဇော်ထွန်း၊ သန်းလှိုင်တို့အပြင် မျက်မှန်းတန်းသိနေပြီး နာမည်မသိသောသူ(၈)ဦး အားလုံး အလုပ်ရှုပ်နေကြသည်။ ဆရာသိန်းသည် လူခါးကို တစ်ချက်လောက် ငဲ့ကြည့်လိုက်ပြီး နာမည်ကို မသိသော လူ(၅)ဦးအား

"မင်းတို့ မြို့ထဲကိုသွား၊ တစ်ယောက်တစ်နေရာစီခွဲသွား၊ မြို့ထဲမှာ အခြေအနေထူးရင် ချက်ချင်းဖုန်းဆက်။ ဆိုင်ကယ်ပါလာတဲ့သူက မြို့ပြင်ဘက်ကို သွား။ ဟုတ်လား"

အားလုံးသူ ခေါင်းညိတ်ပြီး ကိုယ်စီ ကိုယ်စီထွက်သွားကြသည်။ ဆရာသိန်းက လူခါးဘက်ကို လှည့်ပြီး

"မင်းစာရွက်နဲ့ ဘောပင်ကိုယူလိုက်၊ ဝင်လာသမျှ သတင်းတွေကို လိုက်စု"

"ဟုတ်ကဲ့"

လို့ ဖြေပြီး စာရွက်နဲ့ ဘောပင်ကို ကောက်ကိုင်လိုက်သည်။ စာရွက်ပေါ်တွင် မှတ်စုအချို့ကို ရေးခြစ်ထားသည်ကို လူခါး ဖတ်ကြည့်လိုက်သည်။

*×*×*

(၁၀)

## ၈. ၆. ၂၀၁၃ ရက် နေ့လယ် (၁)နာရီ နောက်ပိုင်း မောင်တောအခြေအနေ

၁း၁၅ နာရီ -- မောင်တောမြို့ (၄)ရပ်ကွက်တွင် ဂျာမေ (ခ) ကျောက်ဗလီနှင့် ကညင်းတန်းကုန်းအုပ်စု၊ သုသာန်ဗလီမှ ဘုရားဝတ်ပြုရင်း ထွက်လာကြသော အင်အား ၃၀၀ ခန့်ရှိ ဘင်္ဂလီကုလားအုပ်စု၏ မီးရှို့မှုကို ခံနေရသည်။ သဇင်တည်းခိုခန်းနှင့် အိမ် ၄ လုံး မီးရှို့ခံရဆဲဖြစ်သည်။

၁း၃၀ နာရီ -- ဘင်္ဂလီလူအင်အား တိုးပွားလာပြီး အင်အား (၁၀၀၀) ထက်မက ခန့်မှန်းရခက်သည်။ လမ်းပေါ်တွင် တောက်လျှောက် ရခိုင်အိမ်များကို ခဲတို့ဖြင့် ပစ်ပေါက်လျှက်ရှိသည်။

၁း၄၅ နာရီ -- "မူဆလင်များ ရှင်သန်ပါစေ၊ ရခိုင်များသေပါစေ" ကြွေးကြော်၊ အနောက်ဘက် ဗလီမှ လော်စပီကာများဖြင့် "လူကိုသတ် အိမ်ကို မီးရှို့"ဟု ဆော်ဩ၊ "ရခိုင်တွေ ဒီနေမြေမှာ မနေနိုင်အောင် သတ်ကြ" ဟု ကြွေးကြော်။

စာရွက်ပေါ်ရှိ မှတ်သားချက်အား လူခါး အံ့သြသွားသည်။ ရခိုင်ပြည်နယ်၊ အနောက်ဘက်တံခါးတွင် မီးတောက် မီးလျှံတို့ဖြင့် ဘင်္ဂလီကုလားတို့သည် ဒေသခံ ရခိုင်တို့ပေါ် စော်ကားလိုက်လေပြီဟု သိလိုက်ရသည်။ လူခါး နာရီကို တစ်ချက်လောက် ကြည့်လိုက်သည်။ အချိန်အားဖြင့် နေ့လယ် (၂)နာရီ (၃၀)မိနစ်ရှိနေပြီ။ ဆရာသိန်းမှ ဖုန်းလာပေးသည်။

"သူတို့ဆီက သတင်းတွေ ဆက်တိုက်လာနေမယ်။ မင်း လိုက်မှတ်ထား။ ဒါအရေးကြီးတယ်"

ဟု ပြောသည်။ လူခါးလည်း ခေါင်းတစ်ချက်ညိတ်လိုက်ပြီး ဖုန်းထဲတွင် ပြောသမျှ သတင်းများကို လိုက်ရေးနေတော့သည်။

၂း၃၀ နာရီ -- လ. . . ဗော်ဇားတံတား ကင်းစခန်း၊ မောင်တောမြို့သို့ ဝင်ရန် တောင်ဘက်မှ ဘင်္ဂလီကုလား အင်အား ၇၀၀ ခန့် ရောက်ရှိလာရာ နစကမှ တားဆီးခဲ့၊ အင်အား ၄၀၀ လှည့်ပြန်သွား၊ အင်အား ၃၀၀ ကျန်၊ လယ်ကွင်းမှဖြတ်ပြီး မောင်တောမြို့တွင်းဝင်ရောက်လာ။

၂း၄၅ နာရီ -- သရီကုန်ဘောင်ရွာအား ဘင်္ဂလီကုလားအင်အား ၂၀၀ ခန့်မှ မီးရှို့၊ အိမ် ၁၀၃ လုံး မီးရှို့ခံရ။

၃း၀၀ နာရီ -- ရွှေရင်အေး(နတလ)ရွာ၊ ဘင်္ဂလီကုလား အင်အား ၂၀၀ ခန့်မှ မီးရှို့၊ ပစ္စည်းလုယက်၊ အိမ်ခြေ ၆၇ လုံး မီးရှို့ခံရ။

၃း၁၅ နာရီ -- မောင်တောမြို့၊ ညောင်ချောင်းဈေးတန်း၊ ပစ္စည်းလုယက်၊ ဈေးဆိုင်တန်း မီးရှို့၊ ဈေးဆိုင်ခန်း ၁၉ ခန်း မီးရှို့ခံရ။

၃း၃၀ နာရီ -- မောင်တောမြို့၊ အခြေအနေမှာ လုံး၀ စိုးရိမ်ရသည့် အခြေအနေရှိ။ လုံခြုံရေးများမှ ဝင်ရောက်



ဟန့်တားခြင်းမရှိ။

၃း၄၅ နာရီ -- ခရေမြိုင်(နတလ)ရွာ၊ ဗောဓိကုန်း၊ ကင်းချောင်းရွာ၊ ကန်သာယာရွာ၊ ကံပြင်သာစည်ရွာစသည်တို့တွင် ဘင်္ဂလီကုလားအင်အား ၃၀၀ ကျော်စီက ဝိုင်း၊ မီးရှို့။ အိမ်ခြေ (၁၀၀)၊ (၂၃)၊ (၂၀)၊ (၄၀)၊ (၂၀)စီ မီးရှို့ခံရ။

၄း၀၀ နာရီ -- အောင်ဗလရွာ၊ အင်အား ၃၀၀ ကျော်က ဝိုင်း၊ နယ်မြေ(၆)ရဲတပ်ဖွဲ့မှ ခြောက်လှန့်ပစ်ခတ်ချိန် ထွက်ပြေးသွား။

၄း၁၅ နာရီ -- မြို့ထဲတွင် လုံခြုံရေးရှိသော်လည်း တားဆီးခြင်းမရှိ။ ဆက်လက် အကြမ်းဖက်ဆဲ။

၄း၃၀ နာရီ -- မောင်တောမြို့နယ် နာမည်ကြီးကျောင်းတစ်ကျောင်းဖြစ်တဲ့ ဆရာတော်ဦးကေတုရဲ့ မြို့မကျောင်းတိုက်ကိုလည်း ခဲနဲ့ပစ်ပေါက်။

၄း၄၅ နာရီ -- ဟိန္ဒူရွာတစ်ရွာကိုလည်း မီးရှို့ခဲ့ကြပါတယ်။ အိမ်ခြေငါးဆယ်ခန့် အကုန်မီးထဲပါသွားပါတယ်။ (ဟိန္ဒူနာမည်ကို မှတ်မရလိုက်)

၅း၀၀ နာရီ -- မြို့ဦးရပ်ကွက်၌လည်း နေအိမ်(၂)လုံးအား မီးရှို့ဖျက်ဆီးခဲ့ကြောင်း။

၅း၁၅ နာရီ -- ကမ္ဘောဇဘက်ကိုတော့ မီးမရှို့ကြပါဘူး။ အမိုးအဖီလောက်ကိုသာ ဆွဲချ ဖျက်ဆီးခဲ့ကြ။ မွေးမြူရေးနှင့်ရေလုပ်ငန်း အစိုးရပိုင်ဘက်နှင့် ကပ်နေလို့ မီးမရှို့ကြတာ ဖြစ်ပါတယ်။ အစိုးရဘက်ဖြစ်လို့ ရှောင်ခဲ့ခြင်းဖြစ်ပါတယ်။

၅း၃၀ နာရီ -- ညနေ(၅)နာရီအထိ အစိုးရက အကာအကွယ်မပေးသေးပါဘူး။ အကြမ်းဖက်မှုက မောင်တောမြို့နှင့် မြို့နယ်တို့တွင် ဆက်တိုက် ဖြစ်ပွား။

၅း၄၅ နာရီ -- ဒဏ်ရာ ရသူနှင့် အသတ်ခံရသူများရှိကြောင်း အတည်ပြု။

၆း၀၀ နာရီ -- ဒေါ်လာရောင်းဝယ်သူ ဇော်ဟိန်း ဆိုသူ၏ တိုက်အိမ် ၃ ထပ်မှ စတင်ပစ်ခတ်သည့်နောက် ရဲများကဝင်းတို့အားပြန်လည်ပစ်ခတ်၊ ဇော်ဟိန်းတို့ဖက်လက်နက်ကိုင် (၁၀)ခန့်ရှိ။

၆း၁၅ နာရီ -- ဆူပူသူ (၂၀)ဦးခန့်သည် မောင်တောမြို့ ပြည်သူ့ဆေးရုံအတွင်းသို့ ဝင်ရောက်နှောက်ယှက်ခဲ့သည့်အတွက် ကျန်းမာရေးဝန်ထမ်းများ ပုန်းရှောင်နေခဲ့ရကြောင်း၊

၆း၃၀ နာရီ -- ဗိုလ်မှူးရွာမှ အောက်ပါ ဒဏ်ရာရ/သေဆုံးမှုများဖြစ်ခဲ့ရကြောင်း

(၁) ဒေါက်တာခင်မောင်လတ် (၆၃)နှစ် ဝမ်းဗိုက်ဓားထိုးခံရ

(၂) ဒေါ်သန်းရီ (၅၇)နှစ် ဦးခေါင်းတွင် ဓားခုတ်ခံရ

(၃) ဦးကျော်လှ (၇၈)နှစ် ဦးခေါင်းတွင် ဓားခုတ်ခံရ

(၄) ဦးသိန်းဇော် (၃၆)နှစ် ခြေ/လက်တို့တွင် ဓားခုတ်ခံရ

(၅) ဦးလှမောင် (၆၅)နှစ် ဦးခေါင်းတွင် ဓားခုတ်ဒဏ်ရာ (၁၀)ချက်၊ လက်သန်းပြတ်ရှဒဏ်ရာတို့ဖြင့် သေဆုံး။

မပြတ်ဝင်လာသော သတင်းများကို ပြန်စုကြည့်လိုက်သည်။ သတင်းများက ဆက်တိုက် ဝင်လာနေဆဲ။ အခြေအနေက ဆက်လက်ဆိုးရွားနေသည်။ လူခါးသည် ထူပူလာသည်။ ခေါင်းတွေလည်း နောက်ကျိနေပြီ။ လူတွေကလည်း ဘယ်ကမှန်းမသိ သတင်းလာနားထောင်သူနှင့် ဆရာသိန်းအပါအဝင် ကိုကြီးသိန်းတို့ဆီသို့လည်း နိုင်ငံတကာ သတင်းဌာနမှ ဖုန်းများ၊ တခြား သတင်းမေးသူတို့ဖြင့် ရှုပ်ယှက်ခတ်နေ၏။ ဒီအချိန် လောလော လောလောဖြင့် ဝင်လာသော ကောင်းဇံကို တွေ့လိုက်ရသည်။

"ကျနော် ဓာတ်ပုံတွေ ရိုက်လာခဲ့တယ်ဗျာ၊ ဒီမှာ ကြည့်"



ဆိုပြီး သူလက်ထဲက ကင်မရာကို ဖွင့်ပြနေသည်။ အော်. . ဒီကြားထဲ လူခါး အလုပ်ရှုပ်နေသောကြောင့် စစ်တွေမြို့ထဲတွင် ဖြစ်ပျက်နေသော အဖြစ်အပျက်အား မသိလိုက်ပေ။ အဖြစ်အပျက်တော့ စက္ကန့်မလပ် ဖြစ်ပျက် မြန်ဆန်လွန်း၏။ အနိစ္စ မမြဲခြင်းသဘောကို လူခါးအား စဉ်စားချိန်ပင် မပေးနိုင်။ ဒုက္ခဆိုသည့် စကားလုံးသည် ရခိုင်တို့အတွက် လေလံဆွဲထားသလို ဆက်တိုက်ပင် ဝင်လာတော့သည်။

*****

## (၁၀)

## ၈. ၆. ၂၀၁၂ ရက် ၊ စစ်တွေမြို့ အခြေအနေ

လူခါး ဘေးနားတွင် ရပ်သူရပ်၊ ဖုန်းပြောသူပြော၊ ရေနွေးသောက်သူသောက်၊ မှတ်တမ်းများကို စစ်ဆေးသူ စစ်ဆေး၊ တက်ခေါက်သူခေါက်ဖြင့် အလုပ်ရှုပ်သည်။ လူခါးလည်း လူခါးဘဝတွင် ဤသို့မှတ်တမ်းမျိုးတင်သည့် အလုပ်မျိုးကို တစ်ခါမှ မလုပ်ဖူးခဲ့။ ရခိုင်တို့၏ အနာဂတ်သည် မီးလောင်ပြင်က လက်ယပ်ခေါ်နေသလိုမျိုး။ တိမ်တိုက်တို့သည် မီးခိုးရောင်ပြောင်းပြီး ပင်လယ်ရေတို့သည် သွေးရောင်လွှမ်းနေတော့သည်။ လူခါးဘေးနားတွင် ထိုင်ပြီး သတင်းလိုက်ရေးနေသော ဇော်ထွန်းမှ ဖုန်းကိုင်လိုက်သည်။

"ဟလို ပြောပါ"

"မင်းဂံမှာ အသုဘပို့သွားတဲ့ ကားကို ခဲတွေနဲ့ ထုတယ်။ လူတွေကြောက်ပြီးထွက်ပြေးလာကြတယ်။ တချို့ ဒဏ်ရာရထားတယ်။ ဆေးရုံကိုပို့ရမယ်"

ဟု ဟိုဖက်မှ တစ်ဦးမှ လှမ်းပြောသည်။ ဖုန်းလှမ်းပြီး သတင်းပေးသူမှာ လူခါး နာမည် မသိသော (၅)ဦးထဲမှ တစ်ဦးဖြစ်မည်မှာ အမှန်ပင်။ သူ ဒီသတင်းကို ချက်ချင်း ဆရာသိန်းနှင့် တခြားသူများကို ပြောလိုက်သည်။



ကောင်းဇံမှ ကင်မရာကို ဆွဲယူရင်း စံရွှေနှင့် အတူထွက်သွားသည်။ ကိုကြီးသိန်းက

"ဟိုဖက်ကိုရောက်လို့ အခြေအနေထူးရင် ဖုန်းဆက်အုံးနော်"

ဆိုပြီး လှမ်းအော်လိုက်သေးသည်။ စံရွှေမှလည်း စကားတစ်ခွန်းမှ ပြန်မပြောဘဲ ဆိုင်ကယ်ကို အပြင်းမောင်းထွက်သွားတော့သည်။

စစ်တွေမြို့ပေါ်တွင်လည်း အမည်မသိသော လူတစ်စုမှ စာရွက်များ လိုက်ဝေနေသည်။ စာရွက်ထဲတွင် မောင်တောမြို့မှ အခြေအနေသတင်းများကို ဖြန့်ဝေနေခြင်းဖြစ်သည်။ ရခိုင်တို့အားလုံး သတိရှိရန် တပ်လှန့်ထားသည့် စာအချို့လည်း ပါဝင်သည်။ အနောက်ဖက်ဗူးပေါက်ဝတွင် လောင်ခဲ့သောမီးစသည့် ရခိုင်ပြည်နယ် အလယ်ပိုင်းဗဟိုအချက်အချာ မြို့တော်ကိုပင် မကြာခင်ကိုင်လှုပ်တော့မည်မှာ အမှန်ပင်။ လူခါးတို့သည် အတည်မပြုနိုင်သော သတင်းပေါင်း သောင်းခြောက်ထောင်ကို လက်ခံရရှိသည်။

ခဏအကြာတွင် ကောင်းဇံနှင့် စံရွှေတို့ရောက်ရှိလာပြီး ဖြစ်စဉ်ကို ပြောပြသည်။ မွန်းလွဲ(၃) နာရီခန့်လောက်တွင် စစ်တွေမြို့၏အနောက်ဘက် (၂)မိုင် ဝန်းကျင်လောက်ဝေးသည့် မှန်စီသုသာန်သို့ ကုန်တန်းရပ်ကွက်၊ ရွှေပြားရပ်ကွက်နှင့် မကျည်းမြိုင်ရပ်ကွက်တို့မှ အသုဘသွားပို့သည့် ကား(၅)စီးကို သဲချောင်းကျေးရွာမှ ဘင်္ဂါလီကုလားများက ခဲဖြင့် ပစ်ပေါက်၍ လူအချို့ ဒဏ်ရာရရှိခဲ့သည်။ (၂)ဦးကတော့ ဒဏ်ရာပြင်းထန်ပြီး စစ်တွေမြို့ ပြည်သူ့ဆေးရုံသို့ ပို့လိုက်ရသည်။ အခြေအနေကို ထိန်းသိမ်းဖို့အတွက် လုံထိန်းရဲတွေနဲ့ ရဟန်းသံဃာအပါး(၂၀)လောက်ပါဝင်လာတဲ့ ကားတစ်စီး လာရောက် ထိန်းသိမ်းလိုက်မှ အခြေအနေက ငြိမ်းအေးသွားသည်။

အနီးအနားမှ အဒေါ်အရွယ် အမျိုးသမီးတစ်ဦးသည် ခေါင်းကို အင်္ကျီစဖြင့် အုပ်ထားသည်။ အုပ်ထားသည့်ကြားမှ သွေးစစက်များစီဆင်းလျက် လူခါးတို့ မှတ်တမ်းတင်နေသည့် အိမ်ရှေ့မှ ဖြတ်သွားသည်။

"အမေလေး ကယ်ကြပါအုံး . ၊ အမေ ဘာဖြစ်တာလဲ"

လို့ ငယ်သံပါအောင် အော်သံကို ကြားလိုက်သည်။ ချက်ချင်း ပတ်ဝန်းကျင်မှ လူများ ပြေးထွက်ပြီး သွားကြည့်ကြသည်။ အခြေအနေက ရုတ်ရုတ်သဲသဲဖြစ်သွားသည်။ ဖြစ်စဉ်က မှန်စီသုသာန်ကို အသုဘသွားပို့စဉ် ဘင်္ဂလီတို့၏ ပို့သလိုက်သော မေတ္တာတရားဓာတ်ကို အဒေါ်ကြီးက ရလာခဲ့သည်ကို သူ့သမီး၏ အော်လိုက်သံကြောင့်ပင် သိနိုင်လေသည်။

ညနေ (၅)နာရီ ပတ်ဝန်းကျင်လောက်တွင် စစ်တွေမြို့ရှိ ဘုမေကုလားရွာနဲ့ မင်းဂံရပ်ကွက် အကွက်(၃)က လူတွေ အပြန်အလှန် ခဲတွေ၊ အုတ်ခဲတွေ၊ လေးဂွတွေနဲ့ ပစ်ခတ်မှုဖြစ်ပွားခဲ့သည်။ ရခိုင်ပြည်နယ်ဝန်ကြီးချုပ် ဦးလှမောင်တင် ကိုယ်တိုင်သွားရောက် ဖြန်ဖြေပေးခဲ့ရသည့် သတင်းအစအနကိုလည်း လူခါးတို့ရရှိခဲ့သည်။

အခြေအနေက စစ်တွေမြို့မှာရှိတဲ့ လုံခြုံရေးတွေကလည်း မောင်တောမြို့သို့သွားကူနေရတာမို့ စစ်တွေမြို့တွင်ရှိသော လုံခြုံရေးတို့လည်း လိုက်မမီအောင် မြို့အနှံ့ ကင်းလှည့်နေရသည်။

"ဘာဆက်ဖြစ်မယ်ဆိုတာကို မသိရသေးဘူး"

ဟု ကောင်းဇံက ပြောပြသည်။ သူ့တွင် ပါသွားသော ဓာတ်ပုံကင်မရာဖြင့် လိုအပ်သော ဓာတ်ပုံမှတ်တမ်းများကို ရိုက်လာခဲ့သည်။

၈. ၆. ၂၀၁၂ ရက် သောကြာနေ့သည် တစ်ချိန်တည်း တစ်ပြိုင်တည်း စစ်ကြေငြာသည့်အလား ရခိုင်ပြည်နယ်အနှံ့တွင် အကြမ်းဖက်မှုဆက်တိုက်ဖြစ်ပွားနေလေတော့သည်။ မြို့ထဲတွင်လည်း မှန်စီသုသာန်သို့ သွားသော ကားကို ခဲနှင့် ထုခဲ့သော ဘင်္ဂလီကုလားတို့အား မကျေနပ်ချက်များနှင့် တခြားသော သောင်းခြောက်ထောင်သော အကြောင်းအရင်းများသည် ရခိုင်ပြည်တွင်းသို့ ဒုဗ္ဗိက္ခန္တရကပ်ကို ယူသွင်းလာမည်ကို လူခါးမသိခဲ့သည်ကား အမှန်ပင်တည်း။ မြို့ထဲတွင်လည်း ဟိုအနားက ဘာဖြစ်သည် ဒီအနားက ဘာဖြစ်သည် ဆိုသည့် ကောလဟာလ သတင်းတို့သည် တလလစပ် ဖြစ်ပေါ်နေလေတော့သည်။

*****

(၁၁)

အစွန်းရောက်ဘင်္ဂလီတို့သည် ရခိုင်တို့အပေါ် ပေါ်ပေါ်ထင်ထင် စစ်ကြေငြာလိုက်လေပြီ။ သူတို့မှာ ခေါင်းဆောင်ရှိ၏။ စည်းစနစ်ကျ၏။ နည်းဗျူဟာ၊ မဟာဗျူဟာရှိ၏။ တိုက်စစ်ကို ပုံစံသွင်းထားသည်။ ဘယ်အချိန်တွင် ဘာလုပ်မည်ကို တွက်ချက်ထားသည်။ တိုက်စစ်ကို ဟန်ချက်ညီညီ ပြုလုပ်ထားသည်။

ရခိုင်တို့နှင့် လုံးလုံး ဆန့်ကျင့်ဘက်ဖြစ်သည်။ ရခိုင်တို့တွင် ခေါင်းဆောင်မရှိ၊ စည်းစနစ်မရှိ၊ ဗျူဟာမရှိ။ အရေးကြီးလာလျှင် ဘင်္ဂလီတို့တွင် ပြေးစရာနေရာရှိ၏။ ရခိုင်တို့တွင်ကား ပြေးစရာနေရာမရှိ။ ပေးစရာဆိုလို့ အသက်သာရှိသည်။ ဤမြေသည် ဘိုးဘွားတို့ပေးခဲ့သော မြေ။ ကိုးကွယ်ရာအဖြစ် ဗုဒ္ဓအမွေ မဟာမြတ်မုနိကို ပေးခဲ့သည်။ သမိုင်းတန်ဖိုးအဖြစ် ဓညဝတီ၊ ဝေသာလီ၊ လေးမြို့၊ မြောက်ဦးခေတ် တို့ကို ပေးထားခဲ့သည်။ မြောက်ဦးမြို့၌ လက်ညှိုးထိုးမလွဲသော ဘုရားအမွေအနှစ်၊ သမိုင်းအမွေအနှစ်ကို ပေးထားခဲ့သည်။ မြောက်ဦးခေတ် ပေါ်တူဂီ ဘုန်းတော်ကြီး မန်နရစ်မှ ရခိုင်မြေကို ရတနာရွှေမြေအဖြစ် မှတ်တမ်းတင်ခဲ့သည်။ သို့သော် ညောင်မျိုးခံလိုက်ရသော သရက်ပင်ကဲ့သို့ ဘာမှ မလှုပ်နိုင်တော့ဘဲ ညောင်ပင်ဘဝကို ကူးသွားရသည့် သာဓကများစွာ ရှိခဲ့သည်။ လာမည့်ဘေး ပြေးတွေ့ရုံမှတစ်ပါး တခြားရွေးစရာလမ်းမရှိ။

စစ်တွေမြို့အခြေအနေကို နားစွင့်နေသကဲ့သို့ မောင်တောမြို့အခြေအနေကိုလည်း ပြတ်လပ်၍ မဖြစ်။ အချိန်နှင့် တစ်ပြေးညီ မှတ်တမ်းတင်နေရသည်။ အချိန်အားဖြင့် ည(၇)နာရီရှိပြီ။ ပစ်မိန့်ထွက်မလာသေး။ အသေအပျောက်စာရင်းနှင့်တကွ၊ ရွာစဉ်တစ်လျှောက် မီးရှို့ခံရမှု၊ ရခိုင်တို့သည် အသက်တစ်ချောင်းကို ကယ်တင်မည့်သူမရှိဘဲ၊ သောင်ပြင်မှာ လွတ်နေသော ခွေးကဲ့သို့ နီးစပ်ရာ တောစပ်၊ တောင်ပေါ်သို့ တက်ပြေးခိုလှုံနေရပြီး အကာအကွယ်ယူနေကြရသည်။ အသက်အရွယ်ကြီးသူ၊ မကျန်းမာသူတို့အား ဇီဝိန်ခြွေခံရဖို့မှာ အသေအချာပင် ဖြစ်လေတော့သည်။ သားပျောက်သော မိခင် အသံမထွက်ရဲသလို၊ လင်ပျောက်ရှာသူ တစ်ယောက်အတွက် လင်ကို မခေါ်ရဲ။ အသံထွက်လိုက်သည်နှင့် အသက်ကိုနုတ်မည့်သူများက အဆင်သင့်။ လောကငရဲတွင် အသက်ကို ဖက်နဲ့ထုပ်ပြီး နေခဲ့ရသည့် ရက်ကား ဒိဋ္ဌဓမ္မပင် ဖြစ်နေတော့သည်။

၇း၀၀ နာရီ -- မောရဝတီဒေသခံတစ်ဦး "အခုအချိန်ထိ ကျွန်တော်တို့ ပြာပုံပေါ်မှာ ထိုင်နေကြရပါတယ်။ ဘယ်သွားလို့ ဘာလုပ်ရမလဲ ဆိုတာတော့ မသိရသေးဘူး။ လုံခြုံရေးတပ်ဖွဲ့ဝင်တွေလည်း အခု နံနက် ၇ နာရီ ရှိနေပါပြီ မရောက်သေးပါဘူး။ ရွာကတော့ တစ်ရွာလုံးကုန်သွားပြီ။"

၇း၁၅ နာရီ -- ရွှေရင်အေး(နတလ)ကျေးရွာတွင် ဘုန်းကြီးကျောင်း (၁)ကျောင်းအပါအဝင်၊ အိမ်ခြေ (၆၇) လုံးခန့်၊ ရွာလုံးကျွတ် လောင်ကျွမ်း။

၇း၃၀ နာရီ -- မောရဝတီကျေးရွာတွင် ဘုန်းကြီးကျောင်းအပါအဝင်၊ အိမ်ခြေ(၁၁၀)ပတ်ဝန်းကျင် ရွာလုံးကျွတ် မီးလောင်ကျွမ်းသွား။

၇း၄၅ နာရီ --- ဗောဓိကုန်းကျေးရွာတွင် အိမ်ခြေ (၃၀) ပတ်ဝန်းကျင်လောက် မီးလောင်ကျွမ်း။ အခြေအနေမှာ



ဘင်္ဂလီများ ဆက်လက် ဆိုးရွားလျက်ရှိ၊ တစ်ရွာပြီး တစ်ရွာ တိုးပြီး အကြမ်းဖက် မီးရှို့လျက်ရှိ။

၈း၀၀ နာရီ -- **အရေးပေါ်အခြေအနေကြေငြာခြင်း**

ရခိုင်ပြည်နယ် မြို့နယ်အချို့တွင် ပြည်နယ်အေးချမ်းမှုပျက်ပြားသည့်အခြေအနေများ ဖြစ်ပေါ်နေမှုကြောင့် ပြည်သူများ၏ လုံခြုံရေးနှင့် တည်ငြိမ်အေးချမ်းစွာနေထိုင်နိုင်ရေးအတွက် ၂၀၁၂ ဇွန်လ ၈ ရက်မှ စတင်၍ ပြစ်မှုဆိုင်ရာကျင့်ထုံးဥပဒေ ပုဒ်မ ၁၄၄ ထုတ်ပြန်၍ ထိန်းသိမ်းခဲ့ပါသည်။

သို့သော်လည်း အကြမ်းဖက်မှုများမှာ ပိုမိုများပြားကျယ်ပြန့်လာပြီး ပြစ်မှုဆိုင်ရာ ကျင့်ထုံး ဥပဒေပုဒ်မ ၁၄၄ ထုတ်ပြန်ရုံဖြင့် ရခိုင်ပြည်နယ်အတွင်း အုပ်ချုပ်ရေးဆိုင်ရာ လုပ်ငန်းများကို ထိရောက်အောင် ဆောင်ရွက်နိုင်စွမ်း မရှိတော့ကြောင်း တွေ့ရသဖြင့် ပြည်သူများ၏ လုံခြုံရေးနှင့် တည်ငြိမ်အေးချမ်းစွာ နေနိုင်ရေးကို အမြန်ဆုံးပြန်လည်ဖော်ဆောင်နိုင်ရန်အတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၄၀၂ ပုဒ်မခွဲ ဃ အရ ရခိုင်ပြည်နယ်အတွင်း ယနေ့မှစ၍ အရေးပေါ်အခြေအနေ ကြေငြာလိုက်သည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေ ပုဒ်မ ၄၁၃၊ ပုဒ်မခွဲ က အရ တာဝန်ထမ်းဆောင်ရာတွင် ထိရောက်မှုရှိစေရန် တပ်မတော်၏ အကူအညီကို ရယူဆောင်ရွက်ရမည်။

ဤအမိန့်သည် ယနေ့မှ စ၍ နောက်ထပ် အမိန့်တစ်စုံတစ်ရာ ထုတ်ပြန်မှု မရှိမချင်း အတည်ဖြစ်သည်။ ဤအမိန့်သည် ဥပဒေကဲ့သို့ အာဏာတည်ရမည်။

(ပုံ)
သိန်းစိန်
နိုင်ငံတော်သမ္မတ
ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

၈း၄၅ နာရီ -- ရခိုင်ပြည်နယ်ရှိ ကွပ်ကဲရေးရုံး (သတင်းထုတ်ပြန်

ရေး) မှ သိရှိရသော သတင်းများအရ မောင်တော မြို့နယ်အတွင်း ဖြစ်ပေါ်နေသော အခြေအနေများကို လုံထိန်းတပ်ဖွဲ့ဝင်များမှ ထိန်းချုပ်နိုင်ခဲ့ပြီ။

၉း၀၀ နာရီ-- မောင်တောမြို့ထဲမှ သေနတ်ပစ်သံ တစ်ချက်တစ်ချက်ကြားရကြောင်း။

၉း၃၀ နာရီ -- ခရေမြိုင် စံပြကျေးရွာသို့ ဘင်္ဂလီကုလားအယောက် (၂၀၀)လောက် ဝင်ရောက်ရန်ကြိုးစား။ ရဲစခန်းမှ သေနတ်ပစ်ခတ်ပြီး ဟန့်တားခဲ့ရသည့်အတွက် ပြန်လည်ဆုတ်သွားခဲ့ကြောင်း။

၉း၄၅ နာရီ -- မောင်တောမြို့သို့ တပ်မတော်မှ ဝင်ရောက်နေရာယူထားသောကြောင့် မြို့ထဲတွင် တည်ငြိမ်စပြုလာပြီး နယ်ဘက်တွင် ဆက်လက် ဖြစ်ပွားလျက်ရှိ။

၁၀း၀၀ နာရီ -- ဒေသခံများ တောင်ပေါ်သို့ တက်ပြေးပြီး အကာအကွယ်ယူနေရ။ အခြေအနေကို ထိန်းသိမ်းထားနိုင်ပြီဟု အစိုးရက ထုတ်ပြန်။

သို့သော် အရေးအခင်းမှာ လုံခြုံရေးများ လက်လှမ်းမမီသော နေရာများတွင် ဆက်လက်ဖြစ်ပွားလျက်ရှိသည်ဟု ထပ်ဆင့်အတည်ပြုပေးလိုက်သည်။

တပ်မတော်မှ ဝင်ရောက်လာသည့် သတင်းနှင့် အရေးပေါ်ကြေငြာချက် သတင်းထွက်ပေါ်လာသည့်အတွက် လူတိုင်းသည် လှုပ်ရှားသွားသည်။ လူခါးလည်း သက်ပြင်းကို မှုတ်ထုတ်လိုက်သည်။ ယခုမှ စိတ်နည်းနည်းသက်သာရာရသွားသည်။ အခြေအနေကတော့ ဆက်ဖြစ်ဆဲ။ သတင်းများကတော့ မပြတ်။ မောင်တောမြို့၏ တောင်ပိုင်း မြောက်ပိုင်း ကုန်သလောက် နီးပါးဖြစ်သွားပြီ။ ညဉ့်အချိန် အမှောင်ထုသည် ပို၍ စိုးရိမ်ရ၏။ လူက သေချင်စော် နံနေပြီ။ ဘာမှ မတတ်နိုင်။ သမိုင်းရေးသည့်နေ့တွင် ကိုယ်တိုင်ပါဝင်ခွင့်ရခြင်းသည်ပင် လူမျိုးတစ်မျိုး၏ အမြင့်ဆုံး ဂုဏ်ပုဒ်ဖြစ်သည် မဟုတ်ပါလော။ ဤသည် သမိုင်းဖြစ်၏။ နောင်



တစ်ချိန်အတွက် သမိုင်းသည် ရေးလက်စ ပူပူနွေးနွေးပင် ရှိနေသေးသည်။ အနီးအနားတွင်ရှိသော ရေနွေးဖြင့် ကော်ဖီတစ်ခွက် ဖျော်သောက်လိုက်သည်။ ပြီးမှ

"ညအချိန်တော့ ပိုစိုးရိမ်ဖို့ကောင်းတယ်နော်"

လို့ ကိုကြီးသိန်းကို လှမ်းပြောလိုက်သည်။

"ဒီအခြေအနေဆိုရင် သိပ်တော့မလွယ်ဘူး။ ဘင်္ဂလီတွေက အင်အား မတရားများတယ်။ ဒို့ဖက်က ရခိုင်၊ ဗမာနဲ့ဆိုရင် တိုင်းရင်းသား လူမျိုးစုက နည်းနည်းလေးပဲ၊ အသေအပျောက် မများပါစေနဲ့လို့ ဆုတောင်းရတော့မယ်"

ဟု ကိုကြီးသိန်းက သက်မကြီး ချပြီး ပြောလိုက်သည်။

"သဗ္ဗေသတ္တာ ကမ္မသကာလို့ပဲ ဆိုရတော့မှာပေါ့။ ကံကြမ္မာက ဒို့ဖက်မှာမှ မရှိတာ"

ဟု ဆရာသိန်းက ဝင်ပြောသည်။ ဘေးဝန်းကျင်တွင်လည်း ထင်မြင်ချက်အမျိုးမျိုး၊ သုံးသပ်ချက် အဖုံဖုံတို့ဖြင့်။ ညဉ့်အချိန်ကို ရောက်လာပြီမို့ လူခါးတို့ အဖွဲ့တွင်လည်း အိမ်ပြန်ကြသူများဖြင့် အင်အား (၅)ယောက်လောက်သာရှိတော့သည်။

"မိုး မြန်မြန်လင်းပါစေ"လို့ စိတ်ထဲ ကျိတ်ဆုတောင်းနေမိတာတော့အမှန်။ ဒီသတင်းဆိုးတွေကို ဒီထက် ပိုလို့ မကြားချင်တော့ဘူး။ လူခါးလည်း အိမ်ပြန် မိသားစုနဲ့အတူ နားချင်နေပြီ။ ဒါပေမယ့် ကိစ္စက ဖြတ်လို့မရသေးဘူး။ ဟိုဖက်သတင်းပို့သူတွေဆီက သတင်းတွေကို ဆက်တိုက်ပို့နေကြသည်။ ပို့လည်း ပို့တန်သည်။ သတင်းပို့လာသောသူများမှာလည်း ထွက်ပေါက်အနေဖြင့် နောက်ဆုံး သူတို့၏ အမြင်များကို ပြောကြားသွားရမည်မဟုတ်လား။ ကြာလာလျှင် ဖုန်းကိုတောင် ပစ်ပေါက်ချင်စိတ်ပေါက်လာပြီ။ လူခါး တစ်သက်တာ တစ်ခါမှ ဒီလောက် အလုပ်မလုပ်ခဲ့ဖူး။ အမျိုးသားရေး၊ နယ်မြေတည်တံ့ရေးမို့ မိမိရဲ့ အလုပ်သည် အခကြေးငွေအလုပ်ထက် ပိုအရေးသည်ကိုတော့ ဦးနှောက် စေ့ဆော်လှုံ့ဆော်ပေးနေသည်။

"ဟုတ်တယ်၊ ဒါသမိုင်း၊ ငါကိုယ်တိုင်ရေးရမယ်၊ ငါတို့လူမျိုး သမိုင်းကို ငါမရေးရင် ဘယ်သူရေးမလဲ"

စိတ်ကို အားတင်းလိုက်သည်။ စိတ်နည်းနည်းသက်သာရာရသွားသည်။ လူတိုင်း၊ ရခိုင်သားတိုင်း ဒီလိုစိတ်ကူးမျိုး၊ ဒီလို ခံယူချက်ရှိကြမည်မှာ အမှန်ပင်ဖြစ်လိမ့်မည်။

လူခါး ရှိသမျှ အားအင်တို့ကို စုစည်းလိုက်ပြီး နောက်ဆုံး သတင်းများ၊ ကျေးရွာများကို စနစ်ကျအောင် စုစည်းလိုက်သည်။

**မောင်တောမြို့နယ် မြောက်ပိုင်း**

(၁) နံသာတောင်ရွာ
(၂) သာယာကုန်းရွာ
(၃) သဘော်လှရွာ
(၄) တရိန်းရွာ
(၅) ကြိမ်ချောင်းရွာ
(၆) ငခူရရွာ
(၇) ကပ်ပတောင်ရွာ
(၈) ဒိုးတန်းရွာ
(၉) ခြံပြင်ရွာ
(၁၀) ဇရပ်အုပ်ရွာ
(၁၁) အောင်မင်္ဂလာရွာ
(၁၂) ဗန္ဓုလရွာ
(၁၃) ကျီးကန်းပြင်ရွာ

**မောင်တောမြို့နယ် တောင်ပိုင်း**

(၁) သရေကုန်ဘောင်ရွာ
(၂) မောရဝတီရွာ
(၃) ဆင်မကျပ်ရွာ
(၄) ဥဒေါင်းရွာ



(၅) ဝေသာလီရွာ
(၆) နတလရွာ ၄ ရွာ (နတလ=နယ်စပ်ဒေသတိုင်းရင်းသား လူမျိုးများ ဖွံ့ဖြိုးရေး)

မောင်တောတောင်ပိုင်းသို့ သွားရောက်သည့် လမ်းပေါ်ရှိ ဇော်မဒပ် တံတားကိုလည်း ဘင်္ဂါလီတို့က ဖျက်ဆီးခဲ့ကြောင်း သိရသည်။ လောလောဆယ် ရသမျှ ရွာစာရင်းကို ကြည့်လိုက်ရာ အားလုံး (၂၂)ရွာ တိတိ ပြာကျသွားသည်။ ပြာပုံဘဝဖြင့် ဘင်္ဂလီတို့က လိုက်ကာချပေးလိုက်သည်။ ရခိုင်တို့က ဘာမှ မတတ်နိုင်။ ရပ်ကြည့်နေရုံ၊ ဆုတောင်းရုံမှ တစ်ပါး တခြားမရှိခဲ့။ သေစာရင်းအားလုံးကို ချုပ်ကြည့်လိုက်သောအခါ-

၁။ ဦးမောင်ချမ်းသာ (သရေကုန်ဘောင်ကျေးရွာ)
၂။ ဦးအောင်သိန်းလှ (သရေကုန်ဘောင်ကျေးရွာ)
၃။ ဦးသာဒိုးအောင် (မောရဝတီကျေးရွာ)
၄။ ဦးသန်းထွန်း (မောရဝတီကျေးရွာ)
၅။ ဦးလှမောင် (မြို့မအရှေ့ရပ်ကွက်၊ဗိုလ်မှူးရွာ)
၆။ ဦးဘတို (သရေကုန်ဘောင်ကျေးရွာ)
၇။ ဦးမြင့်သိန်း (ခရေပြိုင် (နတလ)ရွာ)
၈။ ဦးသာစိန် (ခရေပြိုင် (နတလ)ရွာ)
၉။ ဦးဘစိန် (ဇောမိကုန်းကျေးရွာ)
၁၀။ ဦးသာလှဖြူ (ရွှေရင်အေး (နတလ)ရွာ)
၁၁။ ဦးစောလှ (ရွှေရင်အေး (နတလ)ရွာ)
၁၂။ ဦးမြင့်ရွှေ (ရွှေရင်အေး (နတလ)ရွာ)
၁၃။ အရှင်ဦးပညာသာမိ (ရွှေတိုင်ဘုန်းကြီးကျောင်း)

"သေဆုံးသူ အားလုံးစုစုပေါင်း (၁၃)ဦး။ ထူးခြားဖြစ်စဉ်အဖြစ် သရေကုန်ဘောင်ကျေးရွာမှ မူလတန်းပြ၊ ကျောင်းအုပ်ဆရာကြီး ဦးမောင်ချမ်းသာအား သတ်ဖြတ်ခဲ့သူမှာ သူမွေးစားခဲ့သော သူ၏တပည့်များပင်ဖြစ်သည်။ ဦးမောင်ချမ်းသာ၏ဇနီးကိုပင် အသက်ချမ်းသာမပေးခဲ့။" ဟုမှတ်ချက် ကောက်ရေးလိုက်သည်။ အာစရိယ ဂုဏော အနန္တော

ဟူသည် မြောင်းထဲသို့ ကျသွားလေသည်။ ဒဏ်ရာရသူများ စာရင်းကို လောလောဆယ် ပြုစုမရနိုင်သေးပေ။ အကြောင်းမူ မောင်တောမြို့ ပြည်သူ့ဆေးရုံသို့ အဆက်အသွယ်လုပ်၍ မရသောကြောင့် ဖြစ်သည်။ အချိန်ကား ညဥ့် (၁၀)နာရီကျော်နေပြီ။ သို့သော် မောင်တောမြို့တွင် အရေးအခင်းက ဆက်လက်ဖြစ်ပွားဆဲ။ အတိုက်အခိုက်မခံရသေးသော ကျေးရွာများလည်း အသင့်အနေအထားဖြင့်။ အခင်းတစ်ခု ဖြစ်ပွားလာပြီးဆိုလျှင် ကလေး၊ သက်ကြီးရွယ်အိုနှင့် မိန်းမများသည် ဓားစာခံဖြစ်ရသည်ဟု လူခါး လေ့လာဖူးသည်။ ယခုလည်း ထိုဒေသမှ သက်ကြီးရွယ်အိုများနှင့် အမျိုးသမီးများသည် လုံခြုံမည်ထင်သည့် တောင်ပေါ်သို့ပြေးကြ၊ နစကလုံခြုံရေးစခန်းများကို ခိုလှုံခွင့်တောင်းနေကြလေသည်။ ဘုန်းကြီးကျောင်းများသည် ပို၍ စိတ်မချရ၊ လုံခြုံမှုမပေးနိုင်သော နေရာဖြစ်နေတော့သည်။ မိစ္ဆာဒိဋ္ဌိအယူရှိသူတို့သည် ဗုဒ္ဓဘာသာတို့၏ အမြင့်မြတ်ဆုံးဘာသာရေးကျောင်းများကို အဓိက ပစ်မှတ်ထား တိုက်ခိုက်ကြသည်မှာ ဓမ္မတာပင်ဖြစ်သည်။ ကမ္ဘာမီးလောင် သားကောင် တက်နင်းဆိုသကဲ့သို့ ဗုဒ္ဓ၏ အရိပ်အဝါသသည်လည်း မငြိမ်းအေးနိုင်။ အသက်တစ်ချောင်း လူ့လောကတွင် ရပ်တည်နိုင်ဖို့၊ ဇိဝိန်အခြွေမခံရဖို့ ရသည့်နေရာတိုင်းတွင် ခိုလှုံနေရတော့သည်။

ညဥ့်ငှက်တေလေတို့ရဲ့ အသံတို့သည် မချိုမြိန်တော့။ ပတ်ဝန်းကျင်တစ်ခွင်ကို အသံပေးတတ်သည့် ကျီးအတို့လည်း အသံတိတ်စပြုလေပြီ။ မာကျူရီမီးလုံးမရှိသော စစ်တွေမြို့ရဲ့ ညလမ်းမများဟာလည်း တိတ်ဆိတ်ခြင်းကို အသွင်ဆောင်လာခဲ့ချေပြီ။ ခွေးအတို့ရဲ့ အော်သံကိုသာ ကြားရတော့သည်။

"ကျနော် အိမ်ပြန်တော့မယ် ကိုကြီးသိန်း"

လူခါး ကိုကြီးသိန်းကို ပြောလိုက်သည်။

"အဲ အဲ ပြန်တော့၊ သတိနဲ့လည်း ပြန်အုံး"

"ခဏလေး မောင်တောဆေးရုံကို ဆက်သွယ်လို့ရပြီ၊ လိုက်မှတ်"

ဆရာသိန်းမှ လှမ်းပြောသည်။



"၂၀၁၂ ခုနှစ် ဇွန်လ ၈ ရက်နေ့၊ မောင်တောမြို့အရေးအခင်း၌ ဘင်္ဂလီတွေရဲ့ လက်ချက်ကြောင့် မြန်မာတိုင်းရင်းသားကျေးရွာ ၂၂ ရွာ၊ သေဆုံးသူ (၁၃)ဦး၊ အိမ်ခြေ ၄၉၆ လုံး၊ ဒဏ်ရာရရှိသူ (၁၇) ဦး၊ ဈေးဆိုင် (၁၉)ဆိုင်၊ တည်းခိုခန်း (၁) လုံး၊ ဗွီဒီယိုရုံ(၄)ရုံ၊ ဘုန်းတော်ကြီးကျောင်း (၈)ကျောင်း၊ စာသင်ကျောင်း(၁)ကျောင်း၊ မီးစက်ရုံ(၃)ရုံ၊ ရဲကင်း(၁)ခု၊ ဆေးပေးခန်း(၁)ခုနဲ့ ပညာရေးဝန်ထမ်းတွေနေတဲ့ အိမ်ရာ(၂)ရာ" ဟု ပြောသည်။ နောက်ဆုံးချုပ်လိုက်သော စာရင်းအရ အဖြေထွက်လာခဲ့သည်။ လူခါးလည်း လိုက်မှတ်လိုက်ရသည်။ ပြီးတာနှင့် အောက်ကိုဆင်း ဆိုင်ကယ်ထုတ်ပြီး စစ်တွေမြို့ ညရဲ့ လမ်းမများပေါ်မှ ချိုင့်ခွက်များ၊ ဂျိုင့်များကို ရှောင်တိမ်းရင်း တိတ်ဆိတ်စွာ အိမ်ပြန်လာခဲ့တော့သည်။ လူခါးနောက်မှ ကောင်းဇံနှင့် ဇော်ထွန်းတို့လည်း ကပ်လျက်လိုက်ပါလာခဲ့သည်။

"ဘယ်သွားကြမလဲ"

"မင်းဂံဘက်ကို။ အဲဒီဘက်က အခြေအနေကို စောင့်ကြည့်ရင်း အဲဒီမှာ သွားအိပ်မယ်"

ဟုဆိုကာ ဆိုင်ကယ်ကို အနားက ဖြတ်မောင်းပြီး ထွက်သွားလေတော့သည်။

"အခြေအနေထူးရင် ဖုန်းဆက်အုံးနော်"

လို့ လှမ်းအော်လိုက်သည်။

"ဟုတ်ကဲ့"ဟုသာ သဲ့သဲ့မျှ ကြားလိုက်တော့သည်။

မင်းဂံရပ်ကွက်သည် စစ်တွေမြို့၏ အပြင်ဖက်တွင်ရှိပြီး ဂုင်းနှင့် ထိစပ်လျက်ရှိသော ဘုမေ၊ သဲချောင်း၊ ဘောဒူဘာ၊ လက်သမားကုလားရွာ၊ ဒိုးမြောင်တို့သည် ဘင်္ဂလီကုလားရွာများဖြစ်ကြသည်။ ရန်သူနယ်မြေနှင့် ထိစပ်လျက်ရှိပြီး ကျားရဲတွင်းထဲတွင် ကျရောက်နေသော သမင်ငယ်ပမာ တည်ရှိသည့် နေရာဖြစ်သည်။ အချိန်မရွေး ကျားစာဖြစ်သွားနိုင်သည့် အရပ်ဒေသဖြစ်သည်။

*×*×*

## (၁၂)

လူခါးသည် ပင်ပန်းသည်က တစ်ကြောင်း၊ ခံစားချက်တို့၏ဒဏ်ကြောင့် ညှိုးနွမ်းနေလေသည်။ သို့သော် ဘာဖြစ်လာမည်ကို မသိသော နက်ဖြန်တိုင်းသည် လူခါးတို့အားနွမ်းလျစွာ ဆီးကြိုနေလေ၏။ အချိန်တိုင်း၊ စက္ကန့်တိုင်းသည် ထိတ်လန့်စွာဖြင့် ရွေ့သွားနေသည်။ ယနေ့အချိန်တို့သည် ကမ္ဘာ့စာမျက်နှာထက်တွင် ရခိုင်တို့အတွက် အချိန်အကြာဆုံးဖြစ်လိမ့်မည်။ နေ့တစ်နေ့ကို မြန်မြန်ကုန်ဆုံးပါစေဟု ဆုတောင်းနေရတော့သည်။

အိမ်ပြန်ရောက်တော့ ချစ်သမီးကလေးက အိပ်နေပြီ။ ခါတိုင်းလို "ဖေဖေပြန်လာပြီ"လို့ ဆီးမကြိုအား။ ခါတိုင်း အပြင်ထွက်ရင် စားစရာတစ်ခုခု ဝယ်လာနေကျ။ ဒီနေ့တော့ လမ်းမှာ ရောင်းသူလည်း မရှိသလို၊ လမ်းသွား လမ်းလာလည်း မရှိတော့။ အမေကတော့ စိပ်ပုတီးလေးဖြင့်



အမျှအတမ်းပေးဝေနေဆဲ။ နောက် ဖြစ်လာမည့်ဘေးအတွက် ဘေးမသီရန်မခဘဲ သတ္တဝါတိုင်း ငြိမ်းချမ်းဖို့ ဆုတောင်း မေတ္တာပို့ အမျှဝေနေသည်။ ခါတိုင်းလို အမေထိုးခဲ့တဲ့ ကြေးစည်သံဟာ မချိုမြိန်ခဲ့တာတော့ အမှန်။ ညှိုးငယ်စွာ စောင့်မျှော်နေသော ဇနီးကို တွေ့သည်။ ပြုံးမပြနိုင်အား။ လူက ပင်ပန်းနေပြီ။ ပင်ပန်း နွမ်းနယ်မှုနှင့် စိတ်၏ ခံစားချက်ကြားတွင် တစ်ခါတလေ လူ့ဘဝ လူ့မနောသည် ပျောက်တတ်သည် မဟုတ်လော။ ဇနီးကတော့ -

"ကို ရေချိုးလိုက်လေ၊ ပြီးရင် ထမင်းစားမယ်၊ ကျမ ထမင်းခူးထားလိုက်မယ်"

ဟု ပြောသည်။ ခန္ဓာကိုယ်က ချွေးနံ့တို့သည်ကား တထောင်းထောင်းထွက်နေလေသည်။ သို့သော် သည်အခြေအနေမျိုးတွင် သည်အနံ့သည် နှာခေါင်းဖျားကို အနံ့ခံခွင့်ပင် မပေး။ လူခန္ဓာတစ်ခုလုံးတွင် မလှုပ်ရှားရသည့် နေရာဟူ၍ပင်မရှိ။ စိတ်ကျဉ်းကျပ်မှု၊ ခန္ဓာကိုယ်၏ လှုပ်ရှားမှုကြားက ထွက်ပေါ်လာသည့်တစ်ခုတည်းသော ရလဒ်မှာ ဒီချွေးတို့သာရှိသည် မဟုတ်လော။ ယခုအဖြစ်အပျက်တွင် မိသားစုကိုတော့ မျက်ကွယ်ပြုထားသလိုမျိုးဖြစ်နေသည်။

"မိမိကိုယ်ရေးကိုယ်တာထက် မိသားစုအရေးက ပိုတန်ဖိုးထားရတယ်။ မိသားစုထက် ပါတီအရေးဆိုရင် ပါတီအရေးကို ပိုတန်ဖိုးထားရတယ်။ ပါတီအရေးထက် လူမျိုးရေးဖြစ်လာရင် လူမျိုးရေးက ပိုအရေးကြီးတာပေါ့"လို့ နိုင်ငံရေးသားတစ်ဦးရဲ့ ပြောစကားကို ပြန်လည်သတိရမိသည်။ ဟုတ်သည်။ လူခါး မိသားစုအရေးထက် လူမျိုးရေးကို တန်းဖိုးထားတတ်လာခဲ့ပြီ။ သို့သော် လူခါး နိုင်ငံရေးသမားမဟုတ်သည်ကား အမှန်ပင်။

ညနေစာစားပြီးတော့ အချိန်က ည၉ (၁၂)နာရီခွဲရှိနေပြီ။ ပတ်ဝန်းကျင်တစ်ခုလုံးကတော့ အိပ်မောကျနေကြပြီ။ သို့သော် လူခါးတို့ အိမ်နဲ့နီးတဲ့ ကင်းရုံကလေးကမှ စကားသံတွေက ရှေးဟောင်းနှောင်းဖြစ်တွေကို ပြောသူတို့ဖြင့် တိတ်ဆိတ်မှုကို တစ်ခါတစ်ခါ ဖြိုခွင်းလိုက်သည်။ လူခါး

ဘေးနားတွင် သမီးကလေးနှင့် ဇနီးကတော့ အိပ်ပျော်နေလေပြီ။ လူခါးမှာ တစ်နေ့လုံး ပင်ပန်းထားသော်လည်း မျက်လုံးကို မှိတ်၍မရ။ မျက်လုံးထဲတွင် မောင်တောမြို့အဖြစ်အပျက်တို့က အစီအရီနေရာယူထားသည်။ အတင်းကြိတ်မှိတ်ပြီး မေ့ကြည့်သော်လည်း မရ။ မောင်တောမြို့မှ ရခိုင်သူ ရခိုင်သားနဲ့တကွ တခြား တိုင်းရင်းသားတွေ ဘယ်လိုများ နေလေမလဲ။

"ကျနော်တို့ အဖိုးက မရှိမဲ့ ရှိမဲ့ ချွေနဲစာနဲ့ စုဆောင်းပြီးတော့ ဆောက်ခဲ့တဲ့ အိမ်လေးပါ။ အဲဒါကို ကျနော့်အဖေက ဆက်ထိန်းသိမ်းခဲ့ပါတယ်။ ဒီအိမ်ကလေးဟာ ကျနော့်ဘိုးဘွားတွေရဲ့ အမွေပါ။ အခုတော့ မီးထဲပါသွားပါပြီဗျာ"လို့ ဖုန်းထဲက ပြောပြသွားတဲ့ မောင်တောမြို့ခံ တစ်ဦးရဲ့အသံ ။

"ကျမထွက်လာတော့ အသက်(၈၀)လောက်ရှိတဲ့ ကျမအဖေက နင်တို့ ထွက်သွားကြတော့၊ ငါ့ကို ထားခဲ့တော့။ ငါက အသက်ကြီးပြီ။ ပြေးလည်း မပြေးနိုင်တော့ဘူး။ နင်တို့အသက်က ပိုအရေးကြီးတယ်။ ပြေးကြ ပြေးကြ၊ မြေးလေးတို့ အဖိုးက အရေးမကြီးတော့ဘူး။ လို့ အော်ဟစ်ပြီး ကျန်ခဲ့ရတဲ့ ကျမအဖေကို ကျမ ဘယ်လိုလုပ် ဖြေသိမ့်နိုင်မှာလဲရှင်"လို့ ပြောပြသွားတဲ့ မောရဝတီကျေးရွာမှ ဒေသခံတစ်ဦးရဲ့ အသံဟာ နားထဲတွင် စွဲငြိနေတော့သည်။

"ဒီနေ့ ကျောင်းသွားတဲ့ ကျမသမီးလေး၊ ကျမသမီးလေး ဘယ်မှာလဲ။ ကျမသမီးလေးကို ရှာမတွေ့ဘူး။ ကျမသမီးလေးကို ရှာပေးကြပါ"လို့ အော်ငိုနေကြမယ့် သားပျောက်မိခင်။ လင်ပျောက်မိန်းမတို့သည် ဘယ်လောက် ရှိလေမလဲ။

"ကျတို့က တစ်နယ်တစ်ကျေးက လာပြီး ဒီမှာ နိုင်ငံ့တာဝန်ကို လာထမ်းဆောင်တာပါ။ မိဝေးဖဝေး လာရောက်ပြီး သူတို့ကလေးတွေကို စာလာသင်ပေးတာပါ။ ဒါကိုတောင် မထောက်ထားဘူး"ဟု အံကြိတ်သံဖြင့် ဆရာမတစ်ဦး၏ ပြောစကားသံ။

ညကား နက်သထက် နက်လာပြီ။ မှောင်သထက် မှောင်လာပြီ။ သို့သော် ရခိုင်တို့ဘဝက ပို၍ အမှောင်ထုထဲကို ဆင်းသက်နေသည်



ကိုကား မည်သူမှ ငြင်းဆို၍ ရလိမ့်မည်မဟုတ်။

စစ်ပွဲတို့၏ ထုံးစံအတိုင်း ညဥ့်အမှောင်သည် စိုးရိမ်ရသည်။ အမှောင်ထုထဲတွင် လှုပ်ရှားတတ်သော ရန်သူသည် ပို၍ ကြောက်စရာကောင်းသည်။ ဤသို့ဆိုလျှင် အမှောင်ထဲတွင် ရှိနေမည့် ဘင်္ဂလီကုလားအယောက်(၁၀၀)တွင် မြန်မာတိုင်းရင်းသား (၃)ယောက်လောက်သာ ရှိသော အင်အားသည် မည်သို့ ခုခံနိုင်မည်နည်း။ အားကိုးစရာဆို၍ နောက်ဆုံး အစိုးရ၏လုံခြုံရေးများသည်သာ အဆုံးအဖြတ်ပေးတော့မည်။ လူခါးသည်လည်း အမှောင်ထုကို ကြောက်သည်။ လူခါးဘဝတွက် သိပ်မဝေးသေးသောကာလမှ အမှောင်ထုကို ကာကွယ်ယူရင်း လုံထိန်းရဲများ၏ ဖြိုခွင်းမှုကြောင့် စစ်တွေမြို့ ပြည်သူ့ဆေးရုံပေါ်မှ ကိုရင်ကလေး အပါအဝင် လူနာများ ညည်းညူသံများကို ပြန်လည်ကြားယောင်လာမိသည်။

*×*×*

## (၁၃)

### ၃. ၆. ၂၀၁၂ ရက် တနင်္ဂနွေနေ့

စစ်တွေမြို့သည် ခါတိုင်းတနင်္ဂနွေနေ့တွေထက် ပို၍ လှုပ်ရှားနေသည်။ စစ်တွေမြို့၏ အပန်းဖြေနေရာများဖြစ်သော စစ်တွေဟိုတယ်၊ ပွိုင့်ကမ်းခြေနှင့် ကမ်းနားလမ်းတို့တွင် ပျားပန်းခတ်မျှ စည်ကားလျက်ရှိသည်။ လူခါးသည်လည်း မိသားစုနှင့်အတူ ကမ်းနားလမ်း ပလ္လင်တောဘက်တွင် အပန်းဖြေနေလျက်ရှိသည်။ ဤနေ့သည် ဇွန်လဖြစ်သော်လည်း ကောင်းကင်ပေါ်တွင် မိုးသား တိမ်တိုက်များ ကင်းစင်ပြီး မိခင် ဘင်္ဂလား ပင်လယ်အော်ကို တသွင်သွင်စီးဆင်းနေသော ကစ္ဆနဒီမြစ်ပေါ်ရှိ ကြက်မခွပ်လှိုင်းလုံးကလေးများ၊ မြစ်ပြင်ပေါ်တွင် စက်လှေများ၊ တံငါသည်များနှင့် ဇင်ယော်ငှက်တို့သည် လှချင်တိုင်း လှနေကြသည်။ ရွှေရောင်ဆမ်းထားသော ညနေဆည်းဆာ၏အလှကို ခံစားရင်း မိသားစု အနားယူလျက်ရှိသည်။ စစ်တွေမြို့၏ ညနေခင်းသည် တခြားသော နေရာဒေသများ



ထက် သာယာလိမ့်မည်လို့ လူခါးထင်မိသည်။

ပင်လယ်ကမ်းစပ်တွင် ဘောလုံးကန်သူ၊ စက်ဘီးစီးသူ၊ ဆိုင်ကယ်စီးသူ၊ လမ်းလျှောက်သူများနှင့် အနောက်တိုင်း ယဉ်ကျေးမှု အငွေ့အသက်မကင်းသော ခေတ်မီးတိုင်အောက်တွင် ဘီယာသောက်သူများ၊ ဂီတာတီးပြီး သီချင်းဆိုသူများ၊ စကားစုဖွဲ့ပြီး အာလူးဖုတ်နေကြသော လူကြီးပိုင်းများ၊ တူနှစ်ကိုယ် ချစ်ဖွဲ့သီဆိုနေကြသော ချစ်သူစုံတွဲများ၊ အင်္ကျီလက်ပြတ်စကတ်တိုဝတ်မှ ခေတ်မီတယ်လို့ ထင်ကြသည့် သဲသဲလှုပ်အရွယ်တို့ဖြင့် ရောင်စုံကာလာဖွဲ့၍ စည်ကားလျက်ရှိသည်။

လူခါးသည် သမီးနှင့်အတူ ကြက်ကင် စားနေစဉ် ပတ်ဝန်းကျင်တွင် လှုပ်လှုပ်ရှားရှားဖြစ်သွားသည်။ လူတွေလည်း ပြန်သူပြန်၊ အော်သူအော်ဖြင့် ပတ်ဝန်းကျင် တစ်မျိုးတစ်ဘာသာဖြစ်နေသည်။ ဤလောက်ပျော်စရာကောင်းပြီး၊ စည်ကားလှသည့် ဤအရပ် ဤဒေသသည် ချက်ချင်းအရောင်ပြောင်းသွားသည်။ ဆိုင်ကယ်၊ ကား၊ စက်ဘီး၊ သုံးဘီးဆိုင်ကယ်တို့သည် တလစပ် အပြင်းမောင်းနှင်ပြီး မြို့ထဲသို့ ပြန်သွားကြသည်။ လူတိုင်းမျက်နှာပေါ်တွင်လည်း စိုးရိမ်ကြောင့်ကြစိတ်များကြောင်း သိသာထင်ရှားလှသည်။ ဧကန္တ တစ်ခုခု ထူးခြားနေသည်ကို လူခါး သတိထားမိလိုက်သည်။ ဒီအချိန် ဖုန်းဝင်လာပြီး

"ဟလို . . သားလား"

"ဟုတ်ကဲ့ . . အမေ . . ပြောပါ"

"အိမ်ကို ပြန်လာရင် ရဲစခန်းရှေ့က ဖြတ်ပြီး ပြန်မလာနဲ့နော်။ အခု ချက်ချင်း ပြန်လာကြတော့၊ အခုဆို အခုပဲ ထွက်လာကြတော့"

"ဟုတ်ကဲ့ပါ အမေ"လို့ ပြောရင်း ဖုန်းချသွားသည်။ အမေသည် တစ်သက်နဲ့ တစ်ခါ ဖုန်းမဆက်ချေ။ ဖုန်းဆက်ဖို့လည်း မတတ်ချေ။ တောသူတို့အတိုင်း ဖုန်းကို မည်သို့ကိုင်ရမည်ကို မသိသလို၊ ပျက်စီးသွားမည်ဟု စိုးရိမ်စိတ်ကြောင့် တစ်ခါမှ ဖုန်းမကိုင်၊ ဖုန်းဖြင့် စကားမပြောသော အမေသည် ယနေ့ သားဆီကို ထူးဆန်းစွာဖုန်းဆက်လာသည်။ လောကတွင် အသက်ဘေးနှင့် ကြုံတွေ့လာရလျှင် မိဘတိုင်းသည်

သားသမီးတို့အတွက် စိုးရိမ်ကြောင့်ကြတတ်ကြသည်မှာ ဓမ္မတာပင် မဟုတ်လော။ လူခါးလည်း ဒီသမီးလေးအတွက် နှာစေး၊ ချောင်းဆိုး သည်မှအစ စိုးရိမ်ခဲ့သည့်ဖခင်တစ်ဦးမဟုတ်လော။

ကိုကြီးသိန်းဆီကို ဖုန်းဆက်ကြည့်ပြီး အခြေအနေကို မေးကြည့် သည်။ ကိုကြီးသိန်းလည်း ဘာမှ မသိသေး။ နောက် ကိုကြီးထွန်းကို ဖုန်းဆက်မေးကြည့်သည်။ အတည်ပြုချက်တော့ မပေးနိုင်သေး။ ရဲစခန်း ရှေ့မှာ ပြဿနာဖြစ်နေသည်။ သူသွားကြည့်နေတုန်းပဲဟု ပြောရင်း ဖုန်းချ သွားသည်။ နီးစပ်ရာ အသိမိတ်ဆွေများဆီကို စုံစမ်းကြည့်သည်။ တစ်ယောက် တစ်မျိုးစီ အဖြေပေးကြသည်။

လူခါးလည်း သမီးနှင့် မိန်းမကို ဆိုင်ကယ်ပေါ်တင်ပြီး အိမ်ကို ပြန်လာခဲ့တော့သည်။ အချိန်ကိုကြည့်လိုက်တော့ ညနေ (၉)နာရီ ထိုးနေပြီ။ မာကျူရီ မီးလုံးကလေးများကို စီတန်းထွန်းညှိထားသော စစ်တွေမြို့၏ အလှတရားသည် ဇွန်လ၏ ပွင့်လင်းမှု မိုးကောင်းကင် အောက်တွင် အိပ်မွေ့ရလျက်ရှိပေတော့သည်။ သို့သော် စစ်တွေမြို့၏ တစ်ခုတည်းသော မာကျူရီမီးလုံးရှိရာ ကမ်းနားလမ်းနှင့် ကစ္ဆပနဒီမြစ်မှာ ကြက်မခွပ်လှိုင်းလုံးကလေးများကိုတော့ မလွှမ်းမိုးထားနိုင်ချေ။

မနက်ပိုင်းကဖြစ်ပွားခဲ့သော တောင်ကုတ်မြို့မှ သတင်းသည် ရခိုင်ပြည်မြို့နယ်များတွင် သာမက စစ်တွေမြို့ကလေးပေါ်တွင်လည်း ကောလဟာလအမျိုးမျိုးထွက်ပေါ်လျက်ရှိသည်။ ထို့ကြောင့်ပင် သတင်း အမျိုးမျိုးကြားတွင် အတည်ပြုချက်မပေးနိုင်သော ဖြစ်စဉ်တစ်ခုသည် စစ်တွေမြို့၊ အမှတ် (၁)ရဲစခန်းရှေ့တွင် ဖြစ်ပေါ်လျက်ရှိသည်ကိုတော့ လူတိုင်း နားစွင့်လျှက်ရှိသည်။

လူခါးလည်း သမီးနှင့် မိန်းမကို အိမ်ကို ပို့ပြီး အခြေအနေကို သိရအောင် ရဲစခန်းရှေ့သို့ ထွက်လာခဲ့သည်။ ရဲစခန်းရှေ့ကို ရောက်သွား သောအခါ လူများစုရုံးပြီး သူတလူ ငါတမင်းဖြင့် အခြေအနေသည် ဝရုန်းသုန်းကားဖြစ်နေသည်။ ဆိုယ်ကယ်ကို အဆင်ပြေမည့်နေရာ တစ်ခု တွင် ထားလိုက်ပြီး အခြေအနေကို ကြည့်လိုက်သည်။ တဖြည်းဖြည်း



လူအုပ်စုတိုးလာပြီး အခြေအနေမှာ တစ်ဖက်နှင့် တစ်ဖက်တင်းမာ လျက်ရှိသည်။ လူခါးလည်း ပတ်ဝန်းကျင်ကို တစ်ချက်လောက် ချိုးကြည့်ပြီး အနီးအနားက လူတစ်ဦးအား ဖြစ်စဉ်ကို သိချင်စိတ်ဖြင့် မေးကြည့် လိုက်သည်။ ထိုလူက မေးကြည့်တော့ ဖြစ်စဉ်ကို အကျဉ်းချုံ့ပြောပြသည်။

"ဦးအောင်သန်းဝေဆိုတာ စစ်တွေမြို့ရှိ စက်ရုံစုဈေး (နာဇီဈေး) မှာ ကောက်ခံနေတဲ့ အခွန်ကောက်ခံမှုနှုန်း များပြားမှုနဲ့ ပတ်သက်ပြီး ဈေးသူဈေးသားများဆန္ဒကို ပြည်နယ်အစိုးရထံ တင်ပြပေးခဲ့တယ်။ စက်ရုံစုဈေးကို ဇွန်လ ၂ ရက်နေ့က ပုဂ္ဂလိကသို့ အစိုးရကနေ လေလံပေးပြီး ဈေးကောက်ခွင့်ပေးခဲ့တယ်။ ဥပဒေကြောင်းအရဆိုရင် ၂၀၁၁-၂၀၁၂ ခုနှစ်ကို စည်ပင်ဌာနက လေလံမပေးဘဲ စည်ပင်ကိုယ်တိုင်ကောက်ခံ မယ်လို့ အစိုးရက တရားဝင်ထုတ်ပြန်ထားတယ်။ အဲဒါကို လေလံဆွဲတဲ့ အဖွဲ့က မကျေနပ်လို့ အောင်သန်းဝေကို ရန်ရှာလို့ အခု အောင်သန်းဝေ ပျောက်နေတယ်။ ညနေ (၇)နာရီခွဲလောက်မှာ သူမိန်းမ ဒေါ်အောင်သန်း မြက အခု ရဲစခန်းကို လာပြီး အမှုဖွင့်တိုင်ထားတာပါ။ အမှုဖွင့်တာကို ရဲစခန်းက လက်မခံတဲ့ သဘောမျိုး ပြန်ပြောလိုက်တယ်လို့ ဆိုတယ်။ အဲဒါကို အခုမြင်နေရတဲ့ လူတွေက ဦးအောင်သန်းဝေကို ရှာဖွေပေးဖို့ လူထုက တောင်းဆိုနေကြတာဖြစ်ပါတယ်" လို့ ရှင်းပြသည်။ အခြေ အနေက ဆက်လက်တင်းမာလာသည်။ လူထုက များသထက်များလာ သည်။ အဓိပ္ပာယ် မည်မည်ရရ မသိဘဲ ကိုယ်ထင်ရာမြင်ရာနှင့် လိုရာကို ဆွဲပြောနေကြသည်။

အချိန်အားဖြင့် ၁၁ နာရီပတ်ဝန်းကျင်လောက်တွင် လူနှစ်ဦး ခုံတန်းပေါ်တက်ပြီး တစ်ဦးမှ

"ကျနော် အောင်သန်းဝေပါ၊ ဒီမှာ ကျနော့်မှတ်ပုံတင်ပါ၊ ကျနော် အောင်သန်းဝေ အစစ်ပါ"လို့ အော်ပြောသည်။ သို့သော် လူထုက လက်မခံ။ ဘေးနားက လူက

"ဟုတ်ပါတယ်။ သူ အောင်သန်းဝေပါ။ ကျနော် ရဲရဲကြီး အာမခံ ပါတယ်။ ခင်ဗျာတို့ ပြန်ကြတော့"လို့ အော်ပြောသည်။ ဘေးနားတွင်

ရှိသော လူများက မှတ်ပုံတင်ကို ယူကြည့်ကြသည်။ သို့သော် ဘေးပတ်ဝန်းကျင်ဆူညံသံကြောင့် တစ်ယောက်အသံကို တစ်ယောက် မကြားရ။ လူထုသည် မယုံတစ်ဝက် ယုံတစ်ဝက်ဖြင့် အိမ်မပြန်ကြသေးဘဲ အခြေအနေကို စောင့်ကြည့်နေကြသည်။ ရခိုင်တိုင်းရင်းသားများ တိုးတက်ရေးပါတီ ဥက္ကဋ္ဌ ဒေါက်တာအေးမောင်နှင့် ပြည်နယ် စိုက်ပျိုးရေးနှင့် မွေးမြူရေးဝန်ကြီး ဦးကျော်သိန်းတို့ကလည်း အခြေအနေကို လာရောက် ထိန်းသိမ်းကြသည်။ ထိုနည်းတူစွာ လူခါးလည်း အခြေအနေကို စောင့်ကြည့်လိုက်သည်။ အချိန်ကြာလာသည်နှင့်အမျှ လူထုက ရုန်းရင်းဆန်ခတ်ဖြစ်လာသည်။ တချို့သည် ရဲစခန်းထဲကို ဝင်ဖို့ ကြိုးစားလာကြသည်။ ဤအချိန်တွင် ခေါင်းဆောင်မရှိဘဲ မည်သူက မည်သူ့ကို ထိန်းလို့ရပါမည်နည်း။ လူတစ်ဦး တစ်ယောက်၏ အပြုအမူသည် ထိုလူနှင့်သာ သက်ဆိုင်မည်။ ကောင်း၏ ဆိုး၏ကို ဥပဒေကသာ ဆုံးဖြတ်ပါလိမ့်မည်။

လူထုကြား သောက်စားထားသူတချို့က ပါးစပ်ထဲ ရှိသမျှ ခန္ဓာကိုယ်မှ ခိုင်းနှိုင်းစကားလုံးများဖြင့် ဆဲဆိုနေကြသည်။ တချို့က ခဲတွေနဲ့ ထုကြသည်။ အခြေအနေသည် အေးဆေးရာမှ ရုန်းရင်းဆန်ခတ်ဖက်သို့ ဦးတည်လာသည်။ အခြေအနေမှာ အောင်သန်းဝေအုပ်စု၊ ဈေးကောက်အုပ်စု၊ ဒေသခံလူထုနဲ့ လုံခြုံရေးကြား အပြန်အလှန် အချီအတင်ဖြစ်လာကြသည်။

ညဉ့် (၁၁)နာရီ (၄၅)မိနစ်လောက်တွင် ရဲစခန်းမှ သေနတ်ပစ်ဖောက်ပြီး လူစုခွဲတော့လေသည်။ သေနတ်ပစ်ဖောက်သံကြောင့် လူများသည် ခြေဦးတည့်ရာနှင့် ဒူးတည့်ရာကို ပြေးကြတော့သည်။ လဲသူလဲ ကွဲသူကွဲဖြင့် အလဲလဲ အပြဲပြဲ။ ဒဏ်ရာရသူများဖြင့် အခြေအနေမှာ ချက်ချင်းပြောင်းလဲသွားလေတော့သည်။ လုံခြုံရေး ရဲသားထဲမှ အာဏာကို အလွဲသုံးစားလုပ်ချင်သော သူက သေနတ်ဖြင့် လူထုသို့ ပစ်ထည့်လိုက်ရာ လူခါးဘေးနားမှ ပြေးနေသော သူက

"အား . . သေပါပြီဗျ၊ ကယ်ကြပါအုံး၊ ကယ်ကြပါအုံး"

လို့ အော်သံကိုသာ ကြားခဲ့ရသည်။ ပြန်လှည့်ကြည့်ချိန်ပင်မရခဲ့။



အသက်နဲ့ခန္ဓာကို ခြေပေါ်မှာသာ မူတည်ပြီး လစ်ခဲ့ရသည်။ နောက်ကျခြေထောက် သစ္စာဖောက်ဆိုသည့်အတိုင်း၊ ခြေဖဝါးနှင့် တင်ပါး တသားတည်းကျအောင် ပြေးခဲ့ရသည်မှာ အမော။ လမ်းပေါ်တွင်တော့ ကာလာစုံရောင်စုံသော ဖိနပ်တွေ ပြန့်ကျဲနေသလို ပုဆိုးများပင် တွေ့ရသည်။

လူခါးသည် ဆိုင်ကယ်အနားသို့ရောက်သောအခါ ဆိုင်ကယ်ကို အမြန်နှုန်းဖြင့် မောင်းကာ အိမ်သို့ ထွက်ပြေးလာခဲ့ရတော့သည်။ ထွက်ပြေးလာသည်က အိမ်ဘက်၊ ရောက်သွားသည်က တခြားတစ်ဘက်ဖြစ်နေသည်။ လူသည် ကြောက်စိတ်တွေကြောင့် ခန္ဓာတစ်ခုလုံး တုန်လှုပ်ချောက်ချားနေသည်။ ညအမှောင်ထုတွင် ဘာကိုမှ သဲသဲကွဲကွဲ မမြင်ရဘဲ၊ ရဲသားမှန်းမသိ၊ အရပ်သားမှန်းမသိအောင် ဝေခွဲရခက်နေသည့် အချိန်ဖြစ်သည်။ ညဉ့်အမှောင်သည် လူခါးအား ပိုမိုခြောက်လှန့်နေသလိုမျိုးဖြစ်နေသည်။

ပိုမိုဆိုးရွားသည်မှာ အကြမ်းဖက်နှိမ်နှင်းသော လုံခြုံရေးများမှ မျက်ရည်ယိုဗုံးများဖြင့် ပစ်ခတ်လိုက်သောကြောင့် ပတ်ဝန်းကျင်သည် ပို၍မဲမှောင်သွားသည်။ ဘာဆို ဘာမှ မမြင်ရတော့။ မျက်လုံးကို အားပြုပြီး ကြိုးစားကြည့်သည်။ သို့သော် မျက်ရည်သာ ထွက်လာသည် ဘာကိုမှ မမြင်ရ။ ပစ်ခတ်မှုသည် ရပ်တန့်မည့်သဘောကို မမြင်တွေ့ရဘဲ တစ်ညလုံး ပစ်ခတ်နေလေသည်။ လူခါးလည်း နီးစပ်ရာ အသိအိမ်ကို ဝင်ပြီး အသက်တစ်ချောင်း လုံခြုံရေးအတွက် ခိုအောင်းလိုက်ရလေတော့သည်။ အချိန်အားဖြင့် မနက် (၅)နာရီ ပတ်ဝန်းကျင်လောက်ရှိတော့မည်။

မနက်ဘက်အရုဏ်ဆွမ်းလာယူသော အသက်အားဖြင့်(၁၀)နှစ်ပတ်ဝန်းကျင်လောက်သာရှိမည့် ကိုရင်ငယ်လေးတစ်ပါးသည် အပြစ်ကင်းမဲ့စွာဖြင့် စစ်တွေမြို့ လမ်းမကြီးကို ဖြတ်ကူးလာသည်။ ဤအချိန်ဆိုလျှင် ဘုန်းတော်ကြီးကျောင်းအတွက် ပုံမှန်ဆွမ်းဂျိုင့်ကို ယူနေကျ။ ကံကြမ္မာ၏ ရက်စက်မှုအောက်တွင် လုံထိန်းရဲများပစ်ခတ်လိုက်သော ကျည်သည် ကိုရင်ငယ်၏ ခြေကို ဖောက်ထွက်သွားလေတော့သည်။ အမှောင်ထု၏ အကာအကွယ်နောက်တွင် လုံထိန်းရဲများ၏ အကြမ်းဖက်

နှိမ်နှင်းမှုကြောင့် အရပ်သား (၁၂)ဦး အရေးပေါ် ဆေးရုံတက်ကုသခဲ့ရပြီး ထူးခြားဖြစ်စဉ်အဖြစ် လုံထိန်းရဲသားထဲမှ (၁)ဦး မိမိသေနတ်ကို ကျည်ရှင်းရာမှ သေဆုံးခဲ့ရသည်။

လူခါးလည်း နောက်တစ်နေ့ မိုးလင်းပြီး အိမ်ပြန်ရောက်သောအခါ ဇနီးကို ခေါ်ပြီး စစ်တွေမြို့ ပြည်သူ့ဆေးရုံကို သွားရောက် သတင်းမေး ကြည့်ရှုခဲ့သည်။ ဆေးရုံပေါ်ကို ရောက်သောအခါ ကိုရင်လေးကို မြင်သည်နှင့် လူခါးဘေးနားတွင် ရပ်နေသော လူခါး၏မိန်းမ မျက်ရည်ကျသည်ကို လူခါး ဆို့နင့်စွာ မြင်ခဲ့ရသည်။ တစ်ခါတလေတွင် အမျိုးအမည် မဖော်နိုင်သော ခံစားချက်ကို မည်ကဲ့သို့ ပုံနှိုင်းရမည်ကို စာဆိုရှင်များ ခက်ခဲသကဲ့သော လူခါးလည်း အမျိုးအမည်ဖော်မပြတတ်သော ခံစားချက် တစ်ခုသည် ရင်ထဲတွင် နင့်ကနဲဖြစ်လျက်၊ လူနာ လာကြည့်သူများဖြင့် စည်းကားနေသော ဆေးရုံတွင် မျက်ရည်ကျသူ၊ ငိုကြွေးသူတို့ဖြင့် ဆူညံလျက်ရှိလေတော့သည်။

"အမယ်လေး နာလိုက်တာ၊ အမေလေး သေပါပြီ"

လူနာများ၏ ညည်းညူသံများသည် အပြန်လမ်းတွင် နားထဲကကို မထွက်ဘဲ လူခါးတို့ တိတ်ဆိတ်စွာ အိမ်ပြန်လာခဲ့ကြသည်။

နောက်ပိုင်းတွင် ရန်ကုန်မြို့ ပြည်သူ့ဆေးရုံသို့ ယူဆောင်သွားရပြီး ကိုရင်လေးအပါအဝင် (၄)ဦး ခြေထောက်ကို ဖြတ်ခဲ့ရသည်ဟု ကြားသိခဲ့ရသည်။ ထိုနည်းတူစွာ တချို့ရခိုင်လူငယ်များလည်း ဖမ်းဆီးခံခဲ့ရသည်။ အမှောင်ထုထဲက ပေးခဲ့သော သင်ခန်းစာသည် လူခါးအား ကြောက်လန့်မှု အမွေကို ပေးခဲ့သည်။ ထိုအချက်ကြောင့်ပင် လူခါးသည် အမှောင်ထဲကို ရောက်လျှင် ကြောက်စိတ်ဝင်လာမိသည်။ ယခုလည်း အမှောင်ထုထဲတွင် မောင်တောမြို့မှ ရခိုင်လူထုတို့သည် မည်ကဲ့သို့ နေထိုင်နေလေမည်နည်းဟု လူခါး တွေးနေမိတော့သည်။ လူခါး ဘေးနားတွင် သမီးနှင့် ဇနီးတို့သည်လည်း အိပ်ပျော်လျက်ရှိပြီ။ အိပ်ရာပေါ်တွင် လူးလှိမ့်ရင်း အိပ်မပျော်နိုင်သူက လူခါးဖြစ်နေတော့သည်။

*×*×*

(၁၄)

၉. ၆. ၂၀၁၂ ရက် စနေနေ့

ပင်ပန်းနွမ်းနယ်မှုဒဏ်ကြောင့် လူသည် စောစောစီးစီး အိပ်ရာက မနိုးပေ။ ညတုန်းက အတွေးလွန်မှု၊ ပင်ပန်းမှုတို့ကြောင့် လူသည် မနက်ပိုင်း (၈)နာရီလောက်မှ အိပ်ရာမှ နိုးလာသည်။ ခါတိုင်းဆိုလျှင် လူခါး စောစောစီးစီး နိုးနေကျ။ သို့သော်လည်း လူခါးသည် မည်သည့်အခါမှ ဘုရားရှိခိုးသည် မရှိ။ မိန်းမကတော့ လူခါးနဲ့ ဆန့်ကျင်ဖက်။ ဘာသာရေး ကိုင်းရှိုင်းသည်။ အလုပ်ဘယ်လောက်ပဲများများ ဘုရားဝတ်ပြု၊ ဘုရားပန်းလဲ၊ ဆွမ်းကပ်ဖို့တော့ အမြဲသတိတရ လုပ်တတ်သည်။ အမေကတော့ လူခါးကို မကြာခဏ ဆူတတ်သည်။

"နင့် အသက်အရွယ်လည်းရလာပြီ။ အခုထိအောင် ကလေးစိတ်က မပျောက်သေးဘူး"

"မနက်စောစောစီးစီးထပြီးရင် ဘုရားလေး ဘာလေး ရှိခိုးမှပေါ့"လို့ မကြာခဏ ပြောတတ်သည်။ သို့သော် လူခါးကား ကိုယ်ထင် ကုတင်ရွေနန်းဆိုသလိုမျိုး။ တစ်ခါမှ မလုပ်ဖြစ်ခဲ့။ ဒါပေမယ့် အခါကြီး ရက်ကြီးဆိုတော့လည်း ဘုန်းကြီးကျောင်းလေး ဘာလေးတော့ မိသားစုနှင့်အတူ သွားဖြစ်ပါသည်။ ဒီထက် မပိုဘူးလားဆိုရင် ရခိုင်တို့ရဲ့ ရှေးဟောင်းမြို့ဖြစ်တဲ့ မြောက်ဦးမြို့၊ ကျောက်တော်မြို့က မဟာမြတ်မုနိ၊ ပုဏ္ဏား

ကျွန်းမြို့က ဦးရာဇ်တောင်ဘုရားသို့ မကြာခဏဆိုသလို မိသားစုလိုက် ဘုရားဖူးသွားဖြစ်တယ်။

လူခါး၏ မိန်းမသည် ခါတိုင်းဆိုလျှင် ဈေးသွားပြီ။ ယနေ့တော့ မနေ့က မောင်တောမြို့သတင်းကြောင့် ဈေးများလည်း ပိတ်လိုက်ပြီ။ ဒါကြောင့် နားနားနေနေဖြင့် လက်ဖက်ရည်သောက်ရန် အဆင်သင့် လုပ်ထားသည်။ လူခါး အိပ်ရာပေါ်တွင် လူးလှိမ့်လိုက်ပြီး အိပ်ရာမှ ထလိုက်သည်။ မျက်နှာသစ်၊ လက်ဖက်ရည်သောက်ပြီးသော်လည်း စိတ်က သိပ်မကြည်လင်။ မှုးနောက်နောက်ဖြစ်နေသည်။

"အောင်တယ်ဟဲ့ အောင်တယ်"ဆိုပြီး လူခါးတို့ ဘေးဖက်အိမ်က ကောင်လေးက အော်သံကို ကြားလိုက်ရသည်။ တစ်အိမ်သားလုံးလည်း ဆူညံနေသည်။

"အော်. . ဟုတ်တာပေါ့. . ဒီနေ့ ဆယ်တန်းအောင်စာရင်းထွက်တဲ့နေ့ကိုး"လို့ ပါးစပ်က ရေရွတ်လိုက်သည်။ ခါတိုင်းနှစ်တွေ ဆယ်တန်း အောင်စာရင်းတွေ ထုတ်ပြန်တော့ တစ်မြို့လုံးဆူညံနေသည်။ ဒီနှစ်တော့ ဆယ်တန်းအောင်စာရင်းထွက်တာကို လူခါးတောင် သတိမရမိခဲ့။ ဒီလို အခြေအနေမျိုးမှာ ပျော်စရာဆိုလို့ တစ်ကွက်ကလေးမှ မရှိသည့်အခြေ အနေတွင် ဒီအသံလေးကတော့ ဒီမနက်ဘက်အတွက် အချိုမြိန်ဆုံး ဖြစ်ခဲ့သည်။ ဟုတ်ပါသည် ဒီနေ့ ၉. ၆. ၂၀၁၂ ရက် စနေနေ့ ဆယ်တန်း အောင်စာရင်းထွက်သည်။ အောင်သူပျော်၍ ရှုံးသူ ငိုရသည့်နေ့ မဟုတ်လား။

"ဇွန် ၊ ဇူလိုင်မှာ ရွာတဲ့ မိုးဖွဲလေးများ မစဲသလို . . မောင့်ရဲ့ အချစ်က အမြဲရှိနေမယ်"လို့ ရေဒီယိုမှလာသော သီချင်းနှင့်အတူ ဇွန်မိုးသည် သည်းထန်စွာ ရွာရမည် ဖြစ်သော်လည်း ယခုကား မိုးဖွဲ၊ မိုးပေါက်လောက်ကိုတောင် ကောင်းကောင်း မမြင်ရချေ။ ကောင်းကင်ယံ တွင်တော့ တိမ်သား၊ တိမ်လိပ်တို့သည် တလိပ်လိပ် တက်လာလျက် ရှိသည်။ ရခိုင်မိုးသည် အငြိုးကြီးသည်။ ဒီတစ်ချိန်တွင် ဇွန်မိုး အငြိုးမကြီး ချေ။



လူခါးလည်း လက်ဖက်ရည် သောက်ပြီး ကိုကြီးသိန်းတို့ဆီကို ထွက်လာခဲ့သည်။ ကိုကြီးသိန်းတို့ဆီတွင်တော့ မနေ့ကလောက် လူမစုံ သေးချေ။ ဆရာသိန်းတို့၊ ကောင်းဇံတို့၊ ဇော်ထွန်းတို့ကတော့ ရောက်နှင့် နေကြပြီ။ သူတို့အုပ်စုကတော့ လက်ဖက်ရည်သောက်ရင်း မနေ့က ကိစ္စကို ဆွေးနွေးနေကြတယ်။

လူခါးလည်း ဆိုင်ကယ်ကိုထားပြီး အထဲဝင်ရင်း "မင်္ဂလာပါ"လို့ နှုတ်ဆက်လိုက်သည်။ ကောင်းဇံက "မင်္ဂလာပါ. . ဗျာ"လို့ ပြန်နှုတ် ဆက်ရင်း

"ခင်ဗျား. . . မနေ့က စာရင်းတွေတော့ တော်တော်ပြည့်စုံတယ် ဗျာ၊ ကျနော် ဖတ်ထားပြီးပြီ။ ဒါနဲ့ ဒီနေ့လောက်ဆိုရင် အပျက်အစီး စာရင်းချုပ်ရယ်၊ ထွက်ပြေးတိမ်းရှောင်နေကြတဲ့ ဒေသခံ ဒုက္ခသည်တွေရဲ့ စာရင်းကတော့ ရလောက်တော့မယ် ထင်တယ်"ဟု လှမ်းပြောသည်။

ကိုကြီးသိန်းမှ

"ဒါပေမယ့် တောထဲ၊ တောင်ထဲက လူတွေကို ဘယ်လိုလုပ်ကြမလဲ မသိဘူး"

"မနေ့ကလည်း တစ်နေ့လုံးအခင်းဖြစ်တာဆိုတော့ ကလေးတွေနဲ့ သက်ကြီးရွယ်အိုတွေကတော့ ဒုက္ခပဲဗျာ။ ဒီလောက်ဆိုရင် ထမင်းငတ် လောက်ပြီ"ဟု ညည်းသလိုလို ပြောသလိုလိုဖြင့် တွေးပူနေသည်။

နံနက်ပိုင်း စစ်တွေမြို့ရဲ့ လမ်းမများဟာ အလုပ်ရှုပ်နေကြသည်။ ဈေးဝယ်သွားသူများ ၊ မနက်ဖက် နံနက်စာကို အပြင်ထွက်စားသူတို့ဖြင့် လှုပ်ရှားနေသကဲ့သို့ ဆယ်တန်းအောင်စာရင်းထွက်တော့ ပိုပြီး စည်ကား သွားသည်။ လူခါးလည်း သတိရရင်

"ဆရာသိန်း . . ကလေး အောင်သလားဗျာ"

"အောင်ပါတယ်. . (၄)ဘာသာတောင် ပါတယ်ဗျာ"

"ဟာ. . ဂုဏ်ယူပါတယ်ဗျာ"လို့ ပြောလိုက်သည်။

ဇော်ထွန်းက -

"မနေ့က မောင်တောမြို့နယ် ဖြစ်စဉ်ကို အစိုးရရဲ့ တီဗွီ(၈)နာရီ

သတင်းမှာ ကြေငြာသွားတယ်ဗျာ၊ ခင်ဗျား ကြည့်လိုက်ရသေးလား ကိုလူခါး”လို့ လှမ်းမေးသည်။

“ဟ . . မနေ့က ကျနော်က ညဥ့်သန်းခေါင်လောက်မှ အိမ်ပြန်ရောက်သွားတာ၊ ဘယ်ကြည့်လိုက်ရမလဲ”

“ဒါဆိုရင် ဒီနေ့ထုတ် မြန်မာ့အလင်း၊ ကြေးမုံသတင်းစာတို့မှာ ပါလောက်တယ်။ တခြားဂျာနယ်တွေမှာလည်း ပါလောက်တော့မယ်”ဟု ပြန်ဖြေလိုက်သည်။

“ဟုတ်ပဗျာ. . ဒီနေ့တော့ မျက်နှာဖုံးသတင်းနဲ့ကို ပါလောက်တယ်”ဟု ဇော်ထွန်းမှ ပြောသည်။

လူခါးလည်း မနေ့က ကျန်ခဲ့သည့် စာရင်းစာရွက်များကို ပြန်လည်ကောက်ကိုင်ရင်းနဲ့ မနေ့က စာရင်းတွေကို ပြန်စစ်ကြည့်နေတယ်။ အသေအပျောက်စာရင်းတွေရယ်၊ အပျက်အစီးစာရင်းတွေအပြင် ဒီနေ့တော့ မောင်တောမြို့နဲ့ နီးစပ်ရာ တခြားဒေသတွေနဲ့ ဒုက္ခသည်စာရင်းတွေကို ပြုစုဖို့ လုပ်လိုက်သည်။

၈. ၆. ၂၀၁၂ ရက်နေ့ ဘင်္ဂလီတို့၏ အကြမ်းဖက်မှုကြောင့် ယာယီဒုက္ခသည်စခန်းများ တွင် ခိုလုံနေကြသူများစာရင်း-

၁။ ဗဟိုကျောင်း (အိမ်ထောင်စု ၉ စု ၊ လူ (၄၄)ယောက်)
၂။ အ. မ. က (၃) (အိမ်ထောင်စု ၃၅ စု ၊ လူ (၁၅၀)ယောက်)
၃။ အ. မ. က (၁) (အိမ်ထောင်စု ၁၈ စု ၊ လူ (၇၃)ယောက်)
၄။ အလိုတော်ပြည့်ကျောင်း (အိမ်ထောင်စု ၇၈ စု ၊ လူ (၃၄၃)ယောက်)
၅။ ပရဟိတကျောင်း (အိမ်ထောင်စု ၁၆ စု ၊ လူ (၅၀)ယောက်)
၆။ အလယ်သံကျော် (အိမ်ထောင်စု ၁၁၁ စု ၊ လူ (၄၇၄)ယောက်)
၇။ နီးစပ်ရာ နစက နယ်မြေစခန်းများကို ဝင်ရောက် ခိုလှုံ (နစက-နယ်စပ်ဒေသလူဝင်မှု စစ်ဆေးရေးကွက်ကဲမှု ဌာနချုပ်)
(အိမ်ထောင်စု ၁၈၂ စု ၊ လူ (၈၂၄)ယောက်)
၈။ တခြားနေရာများ (အိမ်ထောင်စု ၁၂ စု ၊ လူ (၂၂၈)ယောက်)

တို့ ဒုက္ခသည်များလာရောက် ခိုလှုံကြသည်။ ဆက်ပြီး နိုင်ငံပိုင်သတင်းတွင်



ဖော်ပြထားသော သတင်းကိုလည်း ဆက်လက် မှတ်တမ်းတင်ပေးလိုက်သည်။

ရခိုင်ပြည်နယ်၊ မောင်တောမြို့နယ်အတွင်း ဖြစ်ပွားခဲ့သော ဆူပူအကြမ်းဖက်မှုဖြစ်စဉ်များကြောင့် နေအိမ်များ မီးလောင်ဆုံးရှုံးခဲ့ပြီး လတ်တလော ဒုက္ခရောက်နေကြသည့် ဒေသခံဒုက္ခသည်များအတွက် မောင်တောမြို့တွင် ပရဟိတကျောင်း၊ အောင်မြေဗောဓိအလိုတော်ပြည့်ကျောင်း၊ ဗဟိုကျောင်းတို့၌ ကယ်ဆယ်ရေးစခန်းသုံးခုဖွင့်လှစ်ပြီး ကူညီစောင့်ရှောက်မှုပေးလျက်ရှိကြောင်း၊ အဆိုပါ ကယ်ဆယ်ရေးစခန်းများအတွက် လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့် ပြန်ကြားရေးဝန်ကြီးဌာနမှ ထောက်ပံ့ရေးပစ္စည်း ၃. ၃ တန်နှင့် ကာကွယ်ရေးဝန်ကြီးဌာနမှ ဘေထုပ် ၅၀ စုစုပေါင်း ၂ တန်ကျော်ပေးပို့ခဲ့ပြီးဖြစ်ကြောင်းနှင့် ထောက်ပံ့ရေးပစ္စည်းများ ဆက်လက်ပေးပို့သွားမည်ဖြစ်ကြောင်း၊ ထို့အပြင် ထိခိုက်ဒဏ်ရာရရှိသူများနှင့် ဒေသခံပြည်သူများ၏ ကျန်းမာရေးစောင့်ရှောက်မှုများအတွက် ကာကွယ်ရေးဝန်ကြီးဌာနမှ ဆေးဝန်ထမ်း ၃၂ဦးနှင့် အဖွဲ့ဝင် ၁၀ ဦးပါ ဆေးကုသရေးအဖွဲ့တစ်ဖွဲ့တို့ ရောက်ရှိပြီး ကျန်းမာရေးစောင့်ရှောက်မှုများ စတင်ဆောင်ရွက်ပေးနေပြီဖြစ်ကြောင်း၊ မောင်တောမြို့၏ တည်ငြိမ်အေးချမ်းမှုနှင့် တရားဥပဒေစိုးမိုးမှုအတွက် ဆက်လက်ထိန်းသိမ်းရန်နှင့် ဒေသခံပြည်သူများအား လိုအပ်သည့် ကူညီပံ့ပိုးစောင့်ရှောက်မှုများ ကြီးကြပ်ဆောင်ရွက်နိုင်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဒုတိယဗိုလ်ချုပ်ကြီး လှမင်း၊ ရခိုင်ပြည်နယ် ဝန်ကြီးချုပ်ဦးလှမောင်တင်၊ အနောက်ပိုင်းတိုင်း စစ်ဌာနချုပ်တိုင်းမှူး ဗိုလ်မှူးချုပ်ကိုကိုနိုင်၊ လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန ဒုတိယဝန်ကြီး ဦးဘုန်းဆွေတို့ ရောက်ရှိကွက်ကဲလျက်ရှိကြောင်း ထုတ်ပြန်ထားသည်ဟု ဖော်ပြထားသည်ကိုလည်း မှတ်တမ်းတင်ထားလိုက်သည်။

မောင်တောမြို့ တည်ငြိမ်အေးချမ်းရေးနှင့် ပြန်လည်ထူထောင်ရေးဆိုင်ရာ ကြီးကြပ်ရေးအဖွဲ့ကို ဖွဲ့စည်းလိုက်ကြောင်း နိုင်ငံတော် သမ္မတ

ရုံးဝက်ဆိုက်တွင် သတင်းထုတ်ပြန်ချက်စာရွက်ကိုလည်း လက်ခံရရှိသည်။ အဆိုပါအဖွဲ့တွင် အဖွဲ့ဝင် (၇)ဦးပါဝင်ပြီး

(၁) ဦးအောင်ကြီး (နယ်စပ်ဒေသ လူဝင်မှုစစ်ဆေးရေး ကွက်ကဲမှုဌာနချုပ်) ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်

(၂) ဒုတိယရဲမှူးကြီး မျိုးဝင်း (ခရိုင်ရဲတပ်ဖွဲ့မှူး မောင်တောခရိုင်)

(၃) ဦးမြင့်သန်း (ခရိုင်ဥပဒေအရာရှိ မောင်တောခရိုင်)

(၄) ဦးဝင်းစိန် (ခရိုင်လူဝင်မှုကြီးကြပ်ရေးဦးစီးမှူး)

(၅) ဒေါက်တာကျော်မောင်မောင်သိန်း (ခရိုင်ဆရာဝန်ကြီး၊ မောင်တောခရိုင်)

(၆) ဦးအောင်သက်ရှည် (မြို့နယ် စည်ပင်သာယာရေး အုပ်ချုပ်ရေးမှူး၊ မောင်တောမြို့နယ်)

(၇) ဦးအောင်မြင့်စိုး (ခရိုင်အုပ်ချုပ်ရေးမှူး၊ မောင်တောခရိုင်) တို့ကို ဖွဲ့စည်းထားသည်ဟု ဖော်ပြထားသည်။

ဆက်ပြီး မောင်တောမြို့တွင်းသို့ ပေးဝေနေသည့် ရေများကို စည်ပင်သာယာမှ ဖြတ်တောက်လိုက်ကြောင်း၊ ဘင်္ဂလီများမှ သောက်သုံးရေများတွင် အဆိပ်ခပ်လိုက်သည်ဖြစ်သောကြောင့် ယခုလို ပိတ်လိုက်ခြင်းဖြစ်သည်ဟု ဆိုသည်။ ၎င်းပြင် မောင်တောမြို့ ပြည်သူ့ဆေးရုံပေါ်သို့လည်း ဒဏ်ရာရ လူနာများ အဆက်မပြတ် ဝင်ရောက်လာကြောင်းကိုလည်း ဖော်ပြထားသည်။

တပ်မတော်(ရေ)မှ စစ်ရေယာဉ်အချို့မှာ မောင်တောမြို့နယ် အနောက်ဘက် မြန်မာ့ရေပြင်ပိုင်နက်မှတစ်ဆင့် မသမာသူများ ဝင်ရောက်လာခြင်း မရှိရေးအတွက် ယနေ့ နံနက်ပိုင်းမှ စတင်ပြီး ကင်းလှည့်လုံခြုံရေးဆောင်ရွက်လျက်ရှိနေကြောင်း နိုင်ငံပိုင်သတင်းများတွင် ဖော်ပြထားသည်။

ဆက်ပြီး ပြည်ထဲရေးဝန်ကြီးဌာနမှ တရားဝင်ထုတ်ပြန်ခဲ့သော စာရင်းများအရ ယမန်နေ့က ဖြစ်ပွားခဲ့သော မောင်တောဖြစ်စဉ်၌ သေဆုံးသူ (၇)ဦး၊ ဒဏ်ရာရသူ (၁၇)ဦး၊ အိမ်ခြေ(၄၉၄)၊ ဈေးဆိုင်



(၁၉)ဆိုင်၊ တည်ခိုခန်း(၁)ခုလို့ ဖော်ပြခဲ့သည်။

လူခါး၏ စိတ်ကား ပြုစုနေသော စာရင်းမှတ်တမ်းတွင် ရှိနေသည်။ သို့သော်လည်း မကြာခဏဆိုသလို အတွေးတို့သည် မောင်တောမြို့ဆီသို့ ရောက်သွားတတ်သည်။ လူမျိုးတစ်မျိုး၏ဇာတိသည် ကြိုးချင်းသွယ်နေသည် မဟုတ်ပါလား။ မောင်တောမြို့မှ ရခိုင်၊ ဗမာ၊ မြို၊ သက်၊ ဒိုင်းနက်တို့သည် လူခါးတို့၏ ညီအစ်ကိုတွေမဟုတ်လား။ လက်ထိပ်ကို ဆိပ်လျှင် လက်ရင်းနာရမည်မှာ အမှန်ပင်မဟုတ်လား။ လူခါးကို ယခုကား စဉ်စားချိန်ပင်မပေး။ အဖြစ်အပျက်တို့သည် အမြန်နှုန်းဖြင့် ဖြစ်ပွားလျက်ရှိနေသည်။ ယနေ့တော့ မောင်တောမြို့ကို အစိုးရမှ ထိန်းသိမ်းထားနိုင်ပြီဖြစ်ပြီး ဒုက္ခသည်များသည် အစိုးရမှ ဖွင့်လှစ်သော ဒုက္ခသည်စခန်းများကို တဖွဲဖွဲရောက်ရှိလာကြသလို၊ လုံခြုံမည်ထင်သည့်နေရာများသို့ အုပ်စုလိုက်သော်လည်းကောင်း၊ မိသားစုလိုက်သော်လည်းကောင်း ရောက်ရှိလာနေကြတော့သည်ဟု ကြားသိရသည်။

ကောင်းဇံက အခန်းထဲသို့ ဝင်လာပြီး

“ယနေ့ မနက်ပိုင်းက စစ်တွေမြို့၊ အားကစားရုံးနောက်မှာ GTC ကျောင်းသားတစ်ဦး အသတ်ခံရတယ်ဗျာ။ ကျောင်းသားကတော့ ကျောက်ဖြူမြို့က။ နာမည်ကတော့ ကိုထွန်းမြင့်အောင်၊ အသက်ကတော့ (၂၃)နှစ်၊ ဖြစ်စဉ်ကတော့ အမျိုးမျိုးပဲ။ လုံခြုံရေး ရဲကပြောတော့ အိမ်ရှင်ကိုယ်တိုင်သတ်တယ်လို့ ပြောတယ်။ အိမ်ရှင်မိသားစုက ပြောတော့ အိမ်ရှင်သတ်တာမဟုတ်ဘူးလို့ ပြောတယ်ဗျာ။ အလောင်းကိုရတဲ့ အနီးအနား ဘင်္ဂလီကုလားတွေကတော့ အဲဒီကောင်လေးကို သတ်ပြီးတော့ အလောင်းကိုလာယူဖို့ ရခိုင်တွေကို လှမ်းအော်ခေါ်တယ်လို့ ဆိုတယ်။ သတင်းကတော့ အမျိုးမျိုးထွက်ပေါ်နေတယ်။ တချို့ကလည်း ကုလားသတ်တယ်လို့ ပြောနေကြတယ်။ အလောင်းကတော့ စစ်တွေမြို့ ပြည်သူ့ဆေးရုံ ရင်ခွဲရုံကို ရောက်နေတယ်”လို့ ပြောပြသည်။

“နောက်ပြီး မနေ့ညနေကတည်းက ဘင်္ဂလီရွာတွေနဲ့ နီးစပ်တဲ့ ရွာတွေက လူတွေထွက်ပြေးလာကြပြီ။ တချို့ကတော့ သင်ပုန်းတန်း

ရခိုင်ရွာတွေဆီ ထွက်ပြေးလာကြတယ်လို့ ပြောတယ်။ မနက်ပိုင်းကတော့ မင်းဂံရပ်ကွက်သို့ ထွက်ပြေးလာတဲ့ သူတွေကိုလည်း ကျနော် တွေ့ခဲ့တယ်” ဟု ဆက်ပြောသည်။

ဟုတ်ပါသည်။ မိမိအသက်ထက် မည်သည်မှ အရေးမကြီးချေ။ အခြေအနေက အမျိုးမျိုးပြောင်းလဲသည့်အထဲတွင် အခင်းမဖြစ်ခင် ကြို တင်ရှောင်တာက အကောင်းဆုံးပဲမဟုတ်လား။ ယခုလည်း မှန်စီကျေးရွာ၊ ဂျောပူဂျာကျေးရွာ၊ သဲချောင်းကျေးရွာတို့ဖက်မှ ရခိုင်သားများသည် နီးစပ်ရာ လုံခြုံမည်ထင်သည့် ဒေသများသို့ ထွက်ပြေးလာကြသည်။ အထူးသဖြင့် စစ်တွေမြို့ မင်းဂံရပ်ကွက်၊ မြေဝတီရပ်ကွက်များသို့ ထွက်ပြေးခိုလှုံလာသည့်သတင်းများကိုလည်း ကြားနေရပြီ။

သို့သော် လူခါး သွားရောက် မကြည့်အား။ စာရွက်စာတမ်း တစ်ပုံတစ်မကြီးဖြင့် အလုပ်ရှုပ်နေသည်။ ရှုပ်လည်း ရှုပ်တန်ပါသည်။ နောင်လာနောင်သား မျိုးဆက်များ သိထားရစ်ဖို့ဆိုသည်မှာ စာရွက် စာတမ်းလောက် အထောက်အထား ခိုင်လုံသည်မှာ တခြားရှိလိမ့်မည် မဟုတ်ချေ။ လူခါးတို့လည်း စာပေဆိုင်ရာဗဟုသုတများကို ရှေးလူကြီးများ ရေးသားမှတ်တမ်းထားခဲ့လို့ နောက်လူတို့က သိရှိခွင့်ရခဲ့သည် မဟုတ်ပါ လော။

ယနေ့ကား ရန်ကုန်မြို့မှ သတင်းထောက်များပင် ရောက်လာ ကြပြီ။ ဘယ်နေရာမှာ ဘာဖြစ်သည်ကို အနံ့ခံနေကြသော သတင်းသမား များ အချို့အချို့သည် ဗွီဒီယိုကင်မရာ၊ ဓာတ်ပုံကင်မရာကြီးများကို ကိုင်ဆောင်ပြီး သတင်းနောက်ကို အမဲလိုက်သလိုမျိုး လိုက်နေကြပြီ။ တချို့သတင်းထောက်များဆိုလျှင် မောင်တောမြို့ကို ဘယ်လိုသွားရမည်ကို စုံစမ်းနေသည်ကိုလည်း တွေ့ရသည်။ သို့သော်လည်း မောင်တောမြို့သို့ ထွက်သော သင်္ဘောများ၊ စက်လှေများကိုကား အစိုးရမှ တရားဝင် ပိတ်ထားခဲ့ပြီ။ ဘယ်လိုမှ သွားလို့မရဘဲ သတင်းထောက်များသည် စစ်တွေမြို့ပေါ်တွင် သောင်တင်နေကြသည်။ သတင်းထောက်တို့အတွက် ကံကောင်းချင်တော့ ‘ကံကောင်းချင်သည့်ကြောင် ပစ်လိုက်မှ ငါးခြောက်ပုံ



မှာတင်’ဆိုသလိုမျိုး စစ်တွေမြို့သတင်းတို့သည် အဆက်မပြတ် ထွက်ပေါ် လာတော့သည်။

လူခါးတို့ အုပ်စုတွင်ကား ဟိုသွားလိုက် ဒီသွားလိုက်ဖြင့် အလုပ် ရှုပ်နေကြသည်။ တချို့ လူလတ်ပိုင်းအရွယ်တို့သည်လည်း ရောက်ရှိလာပြီး အခြေအနေကို မေးကြသည်။ စစ်တွေမြို့ပေါ်တွင်လည်း သတင်းအမျိုးမျိုး ထွက်ပေါ်နေသည်မှာ မဆုံးသော ကိုးရီယားဇာတ်လမ်းတစ်ပုဒ်ကို ကြည့်နေရသလိုပင်။ ခဏလေးအတောအတွင်းပင် ဟိုဘက် ဘာဖြစ်သည် ဒီဘက်မှာ ဘာဖြစ်သည်ဖြင့် အခြေအနေသည် တင်းမာလျက်ရှိသည်။ နိုင်ငံရေးပါတီအသီးသီး၊ လူမှုအဖွဲ့အစည်းအသီးသီးမှလည်း မောင်တော မြို့ဖြစ်စဉ်ကို ကြော်ငြာချက်အမျိုးမျိုးထုတ်ပြန်နေကြသည်။ နိုင်ငံရေး ခေါင်းဆောင်အသီးသီးမှလည်း ဥပဒေအရ အရေးယူဆောင်ရွက်ဖို့ တိုက်တွန်းကြသည်။ တချို့ခေါင်းဆောင်များက စာနာထောက်ထားမှု၊ လူသားဆိုင်ရာ စာနာထောက်ထားမှု အကြောင်းအရာများကို စုတ်သပ်စွာ ပြောဆိုကြသည်။ တချို့ကလည်း ၁၉၈၂ ခုနှစ် ဥပဒေကို အသက် အမြန်သွင်းစေပြီး နယ်စပ်ခြံစည်းရိုးကို ဥပဒေဖြင့် ကာစေချင်ကြသည်ကို တွေ့ရသည်။

ဤသည်ကား ဖြစ်ရိုးဖြစ်စဉ်တစ်ခုမဟုတ်။ မဖြစ်ခင် တားဆီးမည် ကို မည်သူမှ သတိမထားမိခဲ့ကြ။ မီးသည် မလောင်မီက တားရသည့် အရာဖြစ်သည်။ ယခုကား တားချိန်ပင် မရလိုက်။ ရန်သူတို့သည်လည်း အလစ်အငိုက်ကို ဝင်ရောက်တိုက်ခိုက်သည့်သဘောမျိုးဖြစ်သည်။ အစိုးရ အပါအဝင် မြန်မာတစ်မျိုးသားလုံး ပြင်ဆင်ချိန်ပင် မရလိုက်။ ရန်သူက ဝင်တိုက်သွားသည်အချိန်တွင် စာနာမှု၊ သနားမှု၊ ကြင်နာမှု၊ ကူညီထောက် ပံ့မှုပြုရုံကတစ်ပါး တခြားရှိလိမ့်မည်မထင်။ ခေါင်းဆောင်တိုင်းသည် ခေါင်းမီးတောက်နေသည့်အချိန်မဟုတ်လား။ လူခါးသည်လည်း သာမန် ပြည်သူတစ်ဦးအနေဖြင့် ဒီလောက်တောင် ခံပြင်း၊ ကိုယ်ချင်းစာနေလျှင် နိုင်ငံခေါင်းဆောင်တွေဆိုလျှင် ပြောစရာမလိုတော့။

*×*×*

## (၁၅)

မီးတို့မည်သည် လောင်ပြီးလျှင် ကူးစက်တတ်သည်။ ယခုလည်း မောင်တောမြို့တွင် တောက်လောင်ခဲ့သော အနောက်တံခါးမှ မီးစများသည် ရခိုင်များ နေထိုင်ရာ တစ်ခြားဒေသများသို့လည်း ပရိဒေဝမီးများအဖြစ် ကူးလောင်လျက်ရှိသည်။ ရခိုင်ပြည်နယ်အနှံ့ ကျေးရွာများသို့ သတင်းမီးသည် ကူးလောင်လျက်ရှိသည်။ ထိုမှတစ်ဖန် မြန်မာနိုင်ငံအနှံ့တင်မက ပြည်ပနိုင်ငံများသို့ပါ အင်တာနက်ကွန်ယက်များမှ ကူးစက်တောက်လောင်လျက်ရှိသည်။ ဆက်သွယ်ရေးကောင်းမွန်လာမှုနောက်တွင် သတင်းပွင့်လင်းမှုသည်လည်း အထိုက်အလျောက်ရလာခဲ့ရာ သတင်းတို့သည် အချိန်၊ စက္ကန့်မလပ် အင်တာနက်မှတစ်ဆင့် ပြင်ပကမ္ဘာနိုင်ငံများရှိ လူသားများဆီသို့ တိုက်ရိုက်ပို့လွှတ်နေသည်။

၉. ၆. ၂၀၁၂ ရက် နေ့လယ် (၂)နာရီတွင် ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်တွင်ရှိသော ဓညဝတီကျောင်းတိုက်တွင်လည်း ရခိုင်များ စုရုံးပြီး ဆုတောင်းပွဲများ ပြုလုပ်ကြသည်ဆိုသည့်သတင်းကို လူခါးဆီသို့ ရန်ကုန်မှ မိတ်ဆွေများက ဖုန်းဆက်ကြသည်။ သူတို့လည်း ရခိုင်သားချင်းတွေမို့ လက်ထိပ်ကို ဆိတ်လျှင် လက်ရင်းကလည်း နာတတ်ကြသည် မဟုတ်လား။ အားလုံး တိုင်းရင်းသားပေါင်းစုံ လူပေါင်း (၃၀၀)လောက် ရွှေတိဂုံ



ဘုရားရင်ပြင်တွင် စုဝေးပြီး (၄)ယောက် တစ်တွဲကျစီ တွဲလျက် ရွှေတိဂုံရင်ပြင်ကို ပတ်ကာ

“ရခိုင်ပြည်ကို ကာကွယ်ပါ”

“တစ်မျိုးသားလုံးကို ကာကွယ်ပါ”

“ဥပဒေအရ အမြန်အရေးယူပါ”ဆိုပြီး ဆိုင်းဘုတ်များကို ကိုင်ဆောင်လျက် ဆန္ဒထုတ်ဖော်ခဲ့ကြသည်။ ဆန္ဒထုတ်ဖော်သူများက ရွှေတိဂုံဘုရားရင်ပြင်ပေါ်ရှိ ဗုဒ္ဓဟူးထောင့်တွင် ဆုတောင်းပွဲများကိုလည်း ပြုလုပ်ခဲ့ကြသည်ဟု ပြောပြခဲ့သည်။

အချိန်အားဖြင့် (၂)နာရီခွဲပတ်ဝန်းကျင်လောက်ရှိမည်။ မင်းဂံရပ်ကွက်မှာရှိတဲ့ အသိမိတ်ဆွေတစ်ဦးဆီမှ ဖုန်းဝင်လာတယ်။

“မင်းဂံရပ်ကွက်ကို ဒိုးမြောင်ဘင်္ဂလီကျေးရွာမှလို့ ထင်ရတဲ့ ဘင်္ဂလီတစ်ဦးဟာ ဆိုင်ကယ်တွင် ဓာတ်ဆီဂါလံများတင်ပြီး မင်းဂံရပ်ကွက်ကို ဝင်ရောက်လာတယ်။ အဲဒါကို ရပ်ကွက်သားတွေကတွေ့တော့ စစ်ဆေးမယ်လည်း လုပ်ရော ဘင်္ဂလီကုလားက ဆိုင်ကယ်ပေါ်က ဆီဗုံးတွေကို မီးရှို့ရင်း ထွက်ပြေးသွားတယ်။ အခင်းဖြစ်ပွားတဲ့ နေရာက မင်းဂံရပ်ကွက်(၈)နဲ့ (၉)ကြားမှာ ဖြစ်ပွားခဲ့တယ်။ မီးကတော့ လူနေအိမ်တွေကို မကူးခဲ့ဘူး။ မီးလောင်နေတဲ့ ဆိုင်ကယ်ကို ရပ်ကွက်သူ/သားတွေက ငြိမ်းသတ်လိုက်ရတယ်။ လူတွေကတော့ ဒဏ်ရာအနာတရဖြစ်တာ မရှိဘူး”လို့ ပြောပြခဲ့သည်။ အခင်းကတော့ ဟိုနေရာ ဒီနေရာတွင် ဖြစ်ပေါ်လာခဲ့သည်။ ဘင်္ဂလီကုလားတို့သည် ရခိုင်လူအင်အားအနည်းဆုံးထင်သည် နေရာများသို့ ဝင်ရောက်ပြီး နှောင့်ယှက်အကြမ်းဖက်တော့မည့်လက္ခဏာများကို တွေ့လာရသည်။

အဓိက ရခိုင်လူအင်အားအနည်းဆုံးရပ်ကွက်သည် မင်းဂံရပ်ကွက်ဖြစ်နေသည်။ မင်းဂံရပ်ကွက်၏ ဘေးပတ်ပတ်လည်တွင် ဘင်္ဂလီကုလားများ ထိစပ်လျှက်ရှိပြီး မင်းဂံရပ်ကွက်ကို အစိုးရမှ ရွာသစ်တည်ဆောက်သောအခါ အကွက်(၁)မှ အကွက် (၁၇)ထိရှိသည်။

တစ်ဆက်တည်းပင်လျှင် စစ်တွေမြို့တွင်လည်း နေ့လယ် (၃)နာရီ

လောက်တွင် ဘုမေကျေးရွာမှ ဘင်္ဂလီကုလားများသည် သူတို့ရွာနှင့် ဆက်စပ်လျက်ရှိသော ဓညဝတီရပ်ကွက်ထဲမှ ရခိုင်များကို ပြဿနာ ရှာလျက်ရှိသည်။ ဘုမေဘင်္ဂလီရွာ ဘင်္ဂလီကုလားများသည် တုတ်၊ ဓား၊ လေးခွ၊ ဂျင်ကလိများကို ကိုင်ဆောင်ပြီး ဘင်္ဂလီကုလား အယောက် (၄၀၀)ခန့်လောက် ရခိုင်ပြည်နယ် ပညာရေးမှူးရုံးနှင့် မီးစက်ကြီးကြားမှ ကြားလမ်းကလေးကို အသုံးချကာ ချီတက်လာကြသည်။ အနီးဝန်းကျင်မှ အမျိုးသမီးများ၏ အော်ဟစ်အကူညီတောင်းသံများ၊ သံတိုင်ခေါက်သံများဖြင့် ပတ်ဝန်းကျင်တစ်ခုလုံးသည် ဆူညံလေတော့သည်။ အနီးဝန်းကျင်မှ အသံကြားသော လူတိုင်း လာရောက်ကြသည်။

ဒီသတင်းကို ကြားကြားချင်း လူခါးအပါအဝင် တခြားသော စစ်တွေမြို့ပေါ် ရပ်ကွက်များမှ လူများသည် အမြန်နှုန်းဖြင့် သွားရောက်ကြသည်။ ရန်သူဘင်္ဂလီတို့သည်လည်း ရှေ့ကို မတိုးရဲဘဲ ဖောက်လက်စ ရထားလမ်းတစ်ဖက်မှ လေးဂွများဖြင့် ပစ်ခတ်နေသည်ကို တွေ့ရှိရသည်။ သို့သော် လေးဂွဖြင့် ပစ်ခတ်မှုကား ရထားလမ်းကို ကျော်ပြီး ရခိုင်တို့ နေရာ ဆီသို့ကားမရောက်။ လူတို့သည် တအုန်းအုန်းဖြင့် အပြန်အလှန် အကဲစမ်းနေကြသည်။ လူခါးတို့ ရောက်သွားချိန်တွင် ဟိုဖက်လူအုပ်က အမျိုးသမီးတွေဆိုရင် ပုဆိုးတွေကို လှန်ပြလို လှန်ပြ၊ ဆဲသူဆဲဖြင့် ပွဲက တော်တော်စည်နေပြီ။ အစွန်းရောက် အကြမ်းဖက် ဘင်္ဂလီကုလားတို့ သည် စစ်တွေမြို့ပေါ်ရှိ ရခိုင်တို့အား ပေါ်ပေါ်ထင်ထင် စော်ကားလိုက် ခြင်းဖြစ်သည်။ ဘုမေ ဘင်္ဂလီကုလားရွာမှ စစ်တွေမြို့ထဲသို့ ဝင်ရောက် မည်ဆိုလျှင် တခြားသွားစရာလမ်းမရှိ။ သွားစရာဆိုလို့ အနီးစပ်ဆုံး အနေဖြင့် ဒီတစ်လမ်းသာရှိသည်။

လူခါးတို့ရောက်ရှိသော အရပ်တွင်ကား ဖုန်းခေါ်သံ၊ ဖုန်းစကား ပြောသံ၊ ဆဲသံ ၊ ဆူသံတို့ဖြင့် ပွက်ပွက်ညံနေသည်။ စစ်တွေမြို့တစ်မြို့လုံး မီးလင်းရေးအတွက် မီးပေးထားသောကြောင့် မီးစက်သံမှာလည်း ဆူညံနေ သည်။ လူခါးလည်း နီးစပ်ရာ ကိုယ့်အသိမိတ်ဆွေများဆီကို ဖုန်းဆက် အကြောင်းကြားလိုက်သည်။ အခြေအနေက သူ့ဖက်ကိုယ့်ဖက် တက်



မလာရဲ။ ခဏကြာလာလျှင် လုံခြုံရေး ရဲတို့ရောက်ရှိလာပြီး အခြေအနေကို ထိန်းသိမ်းလိုက်သည်။ သို့သော် အပြန်အလှန်အားဖြင့် ရခိုင်တို့လည်း မသွားသေးဘဲ စောင့်ကြည့်နေကြသလို ဘင်္ဂလီကုလားတို့လည်း မသွား သေး။ လောလောဆယ်တော့ လုံခြုံရေးများမှ ရထားလမ်းပေါ်တက် သွားပြီး နှစ်ဖက်ကြားတွင် နေရာယူလိုက်သည်။

ကုန်ခဲ့သောညဉ့်က ရွာခဲ့သော မိုးကြောင့် ရွှံ့ဗွက်တွေ ဖြစ်နေလေ သည်။ ထိုရွှံ့ဗွက်ကြားတွင် လူများသွားထားသောကြောင့် ပိုမိုဆိုးရွား နေသည်။ တချို့လူများသည် ရွှံ့အိုင်ကိုပင် သတိထားချိန်မရ။ ရွှံ့အိုင်ကြား လူးလိမ့်ထားသော ဖွတ်လို ဖြစ်နေကြသည်။ သာမန်အချိန်ဆိုလျှင်တော့ အပြန်အလှန်ကြည့်ပြီး ရယ်ဖြစ်ကြမည်။ ယခုကား ရယ်ဖို့ကိုယ် သတိမရ။ လူတိုင်းလက်ထဲတွင်လည်း တုတ်၊ ဓား၊ လက်နက် တစ်ခုမဟုတ် တစ်ခု ကိုင်ထားရသည်။

လူခါးဘဝတွင် တစ်ခါမှ မမြင်ခဲ့ဖူးသော လက်နက်ဆန်းကို မြင်ရ သည်။ ကိုင်လာသူမှာ တခြားသူမဟုတ် စံရွှေဖြစ်သည်။ ရဟန်းများသာ သုံးသော သင်ထုံးဓားကို လက်တွင်ကိုင်လျက်

"ဒီလက်နက်ဖြင့်သာ ခုခံပါလျှင် ရခိုင်တစ်မျိုးလုံးတော့ မျိုးပြုတ်ရ ချေရဲ့"ဟု လူခါးပါးစပ်က ရေရွတ်လိုက်သည်။ ကြောက်လန့်မှုကြောင့် ရရာ လက်နက်ကို ဆွဲလာသည့်ပုံဖြစ်သည်။

ဘေးက လူများက ပါးစပ်ဟလျက်. . .

ကိုကြီးသိန်းသည် မုတ်ဆိတ်မွေးများ ထောင်လျက်. . .

ကိုကြီးထွန်းသည် မျက်လုံးပြူးလျက်. . .

ကျန်လူများက ကြက်သေသေလျက်ရှိသည်။

"စံပဲဟေ့ . . . စံပဲဟေ့"ဟု ကိုကြီးထွန်းက ရေရွတ်လိုက်သည်။

"ကိုစံရွှေ ၊ ခင်ဗျား ဒီဓားကြီးနဲ့ ရန်သူကို ခုခံမလို့လား"လို့ ကိုကြီးသိန်းက မေးလိုက်ရာ၊ စံရွှေက သတိရသွားပုံပေါ်သည်။ ရှက်ရှက် ဖြင့် သူ့ရဲ့ သင်းထုံးဓားကို ဘောင်းဘီအိတ်သို့ ကပျာကယာ ထည့်လိုက် သည်။

မီးစက်ကြီးထဲမှ ဝန်ထမ်းမိသားစုများမှ အထုပ်များ၊ သေတ္တာများ၊ တခြားလူ့အသုံးအဆောင် ပစ္စည်းများကို ယူဆောင်ပြီး ပြောင်းရွှေ့ထွက်ပြေးနေကြသည်။ ထို့နည်းတူစွာ ပြည်နယ်ပညာရေးမှူးရုံးတွင် နေထိုင်သော ဝန်ထမ်းများလည်း ပြောင်းရွှေ့နေကြပြီ။

လုံခြုံရေး ရဲများမှလည်း ဟန့်တားသည်။ တာဝန်ရှိသူတစ်ဦးက

"ခင်ဗျားတို့လည်း ပြန်ကြတော့၊ ဒီမှာ ကျနော်တို့ရှိပါတယ်။ မစိုးရိမ်ကြပါနဲ့"လို့ အော်လံဖြင့် လှမ်းအော် တားမြစ်သည်။ သို့သော် လူများကား မပြန်ကြ။ နောက်ပိုင်းတွင် လုံခြုံရေးများက သေနတ်ကို မိုးပေါ်ထောင်ပစ်ဖောက်ပြီး လူစုခွဲသည်။ အချိန်က တဖြည်းဖြည်း ညနေပိုင်းသို့ရောက်ရှိလာသည်။ သို့သော် အဝေးမှ လာရောက်သောသူများ ပြန်သွားကြသော်လည်း အနီးဝန်းကျင်မှ လူများကား မပြန်ကြသေးဘဲ စောင့်ကြည့်နေကြသည်။

ညနေပိုင်း (၆)နာရီခန့်တွင် ဘုမေရပ်ကွက်ထဲရှိ မီးစက်ခွဆုံအဝိုင်းကနေ တက္ကသိုလ်လမ်းပေါ်တွင် တည်ဆောက်ထားသော (၄)ထပ်ဆောင်သို့ ဘင်္ဂလီကုလားများက ခဲများဖြင့် ပစ်ပေါက်ကြသည်။ ထိုနေရာမှာ လူခါးတို့ ရောက်ရှိသည့်နေရာနှင့် သိပ်မဝေးလှ။ အသံများကိုတောင် ကြားနေရသည်။ ခဲဖြင့် ပစ်ပေါက်မှုကြောင့် အဆောင်ထဲရှိ မှန်ပြူတင်းကွဲအက်သံများ၊ တက္ကသိုလ်ဆရာမများ၏ အော်သံများကြားရသဖြင့် လူခါးတို့သွားရောက် ကြည့်ရှုခဲ့သည်။ (၄)ထပ်ဆောင်ရှိ တက္ကသိုလ်ဆရာမများမှာ မနေရဲတော့ဘဲ လုံခြုံရေးများကို အကူအညီတောင်းပြီး ဘေးလွတ်ရာသို့ ထွက်ပြေးကြလေသည်။ လုံခြုံရေးရဲများမှာလည်း နားနေချိန်ပင်မရ။ ဟိုဘက်ပြီးလျှင် သည်ဘက်ကို လာကူရသည်။ သေနတ်ပစ်ဖောက်ပြီး လူစုခွဲရသည်။ သေနတ်ပစ်ဖောက်သံကြောင့် ဘင်္ဂလီကုလားတို့သည် နောက်ဆုတ်သွားလေသည်။ လုံခြုံရေးရဲများလည်း တက္ကသိုလ်ဆရာမများနေသည့် အဆောင်ဘက်တွင် တချို့တစ်ဝက် ကင်းစောင့်ချထားပြီး ကျန်တချို့မှာ ပထမ အခင်းဖြစ်ခဲ့သော နေရာတွင် ကင်းစောင့်နေရာယူလေသည်။



အချိန်ကား ညီအစ်ကို မကွဲတော့သည့်အချိန်ကို ရောက်လာသည်။ လူခါးတို့လည်း အိမ်ပြန်လာခဲ့ကြသည်။ တချို့သော လူများကား ကျန်ရစ်ခဲ့ကြသည်။ အခြေအနေကို စောင့်ကြည့်သူများနှင့် အနီးပတ်ဝန်းကျင်မှ လူများ ကျန်ရစ်ခဲ့ကြသည်။ တချို့ကလည်း ပြန်သူပြန်ကြလေပြီ။ လမ်းပေါ်တွင် ကောင်းဇံနှင့် ဇော်ထွန်းတို့ကို တွေ့ရာ

"ဗျို့-ကိုလူခါး မင်းဂံရပ်ကွက်ကို လိုက်မလား။ ကျနော်တို့ ကင်းစောင့်သွားမလို့"

"မလိုက်တော့ဘူးဗျာ"

"အဲ အဲ ဒါဆိုရင် လစ်ပြီနော်" ပြောရင်း ဆိုင်ကယ်ကို မောင်းထွက်သွားလေသည်။ ကောင်းဇံနှင့် ဇော်ထွန်းတွင် လူမှုရေးစိတ်အပြည့်ရှိသည်။ လူတစ်ဘက်သားအပေါ်တွင်လည်း နားလည်မှုရှိသည်။ သူတို့ကား လူပျို လူလွတ်များ ဖြစ်သောကြောင့် ကိစ္စမရှိချေ။ လူခါးတွင်ကား မိသားစုရှိသောကြောင့် မိမိရပ်ကွက်တွင် ကင်းစောင့်ခြင်းသည် အကောင်းဆုံးဖြစ်လေသည်။ လူခါးလည်း ဆိုင်ကယ်ဖြင့် အိမ်ပြန်လာခဲ့တော့သည်။ အိမ်လာရာလမ်းပေါ်တွင် ရှိသော ကင်းရုံကလေးကို ဖြတ်သွားချိန်တွင်

"လူခါး ကင်းလာစောင့်အုံးနော်" လို့ ဦးလေး စံလှက လှမ်းအော်သည်။

"ဟုတ်ကဲ့ ဦးလေး။ ရေမိုးချိုး၊ ထမင်းစားပြီးရင် ထွက်လာခဲ့ပါ့မယ်။ ဒါပေမယ့် သိပ်တော့လည်း မမျှော်လင့်နဲ့အုံး၊ အိမ်မှာ အိမ်သူသက်ထားနဲ့ တိုင်ပင်ရအုံးမယ်"

"အမယ် ငါ့လူက ခုမှ မယကြ ဖြစ်နေပါလားကွ"

"အဲဒီလိုလည်း မဟုတ်ပါဘူးဗျာ၊ ချစ်တာကိုး။ ချစ်လို့ တိုင်ပင်မလို့ ပြောတာပါ၊ ဟဲ . . ဟဲ"လို့ပြောရင်း ထွက်လာခဲ့သည်။

အိမ်ကိုပြန်ရောက်သည်နှင့် ရေမိုးချိုး၊ ထမင်းစားသည်။ ထမင်းစားပြီးသည်နှင့် ကင်းရုံကလေးသို့ ထွက်လာလိုက်သည်။ သို့သော် ယနေ့ညတော့ ကင်းမစောင့်တော့ဟု စိတ်မှာ မှတ်ထားလိုက်သည်။ အချိန်အား

ဖြင့် (၈)နာရီ ခန့်မို့ စကားပြောရုံသက်သက်သာ ထွက်လာလိုက်သည်။

ကင်းရုံလေးကိုရောက်တော့ လူက သိပ်မစုံသေး။ ရောက်ပြီးသူများမှ နေရာထိုင်ခင်း ပြုလုပ်သူက လုပ်ဖြင့်၊ တချို့ကလည်း ရေနွေးတည်ရန် မီးမွေးနေကြသည်။ လူခါး ရောက်သွားသောအခါ ဖယောင်းတိုင်မီးကလေး အလင်းရောင်ကို အားပြုရင်း လူ(၃)ဦး စကားဝိုင်းဖွဲ့ပြောနေကြသည်။ ထို (၃)ဦးထဲမှ ဦးလေးစံလှက

"အမယ်. . ငါ့ကောင်က ပါမစ်ရလာပြီထင်တယ်၊ လာ- ဒီမှာထိုင်"ဆိုပြီး နေရာပေးသည်။

"ဟုတ်ကဲ့ ဦးလေး ၊ ဒီနေ့တော့ ကျနော် ကင်းမစောင့်တော့ဘူးဗျာ။ မနက်ဖြန်မှ စောင့်တော့မယ်။ ဒီနေ့တော့ နားနားနေနေ နေချင်တယ်ဗျာ"

"အဲပါကွာ . . ရပါတယ်. . ဒီနေ့လည်း လူများမှာပါ"လို့ ပြောသည်။ လူခါးရောက်လာသည့်အတွက် သူတို့စကားဝိုင်းသည် စကားပြတ်သွားသည်။ ဦးလေးစံလှက သူ့လက်ထဲတွင် ကိုင်ထားတဲ့ စာရွက်တစ်ရွက်ကို လူခါးကို လှမ်းပေးလိုက်သည်။ စာရွက်ကြည့်လိုက်သောအခါ

"ရခိုင်ပြည်နယ်အတွင်း ဖြစ်ပွားခဲ့သည့် ဖြစ်ရပ်များအပေါ် Eleven Media Group ၏ သဘောထားကြေညာချက်-

နေ့စွဲ - ၉. ၆. ၂၀၁၂ ခုနှစ် စနေနေ့။

(၁) Eleven Media Group သည် ရခိုင်ပြည်နယ်အတွင်း ဖြစ်ပွားခဲ့သော ဖြစ်ရပ်များကြောင့် သေဆုံးခဲ့သူများ၊ ဒဏ်ရာရသူများ၊ အသက် အိုးအိမ် စည်းစိမ် ထိခိုက်နစ်နာခဲ့သူများ အားလုံးအတွက် ဝမ်းနည်းပါကြောင်း ဖော်ပြအပ်ပါသည်။

(၂) Eleven Media Group သည် ရခိုင်ပြည်နယ်အတွင်း ဖြစ်ပွားခဲ့သောအကြမ်းဖက်မှုများမှတစ်ဆင့် ဘာသာရေး၊ လူမျိုးရေး မုန်းတီးမှုများ၊ အဓိကရုဏ်းများ မဖြစ်ပေါ်သွားစေရန် သက်ဆိုင်သူများနှင့် သက်ဆိုင်ရာ အာဏာပိုင်များ၊ ပြည်သူများအနေဖြင့် ဝိုင်းဝန်းကြိုးပမ်းကြရန် တိုက်တွန်းအပ်ပါသည်။ ဤဖြစ်ရပ်များမှတစ်ဆင့် မတည်မငြိမ်ဖြစ်မှုများနှင့် လက်ရှိ ဒီမိုကရေစီ အပြောင်းအလဲများအား နောက်ပြန်သွားစေနိုင်ကြောင်း အသိပေးအပ်ပါသည်။



(၃) Eleven Media Group သည် နိုင်ငံနှင့်လူမျိုး၊ ပြည်သူများအတွက် သတင်းအမှန်များအား နိုင်ငံ့အကျိုးစီးပွား၊ လူထုအကျိုးစီးပွားအတွက် ရှေးရှု၍ ဆက်လက်ဖော်ပြသွားပါမည်။ BBC, AFP အပါအဝင် နိုင်ငံတကာ သတင်းမီဒီယာများအနေဖြင့်လည်း ဘင်္ဂါလီကုလားများသည် မြန်မာတိုင်းရင်သားများတွင် ပါဝင်ခြင်းမရှိသည်ကို တိကျစွာဖော်ပြရန် လိုမည်ဖြစ်ပြီး မြန်မာတိုင်းရင်းသား အရေးကိစ္စများကို ဖော်ပြရာတွင် မလိုလားအပ်သော လူမျိုးရေးအဓိကရုဏ်းများ မဖြစ်ပေါ်စေရန်အတွက် ဖြစ်စဉ်အမှန်များကို တိတိကျကျ ဖော်ပြရန် လိုမည်ဖြစ်ကြောင်း တိုက်တွန်းအပ်ပါသည်။

(၄) ယခု ရခိုင်ပြည်နယ်အတွင်း ဖြစ်ပွားခဲ့သည့် ဖြစ်ရပ်များ၏ အခြေခံဖြစ်သော ဘင်္ဂါလီကုလားများကိစ္စအား နိုင်ငံတော်အစိုးရနှင့် ဒေါ်အောင်ဆန်းစုကြည်တို့အနေဖြင့် နိုင်ငံတကာအား ရှင်းလင်းပြတ်သားစွာ ပြောကြားရန် အချိန်ကျရောက်ပြီဟု ယူဆပါသည်။ ဘင်္ဂါလီကုလားများအနေဖြင့် မြန်မာနိုင်ငံရှိ တိုင်းရင်းသားလူမျိုး ၁၃၅ မျိုး၌ ပါဝင်ခြင်းမရှိကြောင်းနှင့် မြန်မာနိုင်ငံအတွင်း၌ နေထိုင်မည်ဆိုပါက မြန်မာနိုင်ငံ၏ ဥပဒေများအား တိကျစွာ လိုက်နာရန် လိုအပ်မည်ဖြစ်ကြောင်း ရှင်းလင်းရန် လိုအပ်ပါမည်။ ဥပဒေမဲ့ ကျူးလွန်သူ ရာဇဝတ်ပေါင်းများစွာကိုလည်း ဥပဒေအရ ပြတ်သားစွာ အရေးယူရန် တိုက်တွန်းအပ်ပါသည်။" ဟု ဖော်ပြထားသည်။

လူခါးသည် နေ့လယ်လောက်က မောင်တောမြို့ရှိ Eleven Media Group သတင်းထောက် ကိုဝင်းမောင်အိမ်ကို ဖျက်ဆီးခံလိုက်ရပြီး Eleven Media Group ကပဲ ထောက်ပံ့ကြေးငွေ သိန်း(၂၀) ပေးတယ်ဆိုတဲ့ သတင်းကို ကြားခဲ့ရသေးသည်။

လူခါးဘဝတွင် သတင်းဌာနတစ်ခုက ပထမဦးဆုံး ထုတ်ပြန်သော သဘောထားကြေညာချက်အား ဖတ်လိုက်ရခြင်းပင် ဖြစ်သည်။ နိုင်ငံရေးပါတီများက ထုတ်ပြန်ချက်ကိုကား မကြာခဏဆိုသလို ဖတ်ဖူးသည်။ ယခုလည်း နိုင်ငံရေးပါတီများ၏ ထုတ်ပြန်ချက်များကား နေရာတိုင်း၊ လူတိုင်းလက်ထဲတွင် အလိုလို ရောက်ရှိနေသည်မဟုတ်လား။

ဦးလေးစံလှနှင့်အတူ ဘေးနားတွင် ထိုင်နေသူ ကျော်စိုးမှ

"ကိုလူခါး ကျနော်တို့ကတော့ ဒီအခြေအနေကို သုံးသပ်နေကြတာဗျာ၊ ခင်ဗျား အမြင်ကိုလည်း ပြောပါအုံး"

"ကျနော့်အမြင်ကိုတော့ မပြောလိုဘူးဗျာ။ ဒါပေမယ့် နိုင်ငံတကာမှာ ဒီလိုဖြစ်စဉ်တွေတော့ရှိခဲ့တယ်။ ဥပမာ-ဆိုကြပါစို့ ၁၉၈၁ ခုနှစ်က ကိုဆိုဗိုမှာ ဆာ့တ်နဲ့ အယ်ဘေးနီးယား လူမျိုးရေး ပဋိပက္ခဖြစ်တော့ အစ္စလာမ်ဘာသာဝင် အယ်ဘေးနီးယားတွေက တိုက်ခိုက်လို့ ဆာ့တ်လူမျိုး တစ်သောင်းလောက် ကိုဆိုဗိုဒေသကနေ ပြောင်းပြေးခဲ့ရတယ်။ ဆာ့တ်တွေရဲ့ ရှေးဘာသာရေး အဆောက်အဦတွေ အဖျက်အဆီးခံရတယ်။ နောက်ပိုင်း ပဋိပက္ခတွေ ခဏခဏဆက်ဖြစ်နေတော့ လူနည်းစု ဆာ့တ်တွေက ကိုဆိုဗိုမှာ မနေရဲကြတော့ဘူး။ ဒီလိုနဲ့ ကိုဆိုဗိုဒေသဟာ အယ်ဘေးနီးယားအနွယ် အစ္စလာမ်ဘာသာဝင် လူများစုနေထိုင်တဲ့ အရပ်ဖြစ်သွားခဲ့တယ်။"

"၁၄ ရာစုနှစ်တွေမှာ ကိုဆိုဗိုဒေသမှာ ဆာ့တ်ဦးရေက ၉၆ ရာခိုင်နှုန်းရှိပြီးတော့ အယ်ဘေးနီးယားက ၃ ရာခိုင်နှုန်းသာရှိရာကနေ ၁၉၉၁ ခုနှစ်လောက်မှာတော့ အယ်ဘယ်နီးယားက ၈၁.၆ ရာခိုင်နှုန်း ဖြစ်သွားပြီး ဆာ့တ်ကတော့ ၉ ရာခိုင်နှုန်းသာကျန်တဲ့အထိ လူဦးရေက ပြောင်းပြန်ဖြစ်သွားတယ်ဗျာ၊ သဘောကတော့ မြေမျိုလို့ လူမျိုးမပျောက်၊ လူမျိုမှ လူမျိုးပျောက်တယ်ဆိုတဲ့ သဘောပါပဲ"

"ဒီလောက်ဆိုရင် ကိုကျော်စိုးတို့လည်း ခန့်မှန်းလောက်ပါတယ်။ အနီးစပ်ဆုံးအဖြစ် ကျနော်တို့ ဒေသဖြစ်စဉ်နဲ့ တူတယ်လို့ ထင်တယ်ဗျာ။ ၂၀ ရာစုဝလိုဘယ်လိုင်းဇေးရှင်းနဲ့အတူ မြန်မာနိုင်ငံမှာ ပြောင်းလဲလာတဲ့



ဒီမိုကရေစီတံခါးဖွင့်လိုက်မှု နောက်မှာ ကပ်ပါလာတဲ့ ဖုံမှုန့်ဆိုပါတော့။ ဒီကောင်တွေက သတင်းမီဒီယာကို ကောင်းကောင်းအသုံးချသွားတာလို့ပဲ မြင်တယ်ဗျာ။ ခင်ဗျားတို့ ကျနော်တို့လည်း ရေဒီယို၊ ဂျာနယ်၊ သတင်းစာတွေ နားထောင်ကြ၊ ဖတ်ကြတာပဲ။ ဒါကို မကြိုက်ရင်လည်း ဘာမှ ပြောလို့မရဘဲ အောင့်သက်သက်နဲ့ ဖတ်နေရတာမဟုတ်လား။ ဒါပေမယ့် ကျနော်တို့ ယှဉ်ပြိုင်ရမယ့် ရန်သူက ပရိယာယ်မာယာများတယ်။ အောက်လမ်းကို အရမ်းသုံးတယ်ဗျာ" လို့ ပြောလိုက်သည်။ ဦးလေးစံလှမှ ဆက်၍

"ငါက ဘူးသီးတောင်၊ မောင်တော၊ ရသေ့တောင် မယူကမ်းဘက်ကို မကြာခဏ ရောက်ဖူးတယ်။ ငါတို့ငယ်ငယ်တုန်းက ဘူးသီးတောင်၊ မောင်တော အဲဒီဒေသတွေမှာ ဘင်္ဂလီမူဆလင်တွေက သိပ်မရှိဘူးကွ။ အခုနောက်ပိုင်းမှာ တော်တော်ကို တိုးပွားလာတာကို သတိထားမိတယ်။ ဒီပြဿနာကို အစိုးရ ဘယ်လိုကိုင်တွယ်ဖြေရှင်းမလဲဆိုတာပဲ စောင့်ကြည့်ရတော့မှာပေါ့"ဟု ပြောသည်။ ကျော်စိုးမှ

"ကျနော်တို့ဘဝက စောင့်ကြည့်ရုံမှတစ်ပါး တခြားမရှိပါဘူး ကိုစံလှရယ်"

"၁၈၂၄ ခုနှစ်မှာ အင်္ဂလိပ်တွေ ကျနော်တို့ ရခိုင်နဲ့ တနင်္သာရီကို သိမ်းပိုက်ပြီးတော့ ၁၈၃၉ ခုနှစ်မှာ မြေရိုင်းများ တိုးချဲ့ရေးအစီအစဉ်နဲ့ လုပ်သားလိုအပ်ချက်အရ ဒီဘင်္ဂလီတွေကို ကျွန်အဖြစ် ခိုင်းဖို့ခေါ်လာတယ်။ သူတို့ အဓိက ခေါ်လာတာက စစ်တကောင်းဒေသ၊ မဒရပ်က ဆူရတီတွေကို ခေါ်သွင်းလာတယ်။ ဒီကောင်တွေက နောက်ပိုင်း ကျနော်တို့ ဒေသမှာ စီးပွားရေး အဆင်ပြေတော့ မပြန်ကြတော့ဘူးပေါ့ဗျာ။ နောက်ပိုင်းဆိုတော့ သူတို့မိသားစု၊ သူတို့ဆွေမျိုးသားတွေကိုပါ ခေါ်သွင်းလာခဲ့တယ်။ ဒီပြင် ၁၉၄၇ ခုနှစ် ပတ်ဝန်းကျင်လောက်မှာဆိုရင် မူဂျာဟစ်သူပုန်ဆိုပြီး ထကြွခဲ့သေးတယ်။ ရခိုင်ရွာတွေကို မီးရှို့ဖျက်ဆီးခဲ့သေးတာပဲ မဟုတ်လား။ အခုလည်း သူတို့ အဲဒီလို ပုံစံမျိုးလုပ်လာတာပါ။ ဒီကောင်တွေက လူအင်အားများလာတော့ အိမ်ရှင်ကို နှင်ချင်ပြီပေါ့။ ယာရှင်ကို မျောက်နှင်တယ်ဆိုတဲ့ စကားပုံအတိုင်းပဲ" လို့ ဆွေးမြေ့

စွာ ပြောလိုက်သည်။ အားလုံးသောသူများ တိတ်ဆိတ်သွားကြသည်။ ဖြစ်ရပ်က ဟုတ်နေသည်။ မည်သူမှ ငြင်းချက် ထုတ်နိုင်မည် မဟုတ်။ ဒီအချိန်တွင် ရေဒီယိုမှ

"နိုင်ငံတော်ရဲ့ဝင်ပေါက် အနောက်တံခါးကို ကျွန်တော်တို့ ရခိုင်လူမျိုးတွေက နှစ်ပေါင်းများစွာ အသေခံပြီးဖြစ်ဖြစ်၊ အငတ်ခံပြီးဖြစ်ဖြစ် စောင့်ရှောက်ခဲ့တယ်။ ဒါပေမဲ့ အစိုးရဝန်ထမ်းတွေက အကျင့်ပျက်ခဲ့တာတွေရှိတယ်။ ပိုက်ဆံပေးပြီး လိုချင်တာတွေ ဖန်တီးသွားခဲ့တာတွေရှိတယ်။ အောက်ခြေမှာ ဖြစ်ခဲ့တာတွေက ကျွန်တော်တို့နေခဲ့တဲ့ ခေတ်အဆက်ဆက်ပဲ။ ကျွန်တော်တို့ သဘောထားကတော့ ကျွန်တော်တို့ရဲ့ ပိုင်နက်မြေကို တစ်လက်မမှ အဆုံးရှုံးမခံနိုင်ဘူး။ နှစ်ပေါင်းများစွာ ဘိုးဘေးစဉ်ဆက် အမွေပေးခဲ့တဲ့ ကျွန်တော်တို့ရဲ့မြေ၊ ကျွန်တော်တို့ရဲ့လေ၊ ကျွန်တော်တို့ရဲ့ရေ၊ တစ်လက်မမှ မပေးဘူး။ အဆုံးရှုံးမခံဘူး။ ကျွန်တော်တို့ အသက်ပေးပြီး ကာကွယ်သွားမယ်"ဟု ဒေါက်တာအေးမောင်မှ ပြောကြားသွားသည်။ လူတိုင်း တိတ်ဆိတ်သွားသည်။ မည်သူက ဘာပြော၍ ရမည်နည်း။ သူပြောသွားသော စကားသည် ရခိုင်တစ်မျိုးသားလုံး၏ စကားသံဖြစ်နေသည်။ အားလုံး ကိုယ့်အတွေးနှင့်ကိုယ် ငေးမှိုင်သွားကြသည်။

ဆက်ပြီး "ရမ်းဗြဲမြို့နယ် ကျောက်နီမော်အုပ်စု သပြေချောင်ကျေးရွာနေ မသီတာထွေးအား မုဒိန်းကျင့် လူသတ် လုယက်မှုနှင့် ပတ်သက်သည့် အဓိက တရားခံ တစ်ဦးဖြစ်သူ ထက်ထက်(ခ)ရော်ရှီးမှာ ဇွန်လ ၉ ရက် ညနေ ၅ နာရီခန့်တွင် ကျောက်ဖြူခရိုင်၊ ကျောက်ဖြူမြို့ အကျဉ်းထောင်၌ မိမိဝတ်ထားသော လုံချည်အနားကို ဆုတ်ဖြဲကာ ကြိုးအဖြစ်ပြုလုပ်ပြီး မိမိကိုယ်ကိုမိမိ အဆုံးစီရင်သွားကြောင်း သတင်းရရှိပါသည်"ဟု ကြေညာသွားသည်။

အောက်က ရေနွေးအိုးတည်နေသူ တစ်ဦးမှ

"ကောင်းတယ်၊ ဒီကောင်တွေလုပ်ရပ်ကြောင့် ခု ငါတို့ရခိုင်ပြည်မီးလောင်တိုက်ထဲကို ရောက်နေရတာ။ သေပါစေ"လို့ ပြောလိုက်သည်။



မည်သူကမှ ပြန်ပြောသံမကြား။ ခဏကလေး တိတ်ဆိတ်သွားကြသည်။ လူတိုင်း ကိုယ့်အတွေးဖြင့်ကိုယ်။ နောက်ဖြစ်လာမည့်ဘေးကို ပြေးတွေ့ရမည်ဆိုသည့် သဘောမျိုးဖြင့် ပင့်သက်ချမိသည်။

ရခိုင်တို့၏ရွှေရောင်တောက်ပခဲ့သော သမိုင်းခေတ်ကြီးများတွင် ဘယ်ကိုရောက်၍ ဘယ်လိုပေါက်နေမှန်းမသိသော လူမျိုးတစ်မျိုးသည် ယခု အားနည်းနေချိန်တွင် ဥပဒ်လာပေးလေပြီ။ ရခိုင်သမိုင်း ရိုင်းလေပြီမဟုတ်လား။ အနီးစပ်ဆုံး မနေ့က မောင်တောမြို့ဖြစ်စဉ်နှင့် ယနေ့ညနေ ဘုမေဘင်္ဂလီကုလားရွာက ဘင်္ဂလီကုလားတို့လုပ်ရပ်သည် ရခိုင်သားတို့၏နားရွက်ပေါ် တံထွေးဆွတ်လိုက်ခြင်း မဟုတ်ပါလော။

နာရီကိုကြည့်လိုက်တော့ (၁၀)နာရီ ထိုးခါနီးနေပြီ။ လူခါးလည်းဦးလေးစံလှ၊ ကျော်စိုးတို့ကို နှုတ်ဆက်ပြီး ထွက်လာခဲ့သည်။ အပြန်လမ်းတွင် အတွေးတွေကို တနင့်တပိုး ချီပိုးကာ လေးလံသော ခြေလှမ်းများဖြင့် အတွေးနယ်ချဲ့ပြီး အိမ်ပြန်လာခဲ့သည်။ သို့သော် ဝန်းကျင်တစ်ခုလုံးကား အိပ်ငိုက်စ ပြုနေပြီ။ တချို့အိမ်များလည်း မီးများ ပိတ်လေပြီ။ တချို့အိမ်များတွင်ကား ကိုးရီယား ဇာတ်လမ်းများမှ "အနာဆီယော" ဆိုပြီး အွန်စော၊ ဂျွန်စောတို့တိုင်းပြည်ဖြင့် မိတ်ဖွဲ့နေကြသည်။ သူတို့လည်း စိုးရိမ်စိတ်ကို ကိုးရီးဇာတ်လမ်းနှင့် ဖြေသိမ့်နေကြပုံရသည်။ လူခါးလည်း အိမ်ပြန်ရောက်တော့ လူက ပင်ပန်းသည်ကတစ်ကြောင်း၊ အတွေးနယ်ချဲ့သည်ကတစ်ကြောင်း အိပ်ရာထဲကို ဝင်လိုက်သည်။ ခေါင်းအုံးနဲ့ ခေါင်းထိလိုက်သည်နှင့် အိပ်ပျော်သွားလေတော့သည်။ ဘေးနားတွင်တော့ သမီးကလေးကတော့

"လူမိုက်ဆိုလျှင် ရှောင်သွေလွဲလို့
မမှိုဝဲနဲ့ ကင်းအောင်နေ
ပညာရှိကို အယှဉ်တွဲလို့
မှီဝဲ ဆည်းကပ် နာယူစေ"ဟု အသံကျယ်လောင်စွာဖြင့် အော်ဟစ်စာကျက်နေသည်ကိုပင် ငဲ့ကြည့်ဖော်မရခဲ့တော့ချေ။

*×*×*

(၁၆)

လူခါးသည် နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်လျက်ရှိသည်။ ညဥ့် (၁၁) နာရီ (၄၅)မိနစ်လောက်တွင် ဖုန်းသည် အသံကျယ်စွာ မြည်လာသည်။ လူခါးလည်း မျက်လုံးကိုတောင် ဖွင့်မရဘဲ လက်ဖြင့် စမ်းကာ ဖုန်းကိုင်လိုက်သည်။ မင်းဂံရပ်ကွက်တွင် ကင်းစောင့်ရင်း သွားအိပ်နေသော ကောင်းဇံမှ ဖုန်းခေါ်လာသည်။

"ဟလို . . ပြောပါ ကောင်းဇံ"

"ဒီမှာ မင်းဂံရပ်ကွက် (၈)ကို ကုလားတက်လာတယ်ဗျာ။ ဒီက လူတွေလည်း စုပြီးတော့ ကာကွယ်နေကြတယ်။ တက်လာတာကတော့ နေရာစုံပဲ။ လူအင်အား လိုက်မမီဘူး။ ဖြစ်နိုင်ရင် ခင်ဗျားတို့ ထွက်လာစေချင်တယ်။ ညဥ့် (၁၀)နာရီလောက် မင်းဂံအကွက် (၁၇)မှာ အရက်မူးရင်း အိပ်နေတဲ့ ဦးဘရွှေဆိုတဲ့ လူကို အနီးအနားမှာရှိတဲ့ ဘင်္ဂါလီကုလားရွာက လာရောက် ဆွဲခေါ်သွားကြတယ်။ ဒီက လူအုပ်နဲ့ လိုက်တာတောင် အလောင်းကို မရလိုက်ဘူး။ ဟိုဘက်က ရန်သူအင်အားက ပိုများတယ်"

"ဦးဘရွှေကို ဖမ်းခေါ်သွားပြီး သိပ်မကြာဘူး . . သူတို့ဘက်က



ဆောင်းဘောက်စ်တွေ ဖွင့်ပြီး သီချင်းတွေဆိုကြတယ်။ ကပြကြတယ်။ အောင်သေအောင်သား စားကြတဲ့ပုံပဲ။ သူတို့ ကြိုတင်အကြံအစည်ရှိပုံပေါက်တယ်။ ဖြစ်နိုင်ရင် လူကို ရသလောက် ခေါ်ပြီး ထွက်လာခဲ့ပါ"

"ဟုတ်ကဲ့ အခုပဲ ထွက်လာခဲ့ပါမယ်" ဆိုပြီး ဖုန်းချသွားသည်။

မင်းဂံအကွက် (၁၇)နှင့် အနီးစပ်တွင် ဒိုးမြောင်ဘင်္ဂါလီကုလားရွာရှိသည်။ ဒေသခံတွေပြောပြချက်အရဆိုရင် ဒီရွာဟာ တော်တော်ဆိုးရွားတယ်။ မကြာခဏဆိုသလို ရခိုင်တွေ ပိုင်ဆိုင်တဲ့ နွားတွေ၊ ကျွဲတွေကို ခိုးစားပြီး အောင်ပွဲခံကြတယ်လို့ ကြားရသည်။ ယခုကား နွားမဟုတ်၊ ကျွဲမဟုတ် လူကိုတောင် ပေါ်တင် ရန်စလာပြီ။

လူခါးလည်း နီးစပ်ရာ လူများကို လှမ်းပြောသည်။ ကိုယ့်အသိထဲမှ တစ်ယောက်ပြီး တစ်ယောက် ဖုန်းဆက်လိုက်သည်။ စစ်တွေမြို့ကလေးကား သိမ့်သိမ့်ခါအောင် တုန်လှုပ်လျက်ရှိသည်။ ဟိုဘက်အိမ် သည်ဘက်အိမ်များမှလည်း ဖုန်းဆက်သံများ၊ ဆိုင်ကယ်ဖြင့် မောင်းထွက်သံများကို ကြားရသည်။ သုံးဘီးဆိုင်ကယ်များ၊ ကားများမှ လူခေါ်သံများကိုလည်း ကြားလိုက်ရသည်။ ဟုတ်ပါသည်။ ညဥ့်အမှောင်ကို အားကိုးဖြင့် ရန်သူသည် ရခိုင်တို့၏ အားအနည်းဆုံးဖြစ်သော မင်းဂံရပ်ကွက်ကို ဝင်ရောက်တိုက်ခိုက်ပြီးဖြစ်သည်။

လူခါးသည် ဆိုင်ကယ်ကို ထုတ်ပြီး ချက်ချင်းထွက်လာလိုက်သည်။ ထွက်လာခါနီး ဇနီးက -

"ကို . . သတိနဲ့လည်း သွားအုံးနော်"လို့ လှမ်းမှာလိုက်သည်။

ကင်းရုံကလေးကို ဖြတ်သောအခါ ကင်းရုံတွင် လူ (၃)ဦးလောက်သာ ကျန်ခဲ့ပြီး ကျန်သူများ မင်းဂံရပ်ကွက်သို့ ထွက်သွားကြလေပြီ။ ကင်းရုံတိုင်းမှ သံချောင်းခေါက်သံများ၊ သံတိုင်အချက်ပေးသံများဖြင့် စစ်တွေမြို့သည် ငရဲပွက်တမျှ ဖြစ်နေလေတော့သည်။ ထိုနည်းတူစွာ မြို့ထဲမှ ဆိုင်ကယ်အချို့အချို့ မင်းဂံရပ်ကွက်ဖက်ကို ထွက်သွားသည်ကိုလည်း တွေ့ရသည်။ လမ်းမများပေါ်တွင်လည်း လူများသည် ဟိုနားတစ်စု သည်နားတစ်စုဖြင့် အခြေအနေကို မေးမြန်းနေကြသည်။ စစ်တွေမြို့ကား

ကလေးသူငယ်မှ လွဲ၍ ကျန်သော သူများအားလုံး သတိအနေအထားဖြင့် တက်ခေါက်လျက်ရှိသည်။ လမ်းပေါ်တွင် လူတစ်ဦးမှ

"ဟေ့. . လူ မင်းဂံကို သွားမလို့လား"

"ဟုတ်ကဲ့"လို့ ပြန်ဖြေလိုက်သည်။ လူခါးက သူ့ကို တစ်ချက် လောက်ကြည့်လိုက်သည်။ အသက်အားဖြင့် (၄၀) ဝန်းကျင် လောက် ရှိမည်။ လူက အရပ်ရှည်ရှည်၊ ကိုယ်လုံးတင့်တင့်၊ သူကိုယ့်သူ ယုံကြည်မှု အပြည့်ရှိသည့် ပုံစံမျိုး။ အသက်အရွယ်အရ ရင့်ကျက်သည့်သဘော လည်းဖြစ်လိမ့်မည်။ လူကတော့ ဂဏာမငြိမ်ဖြစ်နေသည်။

"တစ်ယောက်တည်းဆို ကျနော်လိုက်ချင်တယ်. . ."

"လိုက်ခဲ့ဗျာ" ဆိုပြီး ဟိုလူအား ဆိုင်ကယ်နောက်တွင် တင်ပြီး ထွက်လာခဲ့သည်။ ဒီအချိန်သည် တစ်ဦးကို တစ်ဦးယုံကြည်ရသည့်အချိန် တော့မဟုတ်။ သို့သော်လည်း ရခိုင်တို့၏ မွေးရာပါ ဗီဇကြောင့်ပင် ရခိုင်တစ်ဦးက ရခိုင်တစ်ဦးကို အလိုလိုသိနေသည်။ ယခုလည်း သည်လူ သည် ရခိုင်တစ်ဦးဆိုသည်ကို လူခါးကား ထွေထွေထူးထူးပြောစရာ မလိုတော့ပေ။ ထိုလူကပင် သူ့ကိုယ်သူ မိတ်ဆက်လိုက်လေသည်။

"ကျနော့်နာမည် လှထွန်းပါ။ နေတာက မင်းဂံရပ်ကွက်၊ အကွက် (၃)မှာ နေပါတယ်။ မိန်းမနဲ့ ကလေး (၂)ယောက်ရှိတယ်။ ဒီနေ့ ဦးလေး တစ်ယောက် နေမကောင်းတာနဲ့ ဒီမှာ လာစောင့်အိပ်ပေးတာပါ။ အခုနားက အိမ်ကို စိတ်မချလို့ လိုက်မယ်လို့လုပ်တာ။ ဒီအချိန်ဆိုတော့ သုံးဘီးဆိုင်ကယ်၊ ဆိုက္ကား ရှာလို့မရတာနဲ့ ခင်ဗျားကို အဲဒီဘက်ကို သွားမယ် ထင်တာနဲ့အကူအညီတောင်းလိုက်တာပါ"

"ရပါတယ်ဗျာ။ ကျနော်လည်း လမ်းကြုံနေတာပဲ။ ကျနော့်နာမည် လူခါးပါ။ မင်းဂံက အခြေအနေဆိုးတယ်ဆိုလို့ ဖုန်းဆက်လာလို့ အခြေ အနေကို သွားကြည့်တာပါ"

ဒီလိုဖြင့် လမ်းပေါ်တွင် လူများ အသွားအလာရှိနေသည်။ တချို့ သုံးဘီးဆိုင်ကယ်တွေပေါ်တွင် အမျိုးသမီးများနှင့် ကလေးများ မြို့ထဲသို့ ပြောင်းလာနေသည်ကိုလည်း တွေ့ရသည်။ တချို့ ကားဖြင့် လူ့အသုံး



ဆောင်ပစ္စည်းများ၊ သေတ္တာများ ကပိုကယိုဖြင့် ထွက်ပြေးလာကြသည် ကိုလည်း တွေ့ရသည်။ ကားပေါ်မှ ငိုသံများ၊ ညဉ်းညူသံများကိုလည်း ကြားလိုက်ရသည်။ အခြေအနေကား ဆိုးရွားနေသည်ဆိုသည့် သဘောကို ပြသနေသည်။

လူခါး နောက်က လိုက်လာသော ကိုလှထွန်းဆိုသူမှာ စိတ်အလွန် စောနေသည်။ စောလည်း စောလောက်ပေသည်မဟုတ်လား။ သားသမီး နှစ်ယောက်၊ မိန်းမတို့က ရန်သူလက်တွင်း ထည့်ထားခဲ့ရသည့် လင် ယောကျ်ားသည် မည်သို့ရှိနေမည်ကို လူခါး ဖော်မပြတတ်။ ထိုလူမှ တစ်ချက် တစ်ချက် "မြန်. . မြန် မောင်းပါဗျာ" လို့ ပြောတတ်သည်။ ဒီလိုဖြင့် မီးစက်ကြီး ခွဆုံကို ကျော်ဖြတ်လာသောအခါ

"ဟိုမှာ မီးရောင်မဟုတ်ဘူးလား"လို့ ကိုလှထွန်းက လှမ်းပြော သည်။ လူခါးလှမ်းကြည့်လိုက်သောအခါ မင်းဂံရပ်ကွက်မှ မီးရောင်ကြောင့် ကောင်းကင်တစ်ခုလုံး သွေးရောင်ထလျက် မီးခိုးလုံးများ ကောင်းကင်ယံ သို့ တလိပ်လိပ်တက်လာနေသည်ကို မြင်တွေ့လိုက်ရသည်။ ဒီအချိန်တွင် ဆိုင်ကယ်မောင်းနေသော လက်တို့သည် တဆတ်ဆတ် တုန်လျှက်၊ လူသည် ဘာလုပ်လို့ ဘာကိုင်ရမှန်း မသိ။ ခဏကလေး ရှော့ဖြစ် သွားသည်။ ကိုလှထွန်းကတော့ ဂဏာမငြိမ်။ ဆိုင်ကယ်နောက်တွင် ထိုင်နေရသော်လည်း ခြေလျင် ဆင်းပြေးချင်နေသည့် သဘောမျိုး ဖြစ်နေသည်။ ပြဿနာတစ်ရပ်ကို နဖူးတွေ့ ဒူးတွေ့ဖြစ်လာလျှင် လူတိုင်း သည် ပြာယာခတ်တတ်ကြသည် မဟုတ်လော။ မင်းဂံရပ်ကွက်ကို နီးကပ် လာသည်နှင့်အမျှ အော်ခေါ်သံ၊ ငိုသံ၊ ညာသံပေးသံတို့ဖြင့် လောကငရဲမှ လက်ယပ်ခေါ်နေသလိုပင် ဖြစ်နေတော့သည်။

ဝေသာလီဘောလုံးကွင်းပြင်ဘက်ကဆို မီးရောင်နှင့် မီးလောင် နေရာကို တိုက်ရိုက်မြင်ရသည်။ ဆိုင်ကယ်ကို ဝေသာလီမိုးကုတ်ဘုန်းတော် ကြီးကျောင်းလမ်း၊ စစ်တွေမြို့ အဝေးပြေးကားဂိတ်ရှေ့က ချိုးကွေ့ လိုက်သည်။ မီးလောင်ပြင်ကို ထင်ထင်ရှားရှားမြင်ရတော့သည်။ ဝေသာလီ ဘောလုံးကွင်းဘေးနားတွင်လည်း လူများအပြည့်။ လက်တွင်လည်း တုတ်၊

ဓား၊ လက်နက်များဖြင့်။ ၂၀၁၂ ခုနှစ်တွင် ကမ္ဘာပျက်မည်ဟု ကြိုတင်နိမိတ်ဖတ်ခဲ့ခြင်းသည် ရခိုင်တို့အတွက် သက်သက် ဟောကိန်းထုတ်ထားခဲ့သလို။ ရခိုင်တိုင်း၌ဒါနေတွင် ကမ္ဘာပျက်လေတော့သည်။

ကိုလှထွန်းကား ဆိုင်ကယ်တန့်ချိန်ပင် မရလိုက်။ နှုတ်တောင်မဆက်ခဲ့။ သူ့အိမ်ဖက်ကို တန်း၍ ပြေးသွားသည်။ ပြေးလည်း ပြေးတန်သည်မဟုတ်လား။ အခင်းဖြစ်ပွားနေသည့်နေရာမှာ မင်းဂံရပ်ကွက်အကွက်(၁)အရှေ့ဘက် ဘုမေဘင်္ဂလီကုလားရွာကြားတွင် ဖြစ်ပွားနေသည်။ အတိအကျဆိုရပါမူ ဝေသာလီဘောလုံးကွင်း၊ ဘုမေ ဘင်္ဂလီကုလားရွာ၊ မင်းဂံအကွက်(၁)ထိပ်တွင်ရှိသော ကျောင်းထိုင်ဘုန်းကြီးသင်တန်းကျောင်း အစပ်ကြားတွင် ဖြစ်နေသည်။ ဒီရပ်ကွက်ကို ကျော်သွားလျှင် ရပ်ကွက်(၂)ကို ကူးစက်သွားနိုင်သည်။ ဒီအချိန်ဆိုရင် လင်ပျောက်မိန်းမ၊ မိသားစုပျောက် ဖခင်တစ်ဦးအတွက် ဘလောင်ဆူလျက်ရှိနေတော့မည်မှာ အမှန်ပင်။

လူခါးလည်း ဘာလုပ်လို့ ဘာကိုင်ရမည်မှန်းမသိ။ လူက ဇောချွေးတွေ ပြန်နေသည်။ ဒူးဆစ်များ သေနေသလို။ ရှေ့ကိုလည်း တိုးရခက် မတိုးရခက်။ လူက တုန့်ဆိုင်း တုန့်ဆိုင်းဖြစ်နေသည်။ ဟုတ်ပါသည်။ လူခါး ကြောက်နေခြင်းဖြစ်သည်။ သေခြင်းတရားနှင့် စစ်ထိုးရချိန်တွင် လူတိုင်းသည် ကြောက်တတ်သည် မဟုတ်ပါလော။

“ငါ. . . ကြောက်လို့မဖြစ်။ ကြောက်ခြင်းသည် ယောကျ်ားကောင်းတို့၏ အလုပ်မဟုတ်”ဆိုပြီး စိတ်ကို ဖြေကြည့်သည်။ သို့သော် စိတ်ကား ဂယောင်ချောက်ချားဖြစ်နေသည်။ အတင်းစိတ်ကို ထိန်းချုပ်သည်။ တတ်သလောက် မှတ်သလောက်တို့ဖြင့် စိတ်ကို နှလုံးမူကြည့်သည်။ သူရဲကောင်းပေါင်းမြောက်မြားစွာကို စိတ်ထဲ ထည့်ကြည့်သည်။ နည်းနည်း ဖြေသာသည်သာရှိပြီး လုံးဝတော့ ကြောက်စိတ်မပြေသေး။ ထိုအချိန် မီးကား အရှိန်ပြင်းစွာဖြင့် လေ၏အားကို ယူပြီး လောင်ကျွမ်းနေလေပြီ။ တစ်အိမ်ပြီး တစ်အိမ် ဝါးမျိုသွားသည်။ ဒီဖက်က လူများလည်း မီးဆက်မကူးနိုင်ဖို့အတွက် မီးဖြတ်ခြင်း၊ မီးသတ်ခြင်း၊



ရေပက်ခြင်းတို့ဖြင့် ရှုပ်ယှက်ခတ်နေသည်။ တချို့လည်း အခြေအနေကို ရပ်ကြည့်နေကြသည်။ လုံခြုံရေးများကလည်း ဟိုဖက်ပြေးလိုက် ဒီဖက်ပြေးလိုက်ဖြင့် အလုပ်ရှုပ်နေကြသည်။

အနီးဝန်းကျင်မှ အမျိုးသမီးများ၊ ကလေးများ၊ သက်ကြီးရွယ်အိုများမှ အထုပ်များကို ပိုက်ကာ ထွက်ပြေးလာကြသည်။ တချို့သော သူများသည် ပါးစပ်မှလည်း ကယောင်ကတမ်းပြောကာ ပေါကြောင်ကြောင်လိုဖြစ်နေကြသည်။ ပတ်ဝန်းကျင်တစ်ခုလုံး အသံဗလံများဆူညံလျက် လူခါးလည်း ဘာအသံမှ ဝေခွဲလို့ မရတော့ချေ။

အခင်းဖြစ်ပွားမှုမှာ တစ်နေရာတည်းတွင်မဟုတ်။ အားနည်းသည့်ဘက်က ထိုးဖောက်သွားသည့်သဘောဖြစ်သည်။ ရန်သူ ဘင်္ဂလီကုလားတို့သည် ဘယ်ဖက်က ဝင်တိုက်ရန် အားယူသည်။ လုံခြုံရေးများ ဘယ်ဘက်ကို လာရောက်နေရာယူသောအခါ ညာဘက်က လူအုပ်ဖြင့် ဝင်လာသည်။ အခြေအနေကား ဘယ်ညာခွဲလျှက်။ ဒီကြားထဲ ရှေ့တည့်တည့် အလယ်ကြောကိုလည်း စိတ်မချရ။

လူခါးလည်း ရပ်ကြည့်မနေနိုင်တော့ဘဲ နီးစပ်ရာမှ ရေများကို ယူပြီး မီးကို ဝိုင်းငြိမ်းသတ်ပေးသည်။ သို့သော် မီးကား မတန့်၊ ရှေ့ကိုပဲ တိုးလာသည်။ လူများသည် မီးကူးစေနိုင်သည့် နေရာများကို မီးရှင်းပေးကြသည်။ ဒီကြားထဲ ဟိုဖက်မှ ရန်သူ ဘင်္ဂလီကုလားတို့၏ ရန်ကိုလည်း ကြောက်နေရသည်။ တစ်ချက် တစ်ချက် လေးဂွဖြင့် ပစ်ခတ်တတ်သလို လူအုပ်ဖြင့် ချီတက်လာပြီး ဟန်ရေးပြသည်။ ထိုအထဲတွင် အမျိုးသမီးများ၊ ကလေးများနှင့် လူလတ်ပိုင်းအရွယ်တွေပါသည်။ သူတို့လက်ထဲတွင် ဝါးချွန်များ၊ တုတ်၊ ဓားလက်နက်များကို ကိုင်ဆောင်ပြီး ဘင်္ဂလီကုလားရွာထဲဘက်အစပ်မှ ထွက်လာကြသည်။ အခင်းဖြစ်နေသည့်နေရာကား ဘင်္ဂလီကုလားရွာနှင့် မင်းဂံရပ်ကွက် အစပ်ကြားတွင် ဖြစ်သည်။ လောင်ကျွမ်းနေသည်မှာ ကြက်ခြံက စတင်လာခြင်းဖြစ်သည်။ ကြက်ခြံမှာ ဘင်္ဂလီတစ်ဦးပိုင် ကြက်ခြံဖြစ်ပြီး ရခိုင်အိမ်များနှင့် ထိစပ်လျှက်ရှိသည်။ ဘင်္ဂလီကုလားမှ သူ့ကိုယ်ပိုင်ကြက်ခြံကို မီးရှို့ပြီး သူတို့ဘင်္ဂလီများနေရာသို့

ထွက်ပြေးခြင်းဖြစ်သည်။ မီးသည် လေ၏ အရှိန်အဟုန်ဖြင့် ရခိုင်အိမ်များကို ကူးစက်လာသည်။ သို့သော်လည်း ကံတရားသည် ရခိုင်တို့ဖက်တွင်ရှိ၏။ ပုံမှန်တိုက်နေကျ မြောက်လေသည် ယခုမှ ထူးထူးခြားခြား ငြိမ်သက်နေရာမှ တောင်ဖက်မှ မြောက်ဖက်သို့ပြောင်းပြန်တိုက်ခတ်လေသည်။ မြောက်ဘက်တွင် ဘင်္ဂလီကုလားအိမ်များရှိပြီး တောင်ဘက်တွင်ကား ရခိုင်အိမ်များသာ။ လေသည် ထိုအနီးပတ်ဝန်းကျင်တွင် ကွေ့ဝိုက်တိုက်ခတ်နေ၏။ လေ၏ တိုက်ခိုက်မှုကြောင့် ဝေသာလီဘောလုံးကွင်းဖက်အခြမ်းသို့ အချိန်အဟုန်းပြင်းစွာဖြင့် လောင်ကျွမ်းသွားသည်။ ထိုအချိန် ဘင်္ဂလီကုလား အယောက် (၁၀၀) ခန့်မှ မင်းဂံရပ်ကွက်ကို အားနဲ့ ထိုးဖောက်မည့်ပုံစံမျိုးဖြင့် လက်ထဲတွင်လည်း တုတ်၊ ဓား၊ လက်နက်တို့ အပြည့်အစုံကိုင်စွဲထားသည်။ အရွယ်အားဖြင့် အရွယ်ကောင်း ယောကျ်ားများဖြစ်ပြီး လူခါးတို့မီးသတ်နေရာနှင့် မျက်စိတမြင်ကို ရောက်လာသည်။ ပါးစပ်များမှလည်း "ဟိုက် ဟိုက်" ညာသံပေး၍ ချီတက်လာသည်။ ချီတက်လာပုံကား ဟန်ချက်ညီ၏။ စည်းစနစ်ကျ၏။ ရှေ့ဆုံးတန်းက အယောက်(၂၀)ပုံစံဖြင့် (၅)တန်းလို ပြုလုပ်ထားသည်။ မီးရောင်ကြောင့် သူတို့ပုံပန်းသဏ္ဍာန်များကို ကြည့်ရသည်မှာ သွေးပျက်စရာပင်။ မီးရောင်အောက်တွင် အုန်းပင်များပေါ်မှ ကင်းစောင့်ဟုထင်ရသောသူများဆီမှ မှန်ဘီးရောင်ခြည်သည် မီးရောင်ကြောင့် အလင်းပြန်မှုကို တစ်ချက် တစ်ချက် တွေ့ရသည်။ တချို့သူများကား ခေါင်းပတ်များ ပတ်လျက်။ ခေါင်းဆောင်ဟု ထင်ရသူက ရှေ့ဆုံးက အချက်ပေးပြီး ချီတက်လာသည်။ ရခိုင်တို့ကား စည်းစနစ်မရှိ။ လူများစုတွင်လည်း လက်ထဲတွင် လက်ဗလာဖြင့်။ အခြေအနေကို လာကြည့်သူလောက်သာ။ ဒီအချိန်တွင် ဘေးနားက လူတစ်ဦးမှ

"ဟိုက်လူတွေ ဘာရပ်ကြည့်နေတာလဲ။ အကုန်လုံး မသာပေါ်သွားမယ်။ ရတဲ့ လက်နက်ကို ဆွဲပြီးတော့ အသင့်ပြင်တော့"

ဟု တပ်လှန့်လိုက်သည်။ လူခါးလည်း အနီးအနားခြံစည်းရိုးမှ သစ်သားတုတ်တစ်ချောင်းကို ဆွဲနှုတ်လိုက်သည်။ သူသူ ငါငါ လှုပ်ရှားသွားကြ



သည်။ အနီးအနား ပုံထားသော အုတ်ပုံသည် ခဏကလေးနှင့် တစ်ဝက်လောက် ပါသွားသည်။ မီးကား အချိန်အဟုန်ပြင်းစွာဖြင့် လောင်ကျွမ်းနေဆဲ။ ရခိုင်တို့ဘက်မှ စည်းစနစ်မကျသော်လည်း စည်းကျော်မခံသည့်သဘောကို ရန်သူဘင်္ဂလီတို့ သိရှိသွားပုံရသည်။ တက်လာသည့် ခြေလှမ်းများကို ရပ်တန့်ဖို့အတွက် အချက်ပေးလိုက်သလို ခေါင်းဆောင်လုပ်သူက လက်ကို ထောင်ပြလိုက်သည်။ သူတို့ ရပ်တန့်သွားသည်။ အခြေအနေကို အကဲခတ်ကြည့်နေသည်။ လူခါးတို့ဖက်မှ ကလေး၊ လူကြီးအပါအဝင် အင်အား (၃၀၀)လောက်ရှိမည်။ နောက်ထပ်လည်း ဆိုင်ကယ်များဖြင့် အလျှိုလျှိုရောက်လာဆဲ။ မင်းဂံရပ်ကွက်ထဲမှာ လူများလည်း အော်ဟစ်လူခေါ်ပြီး ထွက်လာကြဆဲ။ ရန်သူ ဘင်္ဂလီတို့ဖက်မှလည်း ရှေ့မတိုးရဲသလို ရခိုင်တို့ဖက်မှလည်း စည်းကျော် မခံနိုင်ချေ။ မီးကား တစ်အိမ်ပြီး တစ်အိမ် ဝါးမျိုနေလေတော့သည်။ မီးရောင်၏ အောက်တွင် သွေးထွက်သံယိုမှု မဖြစ်သေးသော်လည်း မီးအရောင်ဖြင့် ကောင်းကင်တစ်ခုလုံး အနီရောင်လွှမ်းမိုးလျက်ရှိသည်။

လူကြီးတစ်ဦးမှ -

"မင်းဂံရွာသူ၊ ရွာသားတွေ တစ်ယောက်မှ တခြားနေရာကို ပြောင်းဖို့ မစဉ်းစားပါနဲ့၊ ခင်ဗျာတို့ ကြောက်လို့ ဟိုပြောင်း ဒီပြောင်း ပြေးကြရင် ဒီမှာ လူကျန်ခဲ့မှာ မဟုတ်ဘူး။ ဒါ . . ကျနော်တို့နေရာ ကျနော်တို့ပဲ ကာကွယ်ရလိမ့်မယ်"

ဆိုပြီး တပ်လှန့်ပေးနေသည်။ တချို့သောသူများလည်း အထုပ်ကလေးကို ပိုက်ကာ မင်းဂံရပ်ကွက်ထဲကို ပြန်ဝင်သွားကြသည်။

လုံခြုံရေး ရဲတို့ကား ထိုအချိန်တွင် နောက်ဖက်အခြမ်းကို သွားရောက် ထိန်းသိမ်းနေရသည်။ တစ်ဖက်နှင့် တစ်ဖက် တင်းမာနေချိန်တွင် ကံကောင်းထောက်မ၍ လုံခြုံရေးများ ရောက်ရှိလာပြီး ထိန်းသိမ်းလိုက်သည်။ မင်းဂံရပ်ကွက်တွင်ရှိသော ရဲစခန်းမှ လုံခြုံရေးအင်အားတို့ဖြင့် ထိန်းသိမ်းရန် မနိုင်နင်းတော့ဘဲ စစ်တွေမြို့ထဲရှိ ရဲစခန်းများကို လှမ်းပြီး အကူအညီတောင်းနေရသည်။ သို့သော် စစ်တွေမြို့ထဲနှင့် အခြားနေရာ

များတွင်လည်း အခြေအနေကား တင်းမာနေကြသည်။ အချိန်မရွေး ပြတ်ထွက်သွားနိုင်သည့်အတွက် လုံခြုံရေးများ တိုးချမထားနိုင်သည်ဟု အကြောင်းပြန်ခဲ့သည်။ ဒါဆိုလျှင် မိမိတို့ လုံခြုံရေးကို မိမိတို့ ယူရုံမှ တစ်ပါး မရှိတော့ချေ။

ထိုအချိန်တွင် ဝေသာလီဘောလုံးကွင်းနှင့် မီးရတား ဘူတာကြား (၁၅)ဧကလောက်ရှိမည့် စားကျက်ကွင်းပြင်တွင် ဘင်္ဂလီကုလားတို့ဘက်မှ အမျိုးသမီးလူလတ်ပိုင်းအပါအဝင် လူအင်အား (၁၀၀)လောက်ဖြင့် ဘုမေဘင်္ဂလီကုလားရွာဘက်မှ ချီတက်လာသည်။ ၎င်းဘက်တွင်ရှိသော ရခိုင်တို့က

"ဒီဘက်ကို တက်လာနေပြီ။ ဒီဘက်ကို တက်လာနေပြီ။ ဒီဘက်ကို လာကြ"ဟု ငယ်သံပါအောင် အော်ခေါ်သံကို ကြားရသည်။ တချို့ တစ်ဝက်လူများ ထိုဘက်သို့ ချီတက်သွားကြသည်။ ဝေသာလီ ဘောလုံးကွင်း ဆီးကာထားသော်လည်း ညဥ့်အသံကြောင့် အသံကို ကောင်းစွာ ကြားရသည်။ ရခိုင်တို့ဘက် အင်အား (၄၀)လောက်သာရှိပြီး မီးရထား ဘူတာရုံအနီးတွင် အပြန်အလှန် တိုက်ခိုက်ကြတော့သည်။ တိုက်ပွဲကား ပြင်းထန်၏။ အင်အားချင်းမမျှ။ ရန်သူတို့ဖက်မှ လက်နက်အင်အား၊ လူအင်အား ပြည့်စုံပြီး စည်းစနစ်ကျသည်။ တိုက်ခိုက်သောအခါလည်း အဝေးမှ လေးဂွ၊ ခဲတို့ဖြင့် ပစ်ပေါက်သည်။ တတ်နိုင်သလောက် အနား အကပ်မခံကြ။ လူခါးတို့လည်း တပ်ကူအဖြစ်ရောက်သွားသောအခါ ဘင်္ဂလီတို့ဖက်မှ ကြောက်လန့်ပြီး ထွက်ပြေးသွားကြသည်။ ထိုအချိန် လူတစ်ဦး သွေးသံရဲရဲဖြင့် လဲနေသည်။

"တစ်ယောက် ဒဏ်ရာပြင်းတယ် ဒဏ်ရာပြင်းတယ် ဆွဲဆွဲ"ဆိုပြီး အင်္ကျီအနီဝတ်ဆင်းထားသည့် ကောင်လေးတစ်ဦးမှ လှမ်းအော်ပြော သည်။

"ကျနော့် အဖေပါ ။ ကျနော့် အဖေပါ"ဆိုပြီး ထမ်းပြေးသည်။ ဘေးက လူများလည်း ဝိုင်းဝန်းပြီး ဆွဲယူကြသည်။ ထိုလူကား သတိပင် မရချေ။ ဘာမှ မသိတော့ပေ။ ဒဏ်ရာကား ပြင်းထန်၏။ သွေးများက



မတန့်တမ်းစီးကျနေသည်။ ခဲတစ်ပစ်စာရှိသော နေရာတွင်ရှိသော ကားလမ်းမပေါ်သို့ ဆွဲခေါ်လာသည်။ ကံကောင်းချင်တော့ သုံးဘီး ဆိုင်ကယ်တစ်စီးက အဆင်သင့် ရှိနေသည်။ သုံးဘီးဆိုယ်ကယ်ပေါ်သို့ တင်ပေးလိုက်သည်နှင့် ဆိုင်ကယ်သမားမှ ချက်ချင်းမောင်းထွက်သွား လေတော့သည်။ ဒီအချိန် တစ်ဦးကို တစ်ဦးပြောနေရမည့် အချိန်မဟုတ် တော့။ ကိုယ့်အသိစိတ်နှင့်ကို အားလုံး အဆင်သင့်ဖြစ်နေသည်။

ဒီတိုက်ပွဲတွင် တချို့သော သူများတွင် ခေါင်းကွဲ၊ ပေါက်ပြဲဒဏ်ရာ များ ရရှိခဲ့ကြသော်လည်း အမည်မသိ ဒဏ်ရာရသူမှအပ ဒဏ်ရာကား မပြင်းထန်ချေ။ ရန်သူတို့ဖက်က ကစဥ့်ကလျားဖြင့် သူတို့၏ နေရာ ဘုမေရပ်ကွက်ဘက်သို့ ထွက်ပြေးသွားကြသည်။ ရခိုင်တို့၏ မြေပေါ်တွင် ကား သွေးမြေကျရသည်ကို လူခါးကိုယ်တိုင် မျက်ဝါးထင်ထင်မြင်တွေ့ လိုက်ရတော့သည်။ ဤသည်ကား စစ်ပွဲ၊ နယ်မြေချဲ့ထွင်မှုတွင် အနု နည်းမှသည် အကြမ်းနည်းသုံး ချဲ့ထွင်မှုနှင့် နယ်မြေမပေးရေး၊ မြန်မာ နိုင်ငံတော်ကြီး၏ အချုပ်အချာအာဏာကို လက်တစ်လုံးမှ အထိအခိုက် မခံနိုင်သော တိုက်ပွဲကို ကိုယ်တိုင် မြင်တွေ့နေရခြင်းဖြစ်သည်။ ရန်သူ ဘင်္ဂလီကုလားတို့ဖက်မှ တိုက်စစ်မြားဦးကို ပုံဖော်နေသော်လည်း ရခိုင်တို့ကား ခံစစ်အနေအထားဖြင့် ခုခံနေရတော့သည်။

အချိန်ညဥ့်ကြက်တွန်သံများကိုပင် ကြားနေရပြီ။ ကောင်းကင်ယံမှ တိမ်သား တိမ်လိပ်တို့နှင့် အတူ မိုးစက် မိုးပေါက်ကလေးများ ကျဆင်း လာသည်။ မင်းဂံရပ်ကွက် အကွက်(၁)နှင့် ဘုမေဘင်္ဂလီကုလားရွာ ကြားတွင်တော့ မီးကလောင်ဆဲ။ မိုးသီးမိုးပေါက်ကလေးများနှင့်အတူ လူအများမှ ဝိုင်းပြီး မီးငြိမ်းသတ်မှုကြောင့် မီးကား တဖြည်းဖြည်း အရှိန်လျော့စပြုလာသည်။ သို့သော်လည်း မီးတောက် မီးညွန့်များ ငြိမ်းသွားပြီဖြစ်သော်လည်း မီးခိုးလုံးများ ထွက်နေဆဲ။ တချို့ တစ်ဝက် သော လူများသည် ထိုအနီးအနား ပတ်ဝန်းကျင်တွင် ကင်းစောင့်နေကြ ရသည်။ အထူးသဖြင့် ရပ်ကွက်အနီးအနားမှ လူများက ပိုမို သတိရှိစွာဖြင့် ကင်းစောင့်နေရသည်။ လူခါးလည်း မင်းဂံရပ်ကွက် အတွင်းဖက်သို့

ဆိုင်ကယ်ဖြင့် ပတ်ကြည့်လာသည်။ လူတို့သည် ဟိုနားတစ်စု သည်နားတစ်စုဖြင့် မင်းဂံရပ်ကွက်ထဲတွင်လည်း အသင့်အနေအထားဖြင့်။ ထိုအချိန်တွင် ကောင်းဇံနှင့် ဇော်ထွန်းကို တွေ့ရသည်။

"ကိုလူခါး . . မင်းဂံဓမ္မာရုံမှာတော့ လူတွေပြည့်နေပြီဗျာ၊ ညဦးကတည်းက ထွက်ပြေးလာတဲ့ သူတွေလေ။ အခုလည်း ထပ်ရောက်နေကြတယ်။ အဲဒါကို ကျနော်တို့ နီးစပ်ရာ လုံခြုံမယ်ထင်တဲ့ ဘုန်းတော်ကြီးကျောင်းတွေကို ပို့နေတယ်။ ဝိုင်းကူပါအုံး"

ဆိုပြီး ဇော်ထွန်းမှ လှမ်းပြောသည်။ မင်းဂံရပ်ကွက်အတွင်းရှိ ဓမ္မာရုံမှာ မင်းဂံရပ်ကွက်၊ အကွက်(၂)တွင် တည်ရှိသည်။ မျက်နှာချင်းဆိုင်တွင် မင်းဂံဈေးရှိပြီး ရပ်ကွက် အတွင်းပိုင်းမို့ နည်းနည်းလုံခြုံသည်။ လူခါးရောက်သွားချိန်တွင် လူများ ပြည့်ကျပ်နေပြီ။ ငိုသူငို၊ ယိုသူယိုဖြင့် ကမ္ဘာပျက်ထဲကို ရောက်နေရသလိုမျိုး။ မည်သူ့ကို မည်သူက နှစ်သိမ့်၍ ရပါအုံးမည်နည်း။ နောက်လည်း သက်ကြီးရွယ်အိုပိုင်းတွေ၊ ကလေးတွေ၊ မိန်းမတွေက ထပ်ပြီး ရောက်လာကြသည်။ နောက်ထပ်ရောက်လာကြသူများကိုကား နီးစပ်ရာ ဘုန်းတော်ကြီးကျောင်းများသို့ လမ်းညွှန်ရသည်။ လက်ရှိ အခက်အခဲဆုံး ပြဿနာမှာ အိမ်သာမလုံလောက်မှု၊ အိပ်စရာနေရာ အခက်အခဲတို့ကြောင့် သက်ကြီးရွယ်အိုများအတွက် အခက်အခဲကို ဖြေရှင်းရခက်ခဲနေသည်။ အပြင်ဘက်တွင် နေရအောင်လည်း မိုးဖွဲဖွဲရွာသွန်းနေသည်။ မိုးကလည်း မလင်းနိုင်သေး။ အချိန်အားဖြင့် နံနက် ၄ နာရီကျော်လောက်သာရှိသေးသည်။ အခြေအနေကား မီးလောင်နေသည်မှ လွဲပြီး အပြန်အလှန် တိုက်ခိုက်သံကိုတော့ မကြားရ။ ယခုဒီနေရာသို့ ရောက်ရှိ ခိုလုံနေကြသူများသည် တစ်ရေးမှ အိပ်ရပုံမပေါက်သေး။ အကြောက်တရားတို့အောက်တွင် အိပ်စက်ခြင်းဖြင့် မည်သူ ကျောချရဲမည်နည်း။ မောင်တောမြို့မှ မီးတောက် မီးလျှံများသည် စစ်တွေမြို့ပေါ်သို့ ကူးစက်လာပြီး ၁၀. ၆. ၂၀၁၂ ရက် တနင်္ဂနွေနေ့သို့ပင် ရောက်ရှိလာခဲ့ပြီးမဟုတ်လား။ လူခါးတို့လည်း ဘာတတ်နိုင်တော့မည်လဲ။ လာမည်ဘေး ပြေးတွေ့ရုံမှတစ်ပါး မရှိတော့ချေ။

(၁၇)

## ၁၀. ၆. ၂၀၁၂ ရက်နေ့

လူခါးလည်း ညတုန်းက ခဏကလေးသာမှေးခဲ့ရသည်။ ညဦးကတည်းက မင်းဂံရပ်ကွက်ရောက်နေသည်မှာ ယခုဆိုလျှင် နံနက် (၅)နာရီခွဲပင် ရှိနေပြီ။ လူက နွမ်းနယ်နေသော်လည်း တခြားလူများ၏ စိတ်ဒုက္ခရောက်မှုကို ကြည့်ပြီး ပင်ပန်းမှုကို သတိပင်မရ။ မနက်မိုးလင်းလာသည်နှင့် ညတုန်းက ထမင်းမစားရဘဲ ထွက်ပြေးလာကြသောသူများလည်း ပါဝင်သည်။ လူခါးတို့ အနီးဝန်းကျင်တွင် သန်သန်မာမာဖြင့် လူငယ်ပိုင်းများမရှိ။ အားလုံးသော လူငယ်၊ လူလတ်ပိုင်းများသည် မင်းဂံရပ်ကွက် ပတ်ပတ်လည်တွင် ကင်းစောင့်တာဝန်ကို အချိုးကျ၊ အလှည့်ကျ ခွဲဝေယူထားကြသည်။ မယူလို့ ရပါမည်လား။ မင်းဂံရပ်ကွက် စစ်ဦးကျိုးလျှင် စစ်တွေမြို့ကျမည်။ သို့ကြောင့် မည်သည့်နည်းနှင့်မှ မင်းဂံရပ်ကွက် ကျ၍ မဖြစ်။

မင်းဂံရပ်ကွက်သည် စစ်တွေမြို့ပေါ်မှာ အသစ်တိုးချဲ့လိုက်သော ရပ်ကွက်ဖြစ်သည်။ ရပ်ကွက်သည် အရှေ့အနောက် ရှည်လျားသည့် ရွာတန်းရှည်ကြီးဖြစ်သည်။ မင်းဂံရပ်ကွက်၏ အရှေ့ဘက်တွင် ဘုမေ ဘင်္ဂါလီကုလားရွာရှိပြီး ၎င်းရွာသည် မင်းဂံရပ်ကွက် အရှေ့ဖက်မှသည် တောင်ဘက် မိုင်ဝက်လောက်ထိ ရှည်လျားသည့် ရွာကြီးတစ်ရွာဖြစ်သည်။ တောင်ဘက် ဘုမေရပ်ကွက် ဆုံးသည်နှင့် လက်သမား ဘင်္ဂါလီကုလားရွာ၊ ပြီးလျှင် ဥယျာဉ်သာ ဘင်္ဂါလီကုလားရွာတို့ရှိသည်။ အနောက်ဘက်တွင် ဒိုးမြောင်ဘင်္ဂါလီကုလားရွာဖြင့် နွားစားကျက်ကွင်းပြင်ကလေးတစ်ခုသာ ဖြတ်ရသည်။ ဒိုးမြောင်ဘင်္ဂါလီကုလားရွာ တစ်ရွာနှင့် တစ်ရွာ လယ်ကွင်း တစ်ခုသာ ခြားပြီး (၃)ရွာ ဆက်တိုက်ရှိသည်။ ထို့ပြင် အရှေ့မြောက် ထောင့်ဘက်တွင် ကျူးကျော်မြေနေရာတွင် တည်ဆောက်ထားသော ဘင်္ဂါလီကုလားရွာကလည်း နီးကပ်စွာ တည်ရှိသည်။ မြောက်ဘက် အပေါ်ပိုင်းတွင် လယ်ကွင်းပြင်ကြီးကို ဖြတ်ကျော်လိုက်ပါက တပ်မတော် ခြေလျင်တပ်ရင်း ၃၅၄ စစ်တပ်ရှိသည်။ လွတ်ကင်းသည့်နေရာဆို၍ မြောက်ဘက် စစ်တွေမြို့ အဝေးပြေးကားကြီးဂိတ်ဘက်မှ မြို့ထဲဖက်သို့ သွားသော လမ်းတစ်ခုလောက်သာ ရှိသည်။ ပုံသဏ္ဍာန်အရဆိုလျှင် ရန်သူကြားတွင် တည်ထားသည့် ရပ်ကွက်ဖြစ်သည်။ အရေးပေါ် ထွက်လာခဲ့သည်မို့ လူခါးတွင် ပိုက်ဆံတစ်ပြားတစ်ချပ်မှ ပါမလာခဲ့။ ကိုကြီးသိန်းဆီကို ဖုန်းဆက်လိုက်သည်။

"ကိုကြီးသိန်း ဒီမှာ သက်ကြီးရွယ်အိုတွေနဲ့ ကလေးတွေပါတယ်ဗျာ။ ဖြစ်နိုင်ရင် စားစရာ ရသလောက် ဝယ်လာစေချင်တယ်"

"အကြော်အလှော်မုန့်တွေတော့ ရမှာမဟုတ်ဘူး။ ရေဒီမိတ်မုန့်တော့ရလောက်တယ်။ ငါဝယ်လာခဲ့မယ်"ဆိုပြီး ဖုန်းချသွားသည်။ နောက် မြို့ထဲမှာ ကိုယ်ပြောလို့ ဆိုလို့ရမည့်သူများကို လှမ်းမှာသည်။ တော်တော်များများ မိတ်ဆွေများကတော့ မညည်းမညူ "အေး"လုပ်ကြသည်။ နံနက်ပိုင်း (၆)နာရီလောက်တွင် မြို့ထဲမှာ ကိုကြီးသိန်းနဲ့အတူ ကိုကြီးထွန်း၊ ဆရာသိန်းတို့ပါ ဆိုင်ကယ်နဲ့ ရောက်လာကြသည်။ သူတို့



လက်ထဲတွင် မုန့်များ ၊ ရေဒီမိတ် အချိုရည်များ အသင့်ယူ ဆောင်လာသည်။ ပါလာသမျှကို အသက်ကြီးရွယ်အိုပိုင်းတွေကို ရွေးပြီး ကျွေးမွေးလိုက်သည်။ ကျန်သည့်ဟာကို ကလေးတွေကို ဝေပေးလိုက်သည်။

"လမ်းမှာလည်း မင်းသူငယ်ချင်းတွေ ကင်းစောင့်တဲ့ လူတွေကို လက်ဖက်ရည်နဲ့ မုန့်ကျွေးနေတာကို မြင်ခဲ့တယ်"လို့ ကိုကြီးသိန်းက ပြောသည်။

"ဘယ်အနားမှာ မြင်ခဲ့တာလဲ"

"မနေ့က ကုလားတွေတက်တဲ့နေရာလေ။ ပညာရေးမှူးရုံးကြားနဲ့ မီးစက်ကြီးနား ကြားလမ်းကဘဲ"ဟုပြောသည်။ ဟုတ်ပါသည်။ စိတ်မချရသောနေရာတိုင်းတွင် ကင်းစောင့်ရသည်မှာကား အမှန်ပင်။ လူခါးတို့ အရပ်သည်လည်း ဘင်္ဂါလီကုလားရွာများဖြင့် ဝေးသောကြောင့် သိပ်တော့ စိတ်ပူစရာမလို။ အိမ်ဘေးနားက ဖုန်းကို မကြာခဏ ဆက်ပေးကြည့်ရသည်။ အိမ်ကိုလည်း စိတ်မပူဖို့ မှာရသေးသည် မဟုတ်လား။ ထိုအချိန်တွင် ဆရာသိန်း၊ ကိုကြီးသိန်း၊ ကောင်းဇံ၊ ဇော်ထွန်း၊ လူခါး၊ မင်းဂံရပ်ကွက် အုပ်ချုပ်ရေးမှူးအပါအဝင် လူကြီးပိုင်း (၂၀)လောက်မှ ခေါင်းချင်းဆိုင် တိုင်ပင်ကြသည်။ ဒီလူတွေကို ဒီအတိုင်း ဒီနေရာမှာ ထားရင် စိတ်မချရသည်က တစ်ကြောင်း၊ နောက်ထပ် အနီးဝန်းကျင်ရွာတွေက ထွက်ပြေးလာကြသည့်သူများလည်း မပြတ်တမ်းဝင်လာနေကြသည်က တစ်ကြောင်း၊ နေစရာနေရာလည်း မရှိတော့ပေ။ မိုးလင်းသည်နှင့် စားစရာ၊ ရိက္ခာအတွက်ပင် ဝိုင်းပြီး စဉ်စားကြသည်။ နောက်ဆုံး အားလုံး သဘောတူဆုံးဖြတ်ချက်တစ်ခု ချလိုက်သည်။ အားလုံးသူကို လုံခြုံသည့်နေရာများသို့ပို့ပြီး ဒုက္ခသည်စခန်းအဖြစ် ဖွင့်လှစ်မည်။ စားစရာများကို စစ်တွေမြို့ထဲ ရပ်ကွက်များပေါ်တွင် ထမင်းထုပ်များ နှိုးဆော်ကောက်ခံမည်ဟု ဆုံးဖြတ်ချက် ချလိုက်ကြသည်။ ပြီးလျှင် တာဝန်ကိုယ်စီကို ကိုယ့်အသိစိတ်ဖြင့် ကိုယ်ယူလိုက်ကြသည်။

ဤသည်မှာ လူခါးဘဝတွင် "ရခိုင်ဒုက္ခသည်"ဆိုသည့်စကားကို ထူးဆန်းစွာပင် ကြားလိုက်ရသည်။ မိမိမြေ၊ မိမိနေရာ၊ မိမိဌာနေတွင်ပင်

အမည်သစ်နဲ့ ကင်းပွန်းတပ်ခံလိုက်ရသော Refugee (ခေါ်) ဒုက္ခသည်ဆိုသည့် စကားလုံး အသစ်တစ်လုံးကို ရခိုင်မြေပေါ်တွင် ရင်နာနာနဲ့ လက်ခံလိုက်ရသည်။

ဒီအချိန်တွင် မင်းဂံရပ်ကွက်ထဲမှ သက်ကြီးရွယ်အိုတွေကို တစ်အိမ်တက် တစ်အိမ်ဆင်း ခေါ်ဆိုနေသူကတော့ ကိုလှထွန်းဖြစ်နေသည်။ ကိုလှထွန်း ဦးဆောင်ပြီး မင်းဂံရပ်ကွက်ထဲမှ လူအချို့နှင့်အတူ သက်ကြီးရွယ်အိုများကို ကုန်းပိုးခေါ်ဆောင်လာပြီး မင်းဂံဓမ္မာရုံသို့ ခေါ်ဆောင်လာသည်။ ဒီအချိန်လောက်မှ လူခါးလည်း သဘောပေါက် လိုက်မိသည်။ ကိုလှထွန်းဆိုသူမှာ မင်းဂံရပ်ကွက်တွင် တက်ကြွသော လူလတ်ပိုင်းအရွယ်ဖြစ်သည်။ ရပ်ကွက်အတွင်း သူက ဦးဆောင်ပြီး လူမှုရေးလုပ်ငန်းများကို လုပ်နေသူလည်း ဖြစ်သည်။ တခြားသော သူများမှလည်း သူ့ကို လေးလေးစားစားဆက်ဆံကြသည်။

"ကိုလှထွန်း ကျနော် တစ်ခုလောက်ပြောအုံးမယ်"

"ဟုတ်ကဲ့ ပြောပါ"

"ဒီမှာ လူက ပြည့်ကျပ်နေပြီ။ အချိန်လည်း နံနက်ပိုင်းကို ရောက်လာပြီမို့ ကျနော်တို့ ဒီအထဲက သက်ကြီးရွယ်အိုတွေကို မြို့ထဲဘက်ကို ပြောင်းရွှေ့ချင်တယ်၊ အဲဒါ သယ်ယူဖို့အတွက် ကျနော်တို့မှာ ကား၊ သုံးဘီးဆိုင်ကယ်တို့ လိုနေတယ်ဗျာ။ အဲဒါ အစ်ကိုက ဒေသခံဆိုတော့ အဲဒါတွေရသလောက် စီစဉ်ပေးစေချင်တယ်"

"ဟုတ်တယ် . . ကျနော်လည်း ဒီအနားမှာဆိုရင် မလုံခြုံဘူးလို့ မြင်တယ်၊ စိတ်ချဗျာ ဒီရပ်ကွက်ထဲမှာတော့ ရသလောက်ကို ကျနော်ခေါ်လာလိုက်မယ်"ဆိုပြီး လစ်ထွက်သွားသည်။

ဒီအချိန်တွင် ကိုကြီးသိန်းနှင့် ကိုကြီးထွန်းတို့လည်း ဆိုင်ကယ်ဖြင့် မြို့ထဲဘက်ကိုထွက်သွားသည်။ မြို့ထဲတွင် ဘုန်းကြီးကျောင်းများ၌ ဒုက္ခသည်စခန်းဖွင့်ရခြင်းသည် အကောင်းဆုံးမဟုတ်လား။ ထို့ကြောင့် ဘုန်းကြီးကျောင်းများကို ဒုက္ခသည်များလက်ခံဖို့နှင့် နိုင်ငံရေးပါတီနှင့် လူမှုအဖွဲ့အစည်းများ လက်တွဲလုပ်ဆောင်နိုင်ရန် တိုင်ပင်ဖို့ ထွက်သွားခြင်း



ဖြစ်သည်။ သို့သော် တချို့ဘုန်းတော်ကြီးကျောင်းများတွင်ကား ဒုက္ခသည်များဖြင့် ပြည့်ကျပ်နေလေပြီ။ ဆရာသိန်းမှာ ဝင်လာသမျှ ဒုက္ခသည်စာရင်းများကို အုပ်စုလိုက် ခွဲခြားနေသည်။ ယောကျ်ား ဘယ်နှယောက်၊ ကလေး ဘယ်နှယောက်၊ မိန်းကလေး ဘယ်နှယောက်ဆိုသည်ကို စာရင်းကောက်နေသည်။

ကောင်းဇံကတော့ အမျိုးသမီးတစ်သိုက်ဖြင့် စားဖို့သောက်ဖို့ကိစ္စအတွက် ပြင်ဆင်နေသည်။ ဇော်ထွန်းကတော့ မင်းဂံအကွက် (၁၆)(၁၇) ဝန်းကျင်အခြေအနေကို သွားရောက် ကြည့်ရှုနေသည်။ မင်းဂံရပ်ကွက် (၁)မှသည် (၁၁)လောက်ထိ လမ်းမကြီးတွင် ကတ္တရာလမ်းမဖြစ်ပြီး အကွက် (၁၂)မှသည် (၁၇)ထိ ကတ္တရာလမ်းလုံးဝမရှိပေ။ လမ်းကား မိုးရွာထားသည့်အတွက် ရွှံ့၊ ဗွက်တို့ဖြင့် ဆိုးချင်တိုင်း ဆိုးရွားနေသည်။ လမ်းလျှောက်လို့သာရပြီး ဆိုင်ကယ်၊ စက်ဘီးတို့ဖြင့် သွားလာရခက်ခဲသည်။ လူခါးကတော့ မနေ့က တိုက်ပွဲဖြစ်ခဲ့သော နေရာဖက်သို့ ကြည့်ရှုရန် ထွက်ခွါလာခဲ့သည်။ သို့သော် စစ်တွေမြို့ထဲက လူများကား ဆိုင်ကယ်ဖြင့် တစ်ဖုံ၊ သုံးဘီးဆိုင်ကယ်၊ ကားတို့ဖြင့် လာရောက်ကြသည်။

လူခါးတို့လည်း အခြေအနေကို သုံးသပ်ကြည့်သည်။ အခြေအနေမှာ ၁၀. ၆. ၂၀၁၂ ရက် စနေနေ့ နံနက်ပိုင်းလောက်တွင် အပြန်အလှန် တိုက်ခိုက်မှုများကား မရှိပေ။ လုံခြုံရေးများမှ အခြေအနေကို ထိန်းသိမ်းထားနိုင်သည်။ သို့သော် လုံခြုံရေးများကား လုံလောက်သော အခြေအနေတွင်မရှိ။ ၈. ၆. ၂၀၁၂ ရက်နေ့က ဖြစ်ပျက်သွားသော မောင်တောမြို့ကို ပို့ထားရသောကြောင်း လုံခြုံရေးနည်းပါးမှုလည်း ဖြစ်နိုင်သည်။ တခြားမြို့နယ်များမှ လုံခြုံရေးများကိုလည်း စစ်တွေမြို့ပေါ်ကို မပို့ထားနိုင်။ ၎င်းမြို့နယ်တို့တွင်လည်း အခြေအနေကား တင်းမာနေသည်။ ရခိုင်ပြည်နယ်တွင် မြို့နယ်(၁၇)မြို့နယ်ရှိရာ ဘင်္ဂလီကုလားတို့ မရှိသည့် မြို့နယ်ဟူ၍ မရှိသလောက်ပင်။

ညတုန်းက အခင်းဖြစ်ပွားခဲ့သော နေရာတွင် မီးကား လုံးဝငြိမ်းသွားသည်မဟုတ်။ မီးတောက်မီးလျှံများ မထွက်သော်လည်း မီးခိုး

လုံးများကား ထွက်ပေါ်လျက်ရှိသည်။ အစိုးရမီးသတ်ဌာနကလည်း မီးသတ်ကားဖြင့် လာရောက်ငြိမ်းသတ်ရန် မလွယ်။ ကားလမ်းက မရှိ။ ဝင်ပေါက်မရှိ။ မြို့ထဲမှ ရောက်လာကြသူများတွင် အချို့ရည်၊ မုန့်များ ယူဆောင်လာကြသည်။ ကင်းစောင့်သူများကို ကျွေးမွေးသူဖြင့်၊ တချို့ အနီးအနားမှ လူများကို ခေါ်ပြီး ကျွေးမွေးသူများဖြင့်၊ အနီးဝန်းကျင်မှ ရဟန်းသယ်ာများကိုလည်း ကျွေးမွေးသူများဖြင့် အခြေအနေကား ပွဲဈေးတန်းကိုရောက်နေသလိုပင် ရှိလေတော့သည်။ ရခိုင်တို့၏ ရက္ခိတ တရားကား ဝမ်းမြောက်ဖွယ်ပါတကား။

ဒီအချိန်တွင် ကောင်းကင်မှ ဟယ်လီကော်ပတာ လေယာဉ်ငယ် တစ်စီး ဖြတ်မောင်းသွားသည်။ ကေန္တ မောင်တောမြို့ကို အစိုးရ ထိပ်ပိုင်းမှ ခေါင်းဆောင် တစ်ဦးသွားရောက်သည်လည်း ဖြစ်နိုင်သလို၊ နယ်စပ်ဒေသ လုံခြုံရေးအတွက် ကင်းလှည့်ခြင်းလည်း ဖြစ်နိုင်သည်ဟု သုံးသပ်မိလေ တော့သည်။

*****

(၁၈)

နံနက်ပိုင်းတွင် နေလုံးကြီးသည် အရှေ့အရပ်မှ ထွက်ပေါ်လာ သော်လည်း အလင်းရောင်ကိုသာ ပေးနိုင်သည်။ ကိုယ်လုံးတော့ ထွက်ပြ၍ မရ။ တိမ်သား တိမ်တိုက်တို့က ဖမ်းဆီးကာကွယ်ထားသည်။ သို့သော် တိမ်သား တိမ်တိုက်တို့က ဖွန်လနှင့်အတူ မိုးပေါက်ကလေးများကား ကျဆင်းမလာပေ။ မိုးရာသီ၏ ရာသီဥတုသည် သာယာသည်ဟု ပြော၍ ရလောက်သည်။

ကိုလှထွန်းဦးဆောင်ပြီး ကား၊ သုံးဘီးဆိုင်ကယ်များကို ဦးဆောင် ခေါ်လာသည်။ သိပ်မကြာခင်တွင် မင်းဂံရပ်ကွက်ထဲမှာ သက်ကြီးရွယ်အို များနှင့် ကလေးငယ်များကို အယင်ဆုံးကားပေါ်ကို တင်လိုက်သည်။ ကိုလှထွန်းက

"အဘွားကြီးတွေ၊ အဘိုးကြီးတွေနဲ့ ကလေးတွေပဲ ရှေ့က အရင် တက်ပါ။ အမျိုးသမီးတွေကတော့ လူလတ်ပိုင်း သန်သန်မာမာတွေ ကျန်ခဲ့ပါ"လို့ အော်ပြောနေသည်။ ကိုယ်ဝန်ဆောင် အမျိုးသမီးတစ်ဦးက

“ကျွန်မက ကိုယ်ဝန်ဆောင် ကျန်ခဲ့ရမှာလား”လို့ မေးလိုက်သည်။ လူခါးလည်း ငိုရခက် ရယ်ရခက်ဖြစ်သွားသည်။ ဟုတ်ပါသည် လူလတ်ပိုင်းတွင် ကိုယ်ဝန်ဆောင်တွေလည်း ပါတာပဲမဟုတ်လား။ သူမေးသည်ကလည်း မေးသင့်သည်။ ကိုလှထွန်း ရှက်ရှက်ဖြင့်

“တက်ဗျာ။ ကိုယ်ဝန်ဆောင်အမျိုးသမီးတွေလည်း တက်ကြပါ” ဆိုပြီး ဆက်အော်ပြောလိုက်သည်။

“ကိုလူခါး ကျနော် သန်သန်မာမာရှိတဲ့ အမျိုးသမီးတွေကိုတော့ ထားခဲ့မယ်ဗျာ၊ သူတို့က ဝိုင်းကူလို့ရတာပေါ့။ သူတို့ရှိမှလည်း ကျနော်တို့ ယောက်ျားတွေ လုံခြုံရေးကို ကောင်းကောင်းတာဝန်ယူလို့ ရတာပေါ့” လို့ ပြောခဲ့သည်။ သူက ဦးဆောင်ပြီး ဒုက္ခသည်များ ပြောင်းရွှေ့ရေးကို လုပ်ဆောင်နေပြီ။ မြို့ထဲကိုသွားသော ကိုကြီးထွန်းမှ ဖုန်းဆက်လာသည်။

“ဒုက္ခသည်တွေကို ရွှေစေတီဘုန်းတော်ကြီးကျောင်း၊ သံကျောင်း (ရဲကျော်သူဘုန်းကျောင်း)၊ ၉၉ ပေါက်ကျောင်း (မဟာကုသလကျောင်း)မှာ အရင်ပို့မယ်။ အဲဒီမှာ လူပြည့်မှ တခြားကျောင်းတွေကို ပို့မယ်” လို့ ပြောသည်။

“ကိုလှထွန်း ကားသမားတွေကို ပြောလိုက်ဗျာ။ အရင်ဆုံး ရွှေစေတီကျောင်းကို ပို့ပေးပါ၊ အဲဒီမှာ ပြည့်မှ ရဲကျော်သူကျောင်း၊ ပြီးရင် မဟာကုသလကျောင်းကို ပို့မယ်”ဟု ပြောလိုက်သည်။

ကိုလှထွန်းက “အေး - အေး”လို့သာ ပြောပြီး သူဦးဆောင်သော ဒုက္ခသည်များ သယ်ယူပို့ဆောင်ရေး ကားတန်းကြီးကား မြို့ထဲဖက် သွားထွက်သွားလေတော့သည်။ သို့သော် ဒုက္ခသည်များသည် ဝင်လာမစဲတသဲသဲဖြင့်။ ဓမ္မာရုံဘေးနားတွင်ရှိသော စေတီရင်ပြင်နှင့် ဓမ္မာရုံကြားမြေကွက်လပ်တွင် ကောင်းဇံမှ ဦးဆောင်ပြီး ထမင်းချက်ရန် ပြင်ဆင်နေသည်။ အနီးအနားမှ ကျောင်းဆရာတစ်ဦးမှ သူ့အိမ်တွင်ရှိသော ဆန်အိတ်(၂)အိတ်ကို လာရောက်လှူဒါန်းထားသည်။ အိုး၊ ခွက်များကို နီးစပ်ရာ ဘုန်းတော်ကြီးကျောင်းများမှ သွားရောက် ငှါးယူထားသည်။ ဒီ့ပြင် ရပ်ကွက်ထဲမှ ရပ်ကွက်သူ/သားများမှ ချက်စားၡ ရသော အသီး



အရွက်များကို ခူးဆွတ်လာကြသည်။ အထူးသဖြင့် ငှက်ပျောပင်သည် ဇာတ်လိုက်ကျော် ဟင်းတစ်မျိုးဖြစ်နေတော့သည်။

တစ်ဖက်က သတင်းကိုလည်း မပြတ် နားထောင်နေရသည်။ အခြေအနေဘာဖြစ်မည်ဆိုသည်ကိုကား လူတိုင်း မသိနိုင်ပေ။ ရခိုင်တို့၏ သက်ကြီးပိုင်း လူကြီးတို့သည် မုန်တိုင်းတိုက်တိုက်၊ အခြေအနေတစ်ခုခု ထူးခြားလျှင် ရေဒီယို နားထောင်လေ့ရှိသည့်က ကောင်းသော အလေ့အထတစ်ခုဖြစ်သည်။ ယခုလည်း နံနက် (၈)နာရီတွင် ရေဒီယိုမှ သမ္မတကြီးဦးသိန်းစိန်၏အသံသည် ကြည်လင်ပြတ်သားစွာ ထွက်ပေါ်လာသည်။ လူခါးတို့လည်း သမ္မတကြီး မိန့်ခွန်းကို အားလုံး နားစွင့်လျက်ရှိနေကြသည်။ သမ္မတကြီး၏ မိန့်ခွန်းသည် လူခါးတို့ ရခိုင်ပြည်အတွက် တိုက်ရိုက် ဆက်စပ်နေသည်မဟုတ်လား။ ဒီအချိန် ဒီလိုအခြေအနေမှာ ဒီမိန့်ခွန်းကို မည်သူက နားမထောင်ဘဲ နေမည်လဲ။ ထိုအချိန် ရေဒီယိုမှ

“ချစ်ခင်လေးစားအပ်ပါသော မိဘပြည်သူများခင်ဗျား . . .

\- မိဘပြည်သူများနဲ့ ညီအစ်ကို မောင်နှမအားလုံး ကိုယ်စိတ်နှစ်ဖြာ ကျန်းမာ ချမ်းသာစေကြောင်း ဆုမွန်ကောင်းတောင်းရင်း နှုတ်ခွန်းဆက်သအပ်ပါတယ်။

\- မိဘပြည်သူများ သိရှိပြီးဖြစ်တဲ့အတိုင်း ၂၀၁၂ ခုနှစ် မေလ (၂၈) ရက်က ဖြစ်ပွားခဲ့တဲ့ ရခိုင်ပြည်နယ် ၊ ကျောက်နီမော်ဖြစ်စဉ်ကို အခြေခံပြီး ရခိုင်ပြည်နယ်အတွင်း မတည်ငြိမ်မှုများ၊ အကြမ်းဖက်မှုများ ပိုမိုကျယ်ပြန့်စွာ ဖြစ်ပွားလာပါတယ်။ ဒါကြောင့် ဒီအခြေအနေဟာ ဘာသာရေးအဖွဲ့အစည်းများ၊ ဘာသာရေးခေါင်းဆောင်များ၊ နိုင်ငံရေး ပါတီများ အပါအဝင် ကျွန်တော်တို့အားလုံး စည်းစည်းလုံးလုံးနဲ့ သတိပြုပြီး ဝိုင်းဝန်းထိန်းသိမ်းဆောင်ရွက်ကြရမယ့်အနေအထား ရောက်ရှိလာတာကို တွေ့ရပါတယ်။

မိဘပြည်သူများခင်ဗျား . . .

\- ကျွန်တော်ဦးဆောင်တဲ့ ပြည်ထောင်စု အစိုးရအဖွဲ့အနေနဲ့ နိုင်ငံတော်ရဲ့အုပ်ချုပ်ရေးတာဝန်များကို တာဝန်ယူခဲ့ချိန်မှ စတင်ပြီး မိဘ

ပြည်သူများရဲ့အဓိက လိုအင်ဆန္ဒ(၂)ရပ်ဖြစ်တဲ့ တည်ငြိမ်အေးချမ်းရေးနဲ့ စီးပွားရေးဖွံ့ဖြိုးတိုးတက်ရေး၊ တစ်နည်းအားဖြင့် ပြည်သူများရဲ့ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေးကို အဓိကထားပြီး နိုင်ငံရေးနဲ့ စီးပွားရေး ပြုပြင်ပြောင်းလဲမှုတွေကို အရှိန်အဟုန်နဲ့ တစိုက်မတ်မတ် ဆောင်ရွက်ခဲ့ပါတယ်။ လက်ရှိ အချိန်မှာလည်း ပြည်သူလူထုကို အခြေပြုတဲ့ ပြုပြင်ပြောင်းလဲရေး မဟာဗျူဟာကို ဒုတိယအဆင့် တက်လှမ်းပြီးတော့ ကြိုးပမ်းဆောင်ရွက်နေပြီ ဖြစ်ပါတယ်။ ကျွန်တော်တို့ မြန်မာနိုင်ငံဟာ ရှေးအစဉ်အဆက်ကပင် ကွဲပြားတဲ့ ဘာသာရေး ကိုးကွယ်ယုံကြည်မှုတွေရှိခဲ့ပေမယ့်လည်း မြန်မာနိုင်ငံအတွင်း အချင်းချင်း အပြန်အလှန် လေးစားမှု၊ ချစ်ကြည်ရင်းနှီးမှုများနဲ့ အတူတကွ ယှဉ်တွဲနေထိုင်လာခဲ့ကြတဲ့ အစဉ်အလာကောင်းတဲ့ သမိုင်းကြောင်းရှိခဲ့ပြီး ဖြစ်ပါတယ်”

- ကျွန်တော်တို့ အစိုးရလက်ထက်မှာ လွတ်လပ်စွာ ထုတ်ဖော်ပြောဆိုခွင့်၊ လွတ်လပ်စွာဖွဲ့စည်းခွင့်၊ လွတ်လပ်စွာ ကိုးကွယ်ယုံကြည်ခွင့် အစရှိတဲ့ နိုင်ငံသားများရဲ့ မူလအခွင့်အရေးများကို ဖွဲ့စည်းပုံ အခြေခံဥပဒေနဲ့အညီ ခံစားရရှိနိုင်ကြစေရန်အတွက် ဥပဒေ၊ နည်းဥပဒေတွေကို ပြင်ဆင်ဖြည့်စွက် အသစ်ပြဋ္ဌာန်းပြီး အကောင်အထည်ဖော် ဆောင်ရွက်ပေးလျက်ရှိပါတယ်။ မိဘပြည်သူများရဲ့ အခက်အခဲများ၊ ပြဿနာများ၊ လိုလားချက်များကို အသင့်မြတ်ဆုံးနဲ့ အတတ်နိုင်ဆုံးဖြစ်အောင် ဖြေရှင်းဆောင်ရွက်ပေးဖို့ကျွန်တော်တို့ အစိုးရမှာ အပြည့်အဝ တာဝန်ရှိတယ်လို့ ကျွန်တော်တို့ခံယူထားပါတယ်။

- ကျွန်တော်တို့အစိုးရအနေနဲ့လည်း ရခိုင်ပြည်နယ်အတွင်း မတည်ငြိမ်မှု၊ အကြမ်းဖက်မှုများ ဖြစ်ပွားလာတဲ့ အချိန်ကစပြီး ဖြစ်ပွားသောနေရာများမှာ ချက်ချင်းတည်ငြိမ်အေးချမ်းသွားအောင် ကြိုးပမ်းဆောင်ရွက်ခဲ့ပါတယ်။ အလားတူ အခြားဆက်စပ် ဖြစ်ပွားနိုင်ဖွယ်ရှိသော နေရာများတွင်လည်း ဆက်စပ်ဖြစ်ပွားလာခြင်း မရှိအောင်၊ ဖြစ်ခဲ့ပါကလည်း ဖြစ်စတွင်ပင် ပြီးပြတ်အေးငြိမ်းသွားအောင် ကြိုတင်ပြင်ဆင် စီမံမှုအတိုင်း လက်တွေ့ ဆောင်ရွက်ခဲ့ပါတယ်။ ဖြစ်စဉ်များနဲ့ ဆောင်ရွက်မှု အခြေ



အနေများ၊ ထိခိုက်ဆုံးရှုံးမှုအခြေအနေများကိုလည်း မိဘပြည်သူများအား အချိန်နဲ့တစ်ပြေးညီ ချပြအသိပေးလျက်ရှိပါတယ်။ ကျွန်တော့် အနေနဲ့လည်း ဒီဖြစ်စဉ်များ ဖြစ်ပွားစကပင် မိဘ ပြည်သူများထံ အခြေအနေအရပ်ရပ်ကို ရှင်းလင်းပြောကြားဖို့ စီစဉ်ခဲ့သော်လည်း အခြေအနေအရပ်ရပ် ကျယ်ပြန့်လာခြင်း မရှိနိုင်ဘူးလို့ ယူဆတဲ့အတွက်လည်းကောင်း၊ မိဘပြည်သူများ စိတ်သောက မဖြစ်စေလိုတဲ့အတွက်လည်းကောင်း ယခင်က ရှင်းလင်းပြောကြားမှု မပြုခဲ့ခြင်း ဖြစ်ပါတယ်။

- သို့သော်လည်း ဇွန်လ ၉ ရက်နေ့ ညက စစ်တွေမြို့မှာ အကြမ်းဖက်ဆောင်ရွက်မှုများ၊ အကြမ်းဖက်ရန် ပြင်ဆင် ကြိုးပမ်းမှုများ ထပ်မံဖြစ်ပေါ်ခဲ့တဲ့အတွက် ဥပဒေနဲ့အညီ ထိန်းသိမ်းကာကွယ်မှုများ ဆောင်ရွက်ခဲ့ရပြန်ပါတယ်။ ဒီအခြေအနေများအရ မိဘပြည်သူများကပါ သိရှိပါဝင်ပူးပေါင်းဆောင်ရွက်ဖို့ လိုအပ်လာပြီလို့ ယူဆတဲ့အတွက် ယနေ့ မိဘပြည်သူများကို ယခုလို ရှင်းလင်း ပြောကြားခြင်း ဖြစ်ပါတယ်။

မိဘပြည်သူများခင်ဗျား . . .

- လက်ရှိ ရခိုင်ပြည်နယ် အတွင်းမှာ ဖြစ်ပေါ်နေတဲ့ ဖြစ်စဉ်များဟာ ဘာသာရေးနဲ့ လူမျိုးရေးကို အခြေခံပြီး မကျေနပ်မှု၊ မုန်းတီးမှု၊ လက်စားချေလိုမှုတွေကို ရှေ့တန်းတင် လှုံ့ဆော် ဆောင်ရွက်မှုများကြောင့် မင်းမဲ့စရိုက်လုပ်ရပ်များ ကျယ်ပြန့်ကြီးမားလာတာဖြစ်ကြောင်း တွေ့ရှိရပါတယ်။ ဒီလို လူမျိုးစွဲ၊ ဘာသာစွဲတွေကို ရှေ့တန်းတင်ပြီး မဆုံးနိုင်တဲ့ မုန်းတီးမှုတွေ၊ လက်စားချေလိုမှုတွေနဲ့ မင်းမဲ့စရိုက်တွေကို ရှေ့တန်းတင်လျက် တစ်ဖက်နဲ့တစ်ဖက် အပြန်အလှန် အကြမ်းဖက် သတ်ဖြတ်နေကြမယ် ဆိုရင် ရခိုင်ပြည်နယ်တွင်သာမက ပိုမိုကျယ်ပြန့် ဖြစ်ပွားလာစေနိုင်တဲ့ အန္တရာယ်ရှိပါတယ်။ အခြားသော အမျှော်ပယောဂများလည်း ပါဝင်ပူးကပ်လာနိုင်ပါတယ်။ ဒီလိုသာ ဖြစ်လာခဲ့ရင် အသွင်ကူးပြောင်းစသာရှိသေးတဲ့ ကျွန်တော်တို့နိုင်ငံရဲ့ တည်ငြိမ်အေးချမ်းရေး၊ ဒီမိုကရေစီဖော်ဆောင်ရေးနဲ့ နိုင်ငံဖွံ့ဖြိုးတိုးတက်ရေးအပေါ် ပြင်းပြင်းထန်ထန် ထိခိုက်ဆုံးရှုံးမှု ဖြစ်ပေါ်လာစေနိုင်တာကို မိဘပြည်သူများ အားလုံး အထူး

သတိထားကြစေချင်ပါတယ်။

- ကျွန်တော်တို့ အစိုးရအနေဖြင့် ဖြစ်ခဲ့ပြီးတဲ့ကိစ္စရပ်တွေအပေါ်မှာ ဥပဒေနဲ့အညီ ဖြေရှင်းဆောင်ရွက်သွားမှာ ဖြစ်သလို ဒီလို ဖြစ်စဉ် ဖြစ်ရပ်မျိုးတွေ နောက်ထပ်မဖြစ်ပွား ရအောင်လည်း တည်ဆဲဥပဒေ စည်းမျဉ်း စည်းကမ်းများနဲ့အညီ စနစ်တကျ ထိန်းသိမ်း ဆောင်ရွက်သွားပါမယ်။ ဒီဖြစ်စဉ်မှာ နစ်နာဆုံးရှုံးခဲ့ကြရတဲ့သူများအတွက်လည်း တရားမျှတမှု ရှိအောင် အလေးထား ဆောင်ရွက်ပေးသွားမှာ ဖြစ်တဲ့အတွက် အားလုံးက သဘောထားကြီးကြီးထားပြီး အစစအရာရာ နားလည်ပေးကြဖို့ ပြောကြားလိုပါတယ်။ ဆက်လက်ပြီး ကျွန်တော်တို့အစိုးရအနေနဲ့ တရားဥပဒေစိုးမိုးမှုရရှိအောင်လည်း အလေးထား ဆောင်ရွက်သွားမှာ ဖြစ်ကြောင်း ပြောကြားလိုပါတယ်။ ထို့အတူ ဘာသာရေး အဖွဲ့အစည်းများနဲ့ ဘာသာရေးခေါင်းဆောင်များ၊ နိုင်ငံရေးပါတီများ၊ လူထုလူတန်းစား အဖွဲ့စည်းများ၊ မြို့မိမြို့ဖ ရပ်မိရပ်ဖ ပြည်သူများနဲ့လည်း ပူးပေါင်းပြီး ဖြေရှင်းဆောင်ရွက်လျက် ရှိပါတယ်။

မိဘပြည်သူများခင်ဗျား . . .

- ကျွန်တော်တို့အားလုံး မျှော်မှန်းတည်ဆောက်နေကြတဲ့ ဒီမိုကရေစီဖော်ဆောင်ရေး၊ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းစဉ်များဟာ တည်ငြိမ်အေးချမ်းမှုနဲ့ တရားဥပဒေစိုးမိုးမှု ပတ်ဝန်းကျင်ကောင်းရှိမှသာ ဖော်ဆောင်အောင်မြင်နိုင်မှာ ဖြစ်ပါတယ်။ တည်ငြိမ်အေးချမ်းရေး၊ တရားဥပဒေစိုးမိုးရေးရှိဖို့ဆိုတာဟာလည်း နိုင်ငံတော်အစိုးရ အပေါ်မှာသာ တာဝန်ရှိတာ မဟုတ်ပါဘူး၊ ပြည်သူများ အပိုင်းကလည်း အသိတရားနဲ့ယှဉ်ပြီး ဥပဒေများကို လေးစားလိုက်နာကြဖို့ လိုအပ်ပါတယ်။ ထို့အတူ ဘာသာရေး အဖွဲ့အစည်းများ၊ ဘာသာရေးခေါင်းဆောင်များ၊ နိုင်ငံရေးပါတီများနဲ့ နိုင်ငံရေးသမားများ၊ လူထုလူတန်းစား အဖွဲ့အစည်း အားလုံးရဲ့ အသိတရားနဲ့ယှဉ် သတိတရားနဲ့ ပူးပေါင်းဆောင်ရွက်ကြဖို့လည်း အထူးလိုအပ်ပါတယ်လို့ ပြောကြားလိုပါတယ်။

- ဒါကြောင့် မိဘပြည်သူများ၊ ဘာသာရေးအဖွဲ့အစည်းများ၊



နိုင်ငံရေးပါတီများ၊ လူထု လူတန်းစားအဖွဲ့အစည်းအားလုံးတို့က လက်ရှိဖြစ်ပေါ်နေသော မတည်ငြိမ်မှုများ တည်ငြိမ်အေးချမ်းသွားအောင်၊ ပိုမိုကျယ်ပြန့်ဖြစ်ပွားလာခြင်း မရှိအောင် သတိတရားကို အခြေခံ၊ အသိတရားနဲ့မေတ္တာတရားကို ပေါင်းစပ်ပြီး နိုင်ငံတော်အစိုးရနဲ့အတူ ဝိုင်းဝန်းပူးပေါင်း ကာကွယ်ထိန်းသိမ်း ဖော်ဆောင်ပေးကြဖို့ မေတ္တာရပ်ခံပန်ကြားအပ်ပါတယ်။

- ချစ်ခင်လေးစားအပ်ပါသော မိဘပြည်သူများအားလုံး ဘေးဘယာဝေးကွာပြီး ကျန်းမာချမ်းသာကြပါစေကြောင်းနဲ့ နိုင်ငံတော်အစိုးရနဲ့လက်တွဲပြီး အေးချမ်းသာယာ ခေတ်မီဖွံ့ဖြိုးတိုးတက်တဲ့ ဒီမိုကရေစီ နိုင်ငံတော်သစ် ဖြစ်ထွန်းပေါ်ပေါက်လာအောင် ဆောင်ရွက်နိုင်ကြပါစေကြောင်း ဆုတောင်းမေတ္တာပို့သရင်း နိဂုံးချုပ်လိုက်ပါတယ်။

အားလုံးကို ကျေးဇူးတင်ပါတယ်"လို့ ပြောကြားသွားခဲ့သည်။ သို့သော်ကား ပူးပေါင်းဆောင်ရွက်ချင်ကြသော်လည်း တစ်ဖက်မှ လက်မခံလျှင် ပူးပေါင်းမှုများ ပျက်စီးတတ်သည်။ ယခုလည်း ဘင်္ဂလီကုလားတို့သည် သူတို့ စတင်လိုက်သော မီးကို ရခိုင်တို့ ငြိမ်းသတ်ဖို့ဆိုသည်မှာ လောလောဆယ်အားဖြင့် မည်သို့မှမဖြစ်နိုင်ချေ။ ဒီမိုကရေစီစနစ်သည် (၂၀၁၀)ခုနှစ်တွင် စတင်ခဲ့သည်ဆိုလျှင် ယခု (၂၀၁၂)ဆိုလျှင် (၂)နှစ် သက်တမ်းသာရှိသေးသည်။ သို့သော်ကား ဒီမိုကရေစီနုနုကို စမ်းသပ်ဖို့အတွက် ဘင်္ဂလီကုလားတို့ မီးစတို့ဖြင့် စတင်ကစားကြလေသည်။

အချိန်ကား နေလုံးကြီးသည် အရှေ့မှ ပူရာဖက်သို့ ဖန်တီးလာသည်။ သူ၏ တိမ်တိုက်နောက်ကွယ်မှ အပူလက်နက်ကို ထုတ်သုံးပြီး လူ့လောကကကို အပူဒဏ်သွင်းတော့သည်။ အချိန်ကား တဖြည်းဖြည်းဖြင့် (၉)နာရီကို ကျော်လာသည်။ လူအုပ်က အုပ်လိုက် အုပ်လိုက်ဖြင့် အရှေ့၊ အနောက်၊ တောင်၊ မြောက်ကို ထွက်သွားကြသည်။ ဒီတစ်ချိန်တွင် တုတ်၊ ဓား၊ လေးဂွ၊ ဝါးချွန်တို့ဖြင့် လက်နက်အပြည့်ဖြင့် ဖြတ်သွားဖြတ်လာများကို တွေ့ရသည်။ မင်းဂံလမ်းမကြီးတစ်ခုလုံးကား ယောက်ျားသား

တို့အတွက် ခြေချင်းလိမ်နေသည်။ လူအယောက် (၃၀)လောက်ရှိမည့် လူအုပ်သည် လူခါးအနီးမှ ဖြတ်သွားသောအခါ

"ခင်ဗျား ဘယ်ကလဲဗျာ"

"သဲချောင်းကျေးရွာက"ဆိုပြီး ဖြေသည်။ အော်. . သူတို့က မင်းဂံရပ်ကွက်၏ အနောက်ဘက်အကျဆုံး (၇)ဖာလုံလောက်ရှိမည့် သဲချောင်းကျေးရွာက လူကြီးသူမများနှင့် မိန်းမများကို အကာအကွယ် ပေးပြီး ခေါ်ထုတ်လာကြသည့် လူအုပ်ဖြစ်သည်ကို သတိထားမိလိုက် သည်။ သဲချောင်းကျေးရွာဆိုသည်မှာ ဘင်္ဂလီကုလားများ ပတ်ပတ်လည် ဝိုင်းလျက်ရှိသည်။ ထို့ပြင် ပင်လယ်ကမ်းစပ်နှင့် ထိစပ်လျက်ရှိပြီး အချိန် မရွေး ပင်လယ်ပြင်မှ စက်လှေများဖြင့် ရန်သူဘင်္ဂလီကုလားတို့မှ ဝင်ရောက်တိုက်ခိုက်နိုင်သည့် နေရာဖြစ်သည်။

နံနက် (၉)နာရီပတ်ဝန်းကျင်လောက်တွင် ညတုန်းက မီးလောင်ရာ ဖက်ကမှ ထပ်မံ၍ အရှိန်ပြင်းစွာ မီးလောင်သည်ကို မြင်တွေ့ရသည်။ လူခါးတို့လည်း ချက်ချင်းလိုက်သွားကြသည်။ အခြေအနေမှာ လူအုပ် နှစ်ဖက်ကြား အပြန်အလှန် စစ်ရေးဟန်ရေးပြနေကြတော့သည်။ ဘင်္ဂလီ တို့ဖက်မှ ရှေ့ဆုံးတွင် ကလေးငယ်များကိုထားပြီး အလယ်တွင် အမျိုး သမီးများ၊ နောက်ဆုံးတွင် အားကောင်းမောင်းသန် ယောကျာ်းများဖြင့် နေရာယူသည်။ သစ်ပင်များပေါ်ကို တက်ပြီး ရခိုင်တို့ဘက်ကို ကြည့်နေ သူများကိုလည်း မြင်ရသည်။ သူတို့လက်ထဲတွင် တုတ်၊ ဓား၊ လက်နက် အပြည့်အစုံဖြင့် အသင့်ပြင်ဆင်ထားသည်။ ထို့အပြင် တချို့သော ဘင်္ဂလီကုလားများသည် ရခိုင်နေအိမ်များနှင့် ကပ်လျက်အိမ်များကို မီးရှို့ ပြီး ထွက်ပြေးကြသည်။ မင်းဂံရပ်ကွက် အကွက်(၁)သည် ဆင်းရဲသား၊ လက်လုပ် လက်စားများနေထိုင်သောရပ်ကွက်ဖြစ်သောကြောင့် အိမ်များ မှာ ဓနိမိုး၊ ဝါးအိမ်များဖြစ်ကြသည်။ ဘင်္ဂလီကုလားတို့မှ ရခိုင်အိမ်များနှင့် အနီးစပ်ဆုံးအိမ်ကို မီးရှို့လိုက်သောကြောင့် မီးသည် ရခိုင်အိမ်များပါ ဘင်္ဂလီကုလားတို့ အိမ်များကိုပါ ဝါးမျိုသွားသည်။ ဒီအချိန်တွင် ဂျာနယ် တစ်စောင်တွင် ဖော်ပြခဲ့သော သတင်းတစ်ပုဒ်ကို သတိရမိလိုက်သည်။



"၁၉၇၈ ခုနှစ် နဂါးမင်း စစ်ဆင်ရေးတုန်းကလည်း သူတို့ဟာ ကိုယ့်ရွာကိုကိုယ် မီးရှို့မှုတွေ လုပ်ခဲ့ဖူးတယ်၊ ၁၉၉၂ ခုနှစ် တုန်းကလည်း ဒီလိုမျိုး တစ်ခါ လုပ်ခဲ့ဖူးတယ်၊ သူတို့မှာ ဒီလိုလုပ်တဲ့ အလေ့အကျင့် ဟာ ရှိပြီးသားဖြစ်တယ်။ အမှန်တကယ် စဉ်းစားမယ်ဆိုရင် ဖြစ်နိုင်ခြေ မရှိဘူးလို့ ယူဆရပေမယ့် အမှန်တကယ်ဖြစ်ခဲ့တယ်။ နိုင်ငံတော် လဝက ဥပဒေအနေနဲ့ ခိုးဝင်တဲ့သူတွေကို စာရင်းကောက်တဲ့အခါ သူတို့က တရား မဝင် ဝင်လာတဲ့သူတွေဆိုတော့ စစ်ဆေးမခံဘဲနဲ့ ထွက်ပြေးတဲ့အခါမှာ ကိုယ့်အိမ်ကိုကိုယ် မီးရှို့ခဲ့ကြတာ ဖြစ်ပါတယ်၊ သူတို့ရဲ့ ပိုင်ဆိုင်မှုတွေကို ထားခဲ့ရမှာဆိုတော့ မြေလှန်စနစ်နဲ့ နောက်လာတဲ့သူတွေကို ဘာမှ မရနိုင်အောင် လုပ်ထားခဲ့တာ ဖြစ်တယ်၊ လောလောဆယ်မှာတော့ ဒီပြဿနာရဲ့သတင်းအပြည့်အစုံကို မရရှိသေးပါဘူး။"ဟု ရခိုင်ပြည်နယ် ဥပဒေချုပ်လည်းဖြစ်၊ ပြည်နယ်အစိုးရအဖွဲ့ သတင်းထုတ်ပြန်ကြားရေးနှင့် မှတ်တမ်းပြုစုရေး ဆပ်ကော်မတီ ဥက္ကဋ္ဌ ဦးလှသိန်းပြောစကားကို ဖတ်ဖူးခဲ့သည်။ လူခါးလည်း စဉ်စားအတွက်ပေါ်တုန်းပဲရှိသေးသည် ဒိဋ္ဌကိုယ်တွေ့ မြင်လိုက်ချိန်တွင်

"ကျနော်တို့ ဒီအတိုင်း ရပ်ကြည့်နေလို့ မဖြစ်တော့ဘူး။ အမှန်က ပြဿနာကို သူတို့ကပဲ စတင်နေတယ်။ ကျနော်တို့တစ်တွေ ခံကြမလား တိုက်ကြမလား။ တရားသော တိုက်ပွဲတစ်ခုကို ဆင်နွှဲရတော့မယ်။ ဒီအကောင်တွေကို ဒီအတိုင်းကြည့်နေရင် ကျနော်တို့ အားနည်းတာနဲ့ ဆက်တိုက် လူသတ်၊ မီးရှို့၊ ပစ္စည်းလု၊ မုဒိန်းကျင့်တော့မယ်။ ကျနော်တို့ အသက်တွေကို စွန့်မှ ဖြစ်တော့မယ်" အော်ပြောလိုက်သည်။ ဟုတ်ပေသည်။ သမိုင်းခေတ်ဦးကတည်းက ဘိုးဘွားတို့ အမွေပေးထား ခဲ့သည့် ဒီနယ်မြေကို ကျွန်ုပ်တို့ မကာကွယ်လျှင် မည်သူက ကာကွယ် မည်နည်း။ ဤစည်းကို ကျော်သွားလျှင် မင်းဂံရပ်ကွက်ထဲရှိ အမျိုးကောင်း သားသမီးတို့ဘဝကား မတွေးဝံ့စရာပင်။

လူခါးလည်း ကြက်သီးမွေးညင်းလေးများပင် ထလာသည်။ အသက်စွန့်တိုက်ရမည်ဆိုလျှင် စိတ်က ထိတ်ကနဲ တွေဝေသွားသည်။

တွေဝေခြင်းသည် ယောကျ်ားကောင်းတို့ အလုပ်မဟုတ်သည်ကား မှန်၏။ သို့သော် အသက်ဘေးနှင့် နဖူးတွေ့ဒူးတွေ့ကြုံရသောအခါ မည်သူက မတွေဝေဘဲ နေမည်လဲ။ ဒီအချိန်မှာပင်

"အားလုံးတက်သင့်ပြီ"ဆိုပြီး တပ်လှန့်လိုက်သည်။ အစီအစဉ်မကျသော လူအုပ်သည် ချက်ချင်း ကထိုက်ကရိုက် တက်သွားကြသည်။ လူခါးလည်း လိုက်ပါသွားသည်။ လုံခြုံရေးများမှ သေနတ်များကို မိုးပေါ် ထောင်ပစ်သည်။ သို့သော် လူအုပ်ကား မမှု။ ရန်သူဘင်္ဂလီတို့ဘက်မှလည်း နောက်မဆုတ်။ (၅)ကေလောက်ရှိမည့် ကွင်းကျယ်တွင် ဘင်္ဂလီကုလားတို့ဘက်မှ စနစ်တကျ၊ ရခိုင်တို့ကား ချေတစ်ကြောင်း ဆတ်တစ်ကြောင်းပုံစံမျိုး။ အရေးကြုံလာလျှင် သူ့ရဲကောင်းပေါ်တတ်သည် မဟုတ်လား။ အခုလည်း အသက်အရွယ်မရွေး သတ္တိရှိသော လူများကို မျက်ဝါးထင်ထင်မြင်ရသည်။ သေနတ်ပစ်သံကို မမှု၊ ရှေ့ရန်သူကို မမှု၊ ဒီမြေ၊ ဒီရေ၊ ဒီလေကို ကာကွယ်မည့် အမျိုးကောင်းသားတို့သည် ရှေ့ဆုံးမှ ဦးဆောင်တက်သွားကြသည်။ ရခိုင်တို့ဘက်က လူအုပ်များသောကြောင့် ဘင်္ဂလီကုလားတို့သည် ရင်ဆိုင်မခံရဲဘဲ ဖရိုဖရဲ ထွက်ပြေးကြသည်။ ထွက်ပြေးစဉ်တွင် ဘုမေကုလားရွာမှ အနီးစပ်ဆုံး သူတို့၏ အိမ်များကို မီးရှို့ခဲ့ကြပြီး ရခိုင်တို့အလာလမ်းကို ပိတ်ခဲ့ကြသည်။ ရခိုင်တို့ကား ရှေ့တိုးလို့လည်းမရတော့ချေ။ မီးကား ဘင်္ဂလီကုလားတို့၏ အိမ်တစ်အိမ်ပြီး တစ်အိမ် လေတိုက်နှုန်းအားဖြင့် ဘုမေကုလားရွာနှင့် မင်းဂံအကွက်(၁)တို့သည် မီးစာဘဝဖြင့် ဇီဝိန်ခြွေသွားလေတော့သည်။ လူများလည်း ဆက်မလိုက်ကြတော့ဘဲ အခြေအနေကို ရပ်တန့်ကြည့်ရှုနေကြသည်။ မီးကား ဘုမေဘင်္ဂလီကုလားရွာမှ အိမ်အချို့ကို ပြာပုံဘဝသို့ ပြောင်းလဲလိုက်တော့သည်။

ရန်သူတို့ကား အိမ်များကို မီးရှို့ခဲ့ပြီး နောက်တစ်ဘက်မှ လူပြန်စုနေကြသည်။ ရခိုင်တို့လည်း အသင့်အနေအထားဖြင့် စောင့်ကြည့်နေကြသည်။ အလုပ်အရှုပ်ဆုံး စာရင်းထဲတွင်တော့ လုံခြုံရေးများကို ထည့်ထားရမည်။ သူတို့သည် ဟိုဘက်ဖြစ်လျှင် ဟိုဘက်ကို ပြေးလိုက်



ဒီဘက်ဖြစ်လျှင် ဒီဘက်ကို ပြေးလိုက်ဖြင့် ပြေးတမ်း လိုက်တမ်းကစားနေသလိုပင် ရှိသည်။

မီးကား မညှာမတာဖြင့် တစ်အိမ်ပြီးတစ်အိမ် ဝါးမျိုနေသည်။ မင်းဂံရပ်ကွက် အကွက်(၁)နှင့် ဘုမေဘင်္ဂလီကုလားရွာမှ တချို့တစ်ဝက်ပါသွားပြီ။ စစ်တွေမြို့နယ်တွင် ဘုမေဘင်္ဂလီကုလားရွာသည် အိမ်ခြေအားဖြင့် (၃၀၀၀)ခန့်ရှိပြီး စစ်တွေမြို့ မီးစက်ကြီးခွဆုံမှသည် စစ်တွေတက္ကသိုလ်နောက်ထိ ရှည်လျားသည့် ကျေးရွာကြီးလည်းဖြစ်သည်။ ဘုမေဘင်္ဂလီကုလားရွာသည် စစ်တွေတက္ကသိုလ်သို့သွားသော လမ်းမတလျှောက် ဝဲယာတစ်ဘက်စီတွင် တည်ရှိပြီး ရခိုင်များ သွားလာလျှင် မကြာခဏပြဿနာရှာတတ်သည့် ကျေးရွာလည်း ဖြစ်သည်။

စစ်တွေမြို့၏ အနောက်ဘက်တွင်ရှိသော ရခိုင်များနေသည့် မှန်စီကျေးရွာ၊ သဲချောင်းကျေးရွာ၊ ပလ္လင်ပြင်ကျေးရွာ၊ ဂျောပူဂျာကျေးရွာ၊ ကျက်တောပြင်ကျေးရွာ၊ ဒေါင်းပြောက်ကေကျေးရွာ၊ အောင်တိုင်ကျေးရွာတို့မှ ဒေသခံများသည် မပြတ်ထွက်ပြေးလာကြသည်။ တချို့က စစ်တွေမြို့ထဲတွင် အသိမိတ်ဆွေအိမ်များတွင် ဝင်ရောက်ခိုလှုံကြပြီး အသိမိတ်ဆွေမရှိသူများကား ဘုန်းတော်ကြီးကျောင်းများတွင် လာရောက်ခိုလှုံကြသည်။ စစ်တွေမြို့ပေါ်ရှိ ဘုန်းကြီးကျောင်းတိုင်းတွင် ဒုက္ခသည်များ မရှိသည့် ကျောင်းမရှိသလောက်ဖြစ်သွားသည်။ နည်းသည်နှင့် များသည်သာ ကွာသည်။

ဘုန်းတော်ကြီးကျောင်းများသို့ ရောက်ရှိလာသော ဒုက္ခသည်များ စားရေးသောက်ရေးအဆင်ပြေစေဖို့ စစ်တွေမြို့ပေါ်မှ တက်ကြွလူငယ်များမှလည်း အိမ်တိုင်းတွင် ထမင်းများ အပိုချက်ကြဖို့ ဆော်သြကြသည်။ ခြေမြန်လက်မြန်အမျိုးသမီးများနှင့် အသက်အရွယ်ကြီးသော်လည်း သန်သန်မာမာရှိသူများက မိမိတို့ရပ်ကွက်အတွင်း ထမင်းထုပ်များ လိုက်ကောက်ကြသည်။ ပြီးလျှင် သုံးဘီးဆိုင်ကယ်များဖြင့် နီးစပ်ရာကျောင်းများကို လိုက်ပို့ကြသည်။ ထိုနည်းတူစွာ နေမြင့်လာသည်နှင့်အမျှ မြို့ထဲမှ ထမင်းထုပ်များ လာရောက်ဝေငှသူများသည် လူခါးတို့ရောက်ရှိနေသော

မင်းဂံရပ်ကွက်ထဲသို့လည်း အချို့အချို့လာရောက်ကြတော့သည်။ လာရောက်သူများမှ အခြေအနေကို မေးမြန်းသူများ၊ အခြေအနေကို သွားရောက်ကြည့်ရှုသူများဖြင့် လူတိုင်းသည် အလုပ်ရှုပ်နေတော့သည်။

မင်းဂံရပ်ကွက် ဓမ္မာရုံတွင်လည်း လူတို့က မပြတ်ဝင်ရောက်လာသည်။ တချို့သည် မင်းဂံရပ်ကွက်နှင့် နီးစပ်သည့် အာကျိပ်တော်ကုန်းတွင်ရှိသော အဓိဋ္ဌာန်ဘုန်းတော်ကြီးကျောင်း၊ ဘုရားလေးဆူကျောင်း၊ c/စရိုင်းချောင်းကျောင်း၊ ဦးဉာဏစက္ကကျောင်းတိုက်စသည့် ကျောင်းများသို့ ဆက်လက်ထွက်ခွါသွားကြသည်။ ကိုလှထွန်းဦးဆောင်သော အဖွဲ့ကား မနားတမ်း ခေါက်တုန့်ခေါက်ပြန် မြို့ထဲသို့ ဒုက္ခသည်များကို ပို့ဆောင်နေရသည်။ ဆရာသိန်းမှ

"မင်းအသိထဲမှာ ဆရာဝန်တွေနဲ့ ကျန်မာရေးလုပ်သားတွေ မရှိဘူးလား။ ဒီအထဲမှာ ကျန်မာရေးချို့တဲ့သူတွေနဲ့ ဒဏ်ရာရသူတွေကို အရေးပေါ် ဆေးကုနိုင်ဖို့ တစ်ခုခု စီစဉ်ရတော့မယ်"

"အိမ်သာတွေလည်းမလုံလောက်ဘူး၊ ရေကလည်း မသန့်ဘူး။ လောလောဆယ်တော့ ဘာမှလုပ်လို့ရအုံးမှာ မဟုတ်ဘူး။ ကျန်းမာရေး လုပ်သားတွေနဲ့ပဲ ထိန်းရတော့မယ်"လို့ ပြောသည်။

"ဆေးရုံကို ဆက်သွယ်ကြည့်ပြီးပြီလား ဆရာသိန်း"

လူခါးက ပြန်မေးလိုက်သည်။

"အဲ . . ငါ ဆက်သွယ်ကြည့်ပြီးပြီ၊ သူတို့မှာလည်း ဆရာဝန်တွေ လိုက်မမီဘူး။ အရေးပေါ် လူနာတွေ များတယ်တဲ့"

"ဟုတ်ကဲ့ ကျနော့်အသိထဲမှာတော့ အလုပ်သင်ဆရာဝန်ရှိတယ်။ ကျနော် အကူအညီတောင်းကြည့်မယ်"ဆိုပြီး ကိုယ်နဲ့သိကြတဲ့ ဆရာဝန်လောင်းတွေကို တစ်ယောက်ပြီးတစ်ယောက် ဖုန်းဆက်ကြည့်သည်။ ကံကောင်းချင်းတော့ ဆရာဝန်တွေက ပေါ်စတိန်မကျသေးသဖြင့် အလုပ်အားနေသည့် ဆရာဝန် (၃)ဦးလောက်ကို အကူအညီတောင်းလို့ရသည်။ သူတို့လည်း ရခိုင်တွေမို့ချက်ချင်းလာကြသည်။ ထိုအထဲတွင် ဒေါက်တာနိုင်လင်းအား ကျန်မာရေးတာဝန်ကို အဓိက တာဝန်ယူပေးရန်



အကူအညီတောင်းခံရာ ဒဏ်ရာရသူများ၊ နေမကောင်းဖြစ်နေသူများကို ဆက်တိုက်ကြည့်ရှုပေးလေတော့သည်။ သူနဲ့အတူပါလာသော ကျန်းမာရေးလုပ်သား မင်းအောင်ကိုတော့ ဆေးဝယ်ဖို့ စာရင်းတွေ လိုက်ပြုစုဖို့ အတွက် သူခေါ်လာလိုက်သည်။

အမျိုးသားရေးတွင် လက်မနှေးဖို့လိုအပ်သည်။ ဒီအရေးဟာ အမျိုးသားရေးမဟုတ်ပါလော။ ဒါကြောင့် ဆရာဝန်သည် ကျန်းမာရေးနေရာကို တာဝန်ယူသလို၊ ဆရာတော်တွေမှ ရောက်လာသော ဒုက္ခသည်တွေကို နွေးထွေးမှုကိုပေးသည်။ အရွယ်ရောက်သော ယောကျ်ားကောင်းများသည် ကာကွယ်ရေးကို တာဝန်ယူပြီး အရွယ်ရောက်သော အမျိုးသမီးများမှ စားဖို့သောက်ဖို့အပိုင်းကို တာဝန်ယူပေးထားသည်။ အားလုံး တာဝန်ကိုယ်စီဖြင့် အဖရခိုင်ပြည်ကြီးပေါ်မှ သွေးစက်တွေကို သူတို့၏ ချွေးတွေဖြင့် ဆေးကြောကြလေတော့သည်။ လူခါးလည်း မိသားစုရေးထက် လူမျိုးရေး တိုင်းပြည်ရေးကို ပိုတန်ဖိုးထားလာသည်မှာကား အထူးပြောစရာမလိုတော့သလို လူခါးလိုပင် ရခိုင်တစ်မျိုးသားလုံးသည် နှိုးနှိုးကြားကြားဖြင့် လာမည့်ဘေးကို ပြေးတွေ့ဆိုသဖြင့် ဖြစ်လာသမျှအတွက် ကြိုတင်ပြင်ဆင်ထားကြလေတော့သည်။

*****

## (၁၉)

အချိန်အားဖြင့် (၁၁)နာရီခွဲဝန်းကျင်။ မင်းဂံရပ်ကွက် အစွန်းပိုင်း အကွက် (၁၇)လောက်မှ သေနတ်ပစ်သံများကို အဆက်မပြတ်ကြားရသည်။ အနီးအနားမှ လူများသည် ဆိုင်ကယ်ဖြင့်တစ်ဖုံ ခြေလျင်တစ်ဖုံ ထိုဖက်သို့ ပြေးတက်သွားကြသည်။ မင်းဂံရပ်ကွက် (၁၂)၊ (၁၇)ထိတွင် ကွက်တိကွက်ကြား အိမ်များ မီးလောင်နေလေပြီ။ သေနတ်ပစ်သံမှာ လုံခြုံရေးများမှ အခြေအနေကို ထိန်းသိမ်းနေခြင်း ဖြစ်သည်။ သို့သော် လုံခြုံရေး မလိုက်နိုင်လောက်အောင် ဘင်္ဂလီကုလား အစုအဝေးကြီးမားနေသည်။ ၎င်းရပ်ကွက်၏ တောင်ဘက်တွင် ဉယာဉ်သာ ဘင်္ဂလီကုလားရွာနှင့် မြောက်ဘက်တွင် ဒိုးမြောင်ဘင်္ဂလီ ကုလားရွာတို့က ညှပ်ပိတ်ထားသောကြောင့် အခြေအနေမှာ တော်တော် ဆိုးရွားနေသည်။ တချို့တွင် ဒဏ်ရာများ ရလျက် သွေးရဲရဲဖြင့် အပြန် အလှန်ခုခံနေကြသည်။ အနီးကပ်ရင်ဆိုင်တိုက်ပွဲမဟုတ်သည့်တောင်မှ အဝေးမှ လေးဂွ၊ ဂျင်ကလိတို့ဖြင့် အပြန်အလှန် လှမ်းပစ်နေကြသည်။ တစ်ဖက်နှင့်



တစ်ဖက် အင်အားများသည် နည်းသည်က အဓိက မဟုတ်တောင်မှ အနီးကပ်တော့ မတိုက်ရဲကြချေ။

လူခါးတို့ရောက်ရှိချိန်တွင် ဇယသိဒ္ဓိဘုန်းတော်ကြီးကျောင်းကို မီးက ဝါးမျိုနေပြီ။ ကျောင်းတွင် ဆိုင်းဘုတ်လောက်သာ ကျန်နေခဲ့သည်။ ဒီ့ပြင် တခြားနာမည်မသိသော ဘုန်းတော်ကြီးကျောင်းများကိုလည်း မီးရှို့ထားခဲ့ကြပြီ။ ရန်သူ ဘင်္ဂလီကုလားတို့သည် ရခိုင်တို့ အားနည်းရာနေရာ၊ လုံခြုံရေးပေါ့လျော့သည်နေရာဟူသမျှကို မီးဝင်ရှို့သွားခြင်းဖြစ်သည်။ လူခါးတို့ရောက်ရှိသွားချိန်တွင် မီးက အရှိန်အဟုန် ပြင်းစွာဖြင့် လောင်ကျွမ်းနေပြီ။ အနီးအနားက လူများက ဝိုင်းပြီး ငြိမ်းသတ်နေကြသည်။ မီးက တခြားနေရာများကို ဆက်မကူးနိုင်ဖို့ တတ်နိုင်သလောက် ကြိုးစားနေကြသည်။

လူခါးတို့အုပ်စုချီတက်လာရာတွင် လူအင်အား(၃၀၀)ကျော်လောက်ပါလာသည်။ မင်းဂံရပ်ကွက် အကွက် (၁၂၊ ၁၃၊ ၁၄၊ ၁၅၊ ၁၆၊ ၁၇)တို့မှ လူများနှင့် ပူးပေါင်းလိုက်ကြသည်။ လူကိုလည်း သုံးစုခွဲလိုက်သည်။ ရပ်ကွက်၏ တောင်ပိုင်း၊ မြောက်ပိုင်းနှင့် အနောက်ဘက်အပိုင်းများကို နေရာယူလိုက်ကြသည်။ လူတို့သည် တဖြည်းဖြည်းဖြင့် စည်းစနစ်ကျလာသည်။ နေရာယူပုံသည် တစ်ဦးနှင့်တစ်ဦး နားလည်မှုရှိလာသည်။ လုံခြုံရေးတို့မှာလည်း ဘာလုပ်လို့ ဘာကိုင်ရမည်မှန်းမသိ။ မင်းဂံအကွက်(၁)မှသည် အကွက်(၁၇)ထိကို အရှည် (၁)မိုင် မပြည့်လျှင်လည်း သိပ်လိုမည်မဟုတ်လောက်ပေ။ ရပ်ကွက်က တော်တော်ကြီးသည်။ သည်ဘက်ထိပ်မှသည် ဟိုဘက်အဆုံးထိလမ်းလျှောက်ရလျှင် (၁)နာရီလောက်ကြာသည်။

လူခါးသည်လည်း ရွာ၏ မြောက်ဘက် ဒိုးမြောင်ဘင်္ဂလီကုလားရွာဘက်အခြမ်းသို့ ပါသွားသည်။ မင်းဂံရပ်ကွက်နှင့် ဒိုးမြောင်အစပ်ကြား (၂)ဧကလောက်ကျယ်မည့်ကွင်းပြင်တွင် အားလုံးထိုင်လိုက်ကြပြီး ရန်သူအခြေအနေကို စောင့်ကြည့်နေကြသည်။ ရန်သူ ဘင်္ဂလီရွာဘက်မှလည်း ညာသံပေးလျက် ဘင်္ဂလီဘာသာစကားဖြင့် လော်စပီကာမှ

စကားပြောနေသံများကိုလည်း ကြားရသည်။ သို့သော် လူခါးတို့ကား နားမလည်။ လူခါးတို့အုပ်စုကား ရှေ့ကိုလည်း မတိုးရဲပေ။ ကြားထဲတွင် မြောင်၊ ချောင်း၊ ချိုင့်များရှိသောကြောင့် အသက်အန္တရာယ်ကို စိုးရိမ်ရသည်။ သူတို့အခြေအနေက ရခိုင်များကို သူတို့ဆီသို့လာအောင် လှုံ့ဆော်မျှားခေါ်နေသည့်သဘောဖြစ်တန်သည်။ ဘင်္ဂလီအမျိုးသမီးများ ထွက်လာပြီး ညစ်ညမ်းစွာ ဆဲဆိုခြင်း၊ လုံချည်များကို လှန်ပြခြင်းများဖြင့် ရခိုင်တို့၏ ဒေါသစိတ်ကို ဆွပေးနေကြသည်။ သို့သော် သက်ကြီးပိုင်း ရခိုင်တို့ထဲမှ တစ်ယောက်က

"မထနဲ့ ဘာမှလုပ်စရာမလိုဘူး။ သူတို့လာမှ ငါတို့က ကာကွယ်ရမှာ"လို့ အားလုံးကို သတိပေးသည်။ အချိန်နည်းနည်းကြာလာသည်နှင့် ဒိုးမြောင်ဘင်္ဂလီကုလားရွာမှ မီးခိုးလုံးများထွက်လာသည်။ သူတို့က သူတို့အိမ်များကို မီးရှို့ပြီး ရခိုင်တွေကို ဆွဲခေါ်သည့်သဘောဖြစ်သည်။ သတိမမူမိသော ရခိုင်များ ချီတက်သွားလျှင် အသက်ပြန်ပါလာဖို့ကား မလွယ်ကူသည်မှာ အမှန်ပင်။

ထိုနည်းတူစွာပင် တောင်ဘက်တွင်ရှိသော ဥယျာဉ်သာ ဘင်္ဂလီကုလားရွာလည်း မီးခိုးလုံးများ ထွက်လာသည်။ မင်းဂံအကွက် (၁၁)(၁၂)လောက်နှင့် နီးစပ်သည်။ လက်သမားဘင်္ဂလီကုလားရွာမှလည်း မီးခိုးလုံးများ ထွက်ပေါ်လာတော့သည်။ တစ်ချိန်တည်း တစ်ပြိုင်တည်း ဆိုသလို ရခိုင်များကို လူစုခွဲပြီး ဆွဲခေါ်နေသည့် သဘောဖြစ်နေသည်။ ရခိုင်တို့ကား စည်းဝါးရိုက်သလို အားလုံး ကိုယ့်အသိဖြင့်ကိုယ် တစ်ယောက်မှ မလှုပ်ရှားဘဲ ရွာစပ်မှ ထိုင်စောင့်နေကြတော့သည်။

နေလုံးကြီးသည် တဖြည်းဖြည်းဖြင့် ခေါင်းထက်တည့်တည့်မှသည် အနောက်ဘက်ဂေါယာသို့ နည်းနည်းစောင်းလာ၏။ ရန်သူဘင်္ဂလီကုလားတို့သည်ကား လှုပ်ရှားဆဲ။ သူတို့က ရခိုင်များကို မျှားခေါ်သည့် စနစ်က မအောင်မြင်။ သို့သော်လည်း သူတို့သည် နည်းဗျူဟာ ပြောင်းလဲလာသည်။ ပထမဦးဆုံး မသိနားမလည်သေးသည့် အသက်အရွယ်အားဖြင့် (၅)နှစ်မှ သည် (၁၃)နှစ်ကြားလောက်တွင်ရှိမည့် ကလေးများကို ရှေ့ထား



ပြီး ချီတက်လာသည်။ ကလေးငယ်များနောက်တွင် အမျိုးသမီးများ၊ ပြီးမှ လူလတ်ပိုင်းအရွယ်များဖြင့် ဟန်ချက်ညီညီတက်လာကြသည်။ လူခါးအပါအဝင် အားလုံး ပါးစပ်ဟောင်းလောင်းကြီးဖြင့် အံ့ဩသင့်သွားကြသည်။ တချို့ဆိုရင်

"ဒီကောင်တွေ လူမဆန်ဘူးကွာ။ ကလေးတွေကို ရှေ့ကတင်ပြီး တိုက်ခိုင်းရတယ်လို့"

"မနက်ကလည်း ဒီအတိုင်းပဲ။ ငါတို့ရပ်ကွက်ကို မီးလာရှို့သွားတာ ကလေးတွေအများကြီးပါတယ်"ဟု ရေရွတ်လိုက်သည်။ ဒီတစ်ချိန်တွင် ထိပ်တိုက် တွေ့ကြလေပြီဟု လူခါးလည်း ထင်မှတ်လိုက်သည်။ သို့သော် တိုက်ခိုက်ရမည့်သူများမှာ ကလေးငယ်များဖြစ်နေသည်။ မြင်ကွင်းကား ရှင်းရှင်းလင်းလင်းဖြစ်လာသည်။ တဖြည်းဖြည်းနီးစပ်လာသည်။ ကလေးငယ်များ၏ လက်ထဲတွင် ဆီပုလင်းများ၊ မီးစာများ ကိုင်ဆောင်ထားသည်။ နောက်က အမျိုးသမီးတို့တွင် လှံချွန်များ၊ ဝါးချွန်များ၊ သစ်သားချွန်များကို ကိုင်ဆောင်ထားသည်။ နောက်က လူများတွင်ကား လေးဂွ၊ ဂျင်ကလိ၊ ဓားများကို ကိုယ်ဆောင်ထားသည်။ နေ၏ အလင်းရောင်ကြောင့် ဓားများပေါ်မှ အရောင်များသည် တလက်လက် ထွက်ပေါ်နေသည်။

လူခါးတို့ အုပ်စုလည်း လှုပ်လှုပ်ရှားရှားဖြစ်သွားသည်။ အားလုံးသော သူများကလည်း ကြက်သေ သေလျက်သားဖြစ်နေသည်။ အနီးအနားက

"လူက ဒီအတိုင်း တိုက်ရတော့မယ်နဲ့တူပါတယ်"

"ဒီအတိုင်းမတိုက်ရင် အကုန်လုံးသေကုန်မှာပေါ့"လို့ ဘေးနားက တစ်ယောက်က ဝင်ထောက်ပြောသည်။ ထိုအချိန်တွင် လုံခြုံရေးအင်အား (၂၀)လောက် ချီတက်လာပြီး

"ခင်ဗျားတို့ ကိုယ်နေရာကို ပြန်ကြ၊ မပြန်ဘူးဆိုရင် ကျနော်တို့ အထက်က ညွှန်ကြားတဲ့အတိုင်း လုပ်ရပါလိမ့်မယ်" ဆိုပြီး ရှေ့ဆုံးက ဒုရဲအုပ်က ခပ်ကြမ်းကြမ်းအော်ပြောသည်။ သေနတ်နှစ်ချက် သုံးချက်လောက် ဆက်တိုက် မိုးပေါ်ကို ထောင်ဖောက်လိုက်သည်။ အမှန်တကယ်

လုပ်မယ်ဆိုသည့် ပုံစံမျိုး။ ဘင်္ဂလီကုလားတို့လည်း သေနတ်များဖြင့် လုံခြုံရေးများကို မြင်သောအခါ နောက်ဆုတ်သွားလေသည်။ လူခါးတို့လည်း ရွာစပ်တွင် ထိုင်သူ ထိုင်၊ ထသူ ထ အနေအထားမှ အားလုံးထပြီး ပြန်လှည့် လုပ်ကြသည်။ သက်ကြီးပိုင်း တစ်ဦးက

"ကျုပ်တို့ ပြန်လို့ မဖြစ်ဘူးဗျာ။ ပြန်ရင် အကုန်လုံး မီးလောင်တိုက် အသွင်းခံရမယ်။ ဒီမှာ ဆရာတို့ ကျနော်တို့လည်း ဒီနားမှာ ကင်းစောင့်မယ်ဗျာ။ ဖြစ်နိုင်ရင် ခွင့်ပြုစေချင်တယ်"လို့ လုံခြုံရေးကို လှမ်းပြောလိုက်သည်။

"ခင်ဗျားတို့ စိတ်ချ လက်ချပဲ ပြန်ကြပါ။ ကျနော်တို့ စောင့်ကြည့်ပါမယ်"လို့ ဒုရဲအုပ်က ပြန်ပြောသည်။ သို့သော် စိတ်ချရသည့် အခြေအနေကား လုံးဝမဟုတ်ချေ။ လုံခြုံရေးတို့မှလည်း လူအုပ်ဖြင့် တစ်ခုခု ဖြစ်လာလျှင် ထိန်းရခက်မည့်ပုံစံဟု ခန့်မှန်းပုံရသည်။

လူခါးလည်း မနက်ပိုင်းကတည်းက တစ်ခုမှ မစားရသေး။ နေ့လယ်ကျော်လာပြီမို့ ဗိုက်က စတင်တိုက်ခိုက်လာပြီ။ ဘေးနားအိမ်ကို ဝင်ပြီး ရေတစ်ခွက် တောင်းသောက်လိုက်သည်။ ဒီက လူတွေလည်း စားရအိုးမည်မဟုတ်။ အားလုံးသူ အဆင်ပြေအောင် မင်းဂံရပ်ကွက် ဓမ္မာရုံတွင် ကျန်ခဲ့သော ဆရာသိန်းကို ဖုန်းဆက်လိုက်သည်။

"ဆရာသိန်း . . ဒီဖက်မှာ လူအားလုံး ၁၀၀၀ ဝန်းကျင်လောက်ရှိမယ်။ တစ်ယောက်မှ ထမင်းစားရပုံမပေါက်သေးဘူး။ ထမင်းရှိရင် လူခွဲပြီး ဒီဖက်ကို ပို့ပေးလိုက်ပါ"

"ထမင်းထုပ်တွေ တစ်ပုံကြီးရှိတယ်။ ခဏလေးစောင့်၊ ငါလူလွှတ်ပြီး ပို့ခိုင်းလိုက်မယ်။ မင်းတို့ အဲဒီဖက်မှာ အခြေအနေဘယ်လိုလဲ။ တခြားဘာတွေ လိုအပ်မလဲ။ လိုအပ်တာရှိရင် လှမ်းမှာ။ အခုမြို့ထဲက လူတွေနဲ့ အချိတ်အဆက် လုပ်ထားတယ်"

"လိုတာကတော့ မရှိပါဘူး။ လောလောဆယ် မွန်းလည်းလွဲနေပြီ။ ထမင်းပဲ ပို့ပေးလိုက်ပါ"လို့ ပြောပြီး ဖုန်းချလိုက်သည်။ ခဏလေးနေတော့ သုံးဘီးဆိုင်ကယ်ဖြင့် ထမင်းထုပ်များလာပို့သည်။ ထမင်း



ထုပ်များကို သုံးဘီးဆိုင်ကယ်ဖြင့် ပါလာသူက ဝေမျှလိုက်သည်။

လူခါးလည်း တစ်ထုပ်ယူပြီး ပလတ်စတစ်အိပ်ဖြင့် တစ်ခါတည်း စားသောက်လိုက်တော့သည်။ အသက်နဲ့ရင်းပြီးစားရသည့် ထမင်းမို့ ထင်သည် တော်တော်ကို မြိန်သည်။ မီးလုံးကြီးကို ကြည့်၍ စားရခြင်း ကြောင့်လည်း ဖြစ်နိုင်သည်။ ဘေးကလူများလည်း ပလတ်စတစ် အိတ်ကိုယ်စီဖြင့် ထမင်းတစ်ယောက် တစ်ထုပ်ကျစီ လယ်ကွင်းပြင် ဘက်တွင် စားသောက်လိုက်ကြလေတော့သည်။ ဘေးနားက အိမ်များတွင် တော့ အိမ်ရှင်ယောကျ်ားသားများသာရှိပြီး မိန်းမ၊ ကလေးနဲ့ သက်ကြီး ရွယ်အိုတွေတော့မရှိတော့ပေ။ အားလုံးဘေးကင်းရာကို ရွှေ့ပြောင်း သွားကြပြီ။ အိမ်တွေကတော့ အားလုံးတံခါးပိတ်လျက် ကြက်၊ ဝက်၊ ဆိတ်၊ ခွေးစသည့် အိမ်မွေးတိရစ္ဆာန်တို့ကား ဘေးမဲ့တောထဲကို ရောက်နေကြ သလိုပင်။

လူခါးတို့ အနီးအနားမှ ဘင်္ဂလီကုလားရွာ၌ကား မီးလုံးတို့သည် မိုးကောင်းကင်သို့ ချီတက်လျက် မိုးသားတိမ်တိုက်တို့ဖြင့် မိတ်ဖွဲ့နေလေသည်။ မသေချာသည့် သတင်းအရ ဘင်္ဂလီကုလားတို့သည် ရွာစပ် မြောင်တွင် ကင်းပုန်းဝပ်နေကြသည်။ ပြီးလျှင် ရွာဝင်ဝတွင် ချောက်များ၊ ကျင်းများတူးထားပြီး သစ်ရွက် ၊ သစ်ခက်များ အုပ်ထားသည်ဟု လူခါးတို့ လာစောင့်သည်ရပ်ကွက်မှ လူများက ပြောပြကြသည်။ ဒီအရေးအခင်း မဖြစ်ခင်ကတည်းက သူတို့ ကြိုတင် ပြင်ဆင်နေကြသည်ကို သူတို့ထဲမှ ကိုယ်တိုင်တွေ့ခဲ့သူများလည်း ရှိသည်ဟု ဆိုသည်။ ဖြစ်နိုင်လောက်သည်။ အကြောင်းမူကား ဒီအရေးအခင်းမဖြစ်ခင်ကာလထိ ဘင်္ဂလီကုလားတို့နှင့် ရခိုင်တို့မှာ အပြန်အလှန်သွားလာခြင်းများရှိကြသည်။ မိတ်ဆွေအဖြစ် ကြာရှည်စွာ အတူတကွနေထိုင်လာခဲ့ကြသည်။

ယခုတွင်ကား မည်သည့် ပယောဂမှန်းမသိဘဲ မိတ်ဆွေမှသည် အပြန်အလှန် တိုက်ခိုက်ကြတော့သည်။ ဘင်္ဂလီကုလားတို့သည် ရိုဟင်ဂျာဟူသည့် ဝေါဟာရအသစ်တစ်လုံးကို ထွင်လာကြသည်။ သူတို့ ခေါင်းဆောင်များက ရိုဟင်ဂျာသည် တိုင်းရင်းသားဖြစ်ရေးကို အတင်း

အဓမ္မအဆိုတင်သွင်းလာသည်။ ရိုဟင်ဂျာဖြစ်ရေးပင်လျှင် ရခိုင်တို့အပေါ်ကို တိုက်ခိုက်သည့် အခြေအခံ အကြောင်းအရင်းတစ်ခုဖြစ်နေသည်။ ရိုဟင်ဂျာဆိုသည့် စကားလုံးကို ရခိုင်လူထုအပါအဝင် မြန်မာပြည်သူတစ်ရပ်လုံးက လက်မခံကြချေ။ ရိုဟင်ဂျာဆိုသူများသည် နိုင်ငံသားအဆင့်ကို ကျော်လွန်ပြီး တိုင်းရင်းသားကို တောင်းဆိုလာကတည်း ရခိုင်လူထုတို့သည် အတွင်းဖက်ထိသွားရောက်လေ့လာသုံးသပ်ကြသည်။ အတိမ်အနက်ကို စစ်ဆေးကြည့်ကြသည်။ ရိုဟင်ဂျာဆိုသူများ၏ အကွက်ကျစီစဉ်မှုကို အကွက်ကျကျ မြင်လာကြသည်။

လူခါးတို့ မမွေးခင်တုန်းက ၁၉၄၇ ခုနှစ်လောက်ကလည်း မူဂျာဟစ်ဆိုပြီး နာမည်သစ်များဖြင့် ဒီလိုမျိုး ရခိုင်တို့အပေါ်တွင် သတ်ဖြတ်၊ မီးရှို့မှုများရှိခဲ့သည်ဟု ဦးလေးစံလှတို့က မကြာခဏ ပြောပြတတ်သည် မဟုတ်လား။ ယခုလည်း နာမည်သစ်၊ အသွင်သစ်တို့ဖြင့် ဘင်္ဂလီကုလားတို့၏ တိုင်းရင်းသားဖြစ်ရေး အုံကြွမှုကြောင့် ရခိုင်မြေပေါ်တွင် သွေးမြေကျရတော့မည့်ကိန်းဆိုက်နေတော့သည်။

ရခိုင်တစ်မျိုးသားလုံး၏ ခံယူချက်တွင် သူတို့သည် နယ်မြေကျူးကျော်သူများသာဖြစ်ပြီး မြန်မာနိုင်ငံအချုပ်အခြာအာဏာနှင့် မြန်မာနိုင်ငံသား ဒေသခံ ရခိုင်တို့အပေါ် စော်ကားလာခြင်းသတ်မှတ်ထားကြသည်။ တိုက်ပွဲကား တဖြည်းဖြည်း ပြင်းထန်လာ၏။ ရခိုင်ပြည်နယ်အနှံ့ ပျံ့နှံ့လာသည်။ တစ်မြို့ပြီး တစ်မြို့၊ တစ်နေရာပြီး တစ်နေရာသို့ အရှိန်အဟုန်ပြင်းစွာ ကူးစက်နေလေတော့သည်။ တောမီးလောင် တောကောင်လက်ခမောင်းခတ်ဆိုသလိုမျိုး။ ဆင်းရဲထဲထက် ငရဲနက်ဆိုသလိုမျိုးပင် ဆင်းရဲတွင်းနက်နေသော ဒီလူမျိုးတစ်စုအတွက် ဒီလောက် ဆိုးရွားသည့် အခြေအနေသည် ရင်နင့်စရာ ကောင်းလှသည်။ နောက် ဘာဆက်ဖြစ်လာမည်ကို မည်သူမှ ခန့်မှန်း၍ ပင်မရနိုင်ဖြစ်နေတော့သည်။

*×*×*

(၂၀)

အချိန်ကား မွန်းလွဲ (၃)နာရီ ခန့်။ မင်းဂံ အကွက် (၁၀)နှင့် (၁၁)အစပ်မှ မြောက်ဘက်ကပ်လျက်မှ မီးလုံးများ တက်လာသည်ကို မြင်ရသည်။ လူခါးတို့ရောက်နေသည့်နေရာ၏ နောက်ကျောဘက်တွင် ကျန်ခဲ့သည်။ လူခါးလည်း ဆိုင်ကယ်ကို ထုတ်ပြီး မီးလုံးမြင်ရာ မင်းဂံရပ်ကွက် အကွက် (၁၀)ဘက်သို့ လိုက်သွားသည်။ မင်းဂံအကွက် (၈)(၉)ရပ်ကွက်တို့ အပေါ်ပိုင်းတွင် ကျူးကျော်နယ်မြေ၌ ရခိုင်အိမ်များနှင့် ဘင်္ဂလီကုလားအိမ်များ ဆောက်ထားကြသည်။ ဒီအထဲမှ တချို့ဘင်္ဂလီကုလားတို့မှ သူတို့အိမ်များကို မီးရှို့ပြီး ထွက်ပြေးကြခြင်းဖြစ်သည်။ ထိုအထဲတွင် မေယုရတနာကျောင်းတိုက်ကို မီးက ကူးစက်နေပြီ။ ကျောင်း၏ နောက်ဘက်တွင်ရှိသော အဆောင်ငယ်များကို မီးလောင်ကျွမ်းနေလေပြီ။

လူတချို့မှ မီးငြိမ်းသတ်နေကြသည်။ တချို့ ကျူးကျော်မြေအတွင်း ဆောက်ထားသော အိမ်များဖက်သို့သွားပြီး ဝိုင်းကူကြသည်။ တချို့လူအုပ်က ရခိုင်ရွာဖက်မှ အကာအကွယ်ယူထားကြသည်။ လူခါးတို့

ကျုံးကျော်နယ်မြေရှိ ရခိုင်အိမ်များကို ရောက်သွားသောအခါ လက်လုပ်လက်စားများဖြစ်သည့် ဆိုက္ကားနင်းစားသူ၊ ပန်းရံနေ့စားအလုပ်သမားများ၊ ကူလီထမ်းစားသူများနေသည့်အရပ်မို့ အိမ်များက သိပ်သည်းနေသည်။ ဘင်္ဂလီကုလားများနေသည့် နေရာနှင့်ဆိုလျှင် လမ်းတစ်ခုသာခြားသည်။ တချို့ဆက်စပ်သည့် အပိုင်းတွင် မီးလောင်နေသော်လည်း မီးမလောင်သည့် အခြမ်းတွင် အပြန်အလှန် လေးဂွများနှင့် ပစ်ခတ်နေကြသည်။ နေအိမ်များမီးထဲကို ပါသွားသည့် မိသားစုများဆိုလျှင်

"ငါတို့ကတော့ ဘဝပျက်ပါပြီ။ အာ. . ဒီကောင်တွေကို သတ်မယ်"ဆိုပြီး အတင်းပြေးထွက်သွားသူများကို ဖမ်းချုပ်သူက ဖမ်းချုပ်တားဆီးထားရသည်။ ဖြစ်စဉ်အရဆိုလျှင် ရခိုင်အိမ်နှင့် ကပ်လျက်ရှိသော ဘင်္ဂလီကုလားအိမ်မှ သူ့အိမ်ကို မီးရှို့ထွက်ပြေးသွားသည်။ ဒီဖက်ကလည်း ဘင်္ဂလီကုလားအိမ်တွေမို့ သွားပြီး မီးမငြိမ်းသတ်ရဲကြ။ မီးကား လေ၏အရှိန်အဟုန်ကိုယူကာ ရခိုင်အိမ်များကို တစ်အိမ်ပြီး တစ်အိမ် ကူးစက်လာသည်။ ထို့ပြင် ဘင်္ဂလီကုလားတို့မှ လေးဂွတို့ဖြင့် လှမ်းပစ်သည့်အတွက် လူများသည် မီးကို မငြိမ်းသတ်နိုင်ရုံမက ထွက်ပါပြေးနေရသည်။

ဒီကြားထဲ ရပ်ကွက်တွင်း မခံမရပ်နိုင်သော လူငယ် (၂၀)လောက်မှ တုတ်၊ ဓား၊ လက်နက်အပြည့်အပြင် ဓာတ်ဆီပုလင်းများကို ကိုင်ပြီး ဘင်္ဂလီကုလားရွာကို တားဆီးသည့်ကြားမှ ဝင်ရောက်သွားသည်။ ခဏနေလျှင် တစ်အိမ်ပြီးတစ်အိမ် မီးရှို့လေသည်။ မီးလောင်ပြင်ကား တဖြည်းဖြည်းပိုများလာသည်။ မီးလောင်ရာအနီးတွင် လူခါးတို့ကားမနေနိုင်။ မီးအရှိန်အဟုန်ကြောင့် အပူလွန်ကဲသည့်အတွက် အဝေးသို့ ဆုတ်ခွါရသည်။ ခဏနေလျှင် ဝင်သွားသော လူငယ် (၂၀)လောက်မှ ဒဏ်ရာများရပြီး ပြန်ထွက်လာကြသည်။ တချို့က ခေါင်းကွဲ၊ ခြေထောက်တွင် သွေးထွက်လက်၊ လက်မောင်းများတွင် သွေးစီးကျလျက် ထွက်လာကြသည်။ သူတို့ကို လူခါးတို့ ဝိုင်းကူပြီး ဆေးရုံပို့ဖို့လုပ်ကြသည်။ ဒီအချိန်တွင်

"ဦးထွန်းဝင်း ကျန်ခဲ့ပြီ"ဆိုပြီး တစ်ယောက်က ပြောသည်။

"ပြန်စစ်ကြည့်ကြ၊ လူကို ပြန်စစ်"လို့ တစ်ယောက်က အော်ပြော



သည်။ သို့သော် ဦးထွန်းဝင်းဆိုသည့် လူကတော့ မိုက်ရူးရဲမှုကြောင့် ပေးဆပ်လိုက်ရသည့် ရခိုင်တို့၏ အသက်တစ်ချောင်းဖြစ်သည်။ လူအုပ်ဖြင့်ဘင်္ဂလီကုလားရွာထဲကို ဝင်ပြီး ကျန်ခဲ့သူကို သွားရှာကြဖို့ လုပ်နေစဉ်တွင်

"အစ်ကိုတို့ မဝင်ကြနဲ့။ ဒီကောင်တွေ အကုန်လုံး ထွက်ပြေးကုန်ကြပြီ"ဆိုပြီး ခုနက ဘင်္ဂလီကုလားရွာထဲကို အတင်းဝင်သည် တစ်ယောက်မှ ပြောသည်။

"တောက်. . ဒါဆို ရှိတာ အကုန်လုံးမီးရှို့ကွာ"ဆိုပြီး မကျေနပ်သံများ၊ တက်ခေါက်သံများ၊ အံကြိတ်သံများကား ပတ်ဝန်းကျင်တစ်ခုလုံး ဆူညံနေတော့သည်။ သူတစ်လူ ငါတစ်မင်းဖြင့် ထိန်းရခက်နေသည်။ သူ့အမြင် ကိုယ့်အမြင်များကိုလည်း တစ်ယောက်တစ်မျိုး မရိုးရအောင် ပြောနေကြသည်။

"သေသွားတဲ့ ကောင်လေးက မုဆိုးမသား။ သူ့အမေကို ပန်းရံလုပ်ပြီးတော့ ကျွေးမွေးနေတာ။ သူ့အမေတော့ ဒုက္ခရောက်ပါပြီ" ဆိုပြီး သူနှင့် ရင်းနှီးသည်ထင်ရသော လူကြီးတစ်ဦးမှ ညည်းတွားသွားသည်။ သို့သော်ကား ကျုံးကျော် ဘင်္ဂလီကုလားရွာအတွင်းသို့ ထိုလူငယ်များ ရဲရင့်စွာ အတင်းဝင်ရောက် တိုက်ခိုက်မှုကြောင့် ကုလားဆိုးများ၏အိမ်တော်တော်များများ မီးထဲကိုပါသွားလေတော့သည်။ ရွာ၏ နောက်ဘက်တွင်ရှိသော ဒိုးမြောင် ဘင်္ဂလီကုလားရွာသို့ ဆုတ်ခွါနေကြသည်ကိုကား ကောင်းကောင်းမြင်နေရသည်။ အမှန်အတိုင်းဆိုလျှင် ဤမြင်ကွင်းမျိုးသည် ရင်နင့်စရာ ဖြစ်ပါလိမ့်မည်။ သို့သော် ကမ္ဘာမီးလောင် သားကောင်ချနင်းဆိုသည့်အတိုင်း ယခုကား ကရုဏာထက် ဒေါသက ပိုဖြစ်နေရသည်။

"ကျနော်တို့ အတင်းဝင်သွားတော့ ဒီကောင်တွေက သတ္တိမရှိဘူး၊ ထွက်ပြေးကြတယ်။ အဝေးကပဲ လေးဂွတွေနဲ့လှမ်းပစ်တယ်။ မီးကအရှိန်အဟုန်ပြင်းလာတော့ ကျနော်တို့လည်း နောက်ဆုတ်တဲ့အချိန် ဒီကောင်က လဲကျကျန်ခဲ့တယ်။ သူ့ကို ပြန်ကြည့်တဲ့အချိန်မှာ ကုလား

(၆)ကောင်လောက်က ဒီအကောင်ကို ဖမ်းချုပ်ပြီး ရိုက်သတ်တာကိုပဲ မြင်ခဲ့ရတယ်။ ကျနော်တို့လည်း အသက်လု ပြေးလာရတော့ သူ့ကို မကယ်နိုင်ခဲ့ဘူး”ဆိုပြီးတော့ လူငယ်တစ်ဦးမှ ပြောပြသည်။ ဘေးနားတွင် ငိုသူများ ခံပြင်းသူများဖြင့် လောကငရဲထဲတွင် အရှင်လတ်လတ် ကျခံနေရသလိုဖြစ်နေသည်။ လူခါးလည်း စိတ်တွေ ရှုပ်ထွေးလာသည်။ ဖြစ်နိုင်လျှင် ထိုနေရာမှ ထွက်ပြေးချင်စိတ်ပင် ပေါက်လာသည်။ စိတ်အစဉ်တို့သည်ကား ဝေခွဲမရ။ ဘယ်သူမှားသည် ဘယ်သူမှန်သည်ကို ဝေဖန်ပိုင်းခြားဖို့အချိန်ပင်မရ။

ဒဏ်ရာရလာသူများကိုကား ဆေးရုံကို ပို့ဖို့ လုပ်နေကြသည်။ တချို့ကား ရွာဘေး ကွင်းပြင်ကြီးထဲတွင် ရပ်နေသူ၊ ထိုင်နေသူ၊ လဲနေသူတို့ဖြင့်။ အနောက်ဘက်တွင် ဘင်္ဂလီကုလားတို့သည် ပြောင်းရွှေ့မှုကား တဖြည်းဖြည်း လူကျဲလာသည်။ မီးကား တိုးချဲ့ကျူးကျော်မြေတွင် တည်ဆောက်ထားသည့် ဘင်္ဂလီကုလားရွာနှင့် ရခိုင်ရွာတို့ဘက် တချို့တစ်ဝက်ကို ဝါးမျိုသွားလေပြီ။ ရခိုင်ရပ်ကွက်ဖက်တွင်ကား မီးငြိမ်းသတ်သူများ၊ အိမ်များကို မီးမကူးစေရေးအတွက် ဖြိုဖျက်သူများဖြင့် အလုပ်ရှုပ်နေသည်။

မင်းဂံရပ်ကွက်ထဲ မေယုရတနာဘုန်းတော်ကြီးကျောင်းနှင့် မဂ္ဂင်ဘုန်းတော်ကြီးကျောင်းနား ကွင်းပြင်ထဲတွင် လူများ စုဝေးနေကြသည်။ ဝိုင်းအုံပြီးကြည့်နေကြသည်။ လူခါးလည်း ထိုဖက်သို့ ကူးပြောင်းလိုက်သည်။ လူတောထဲသို့ တိုးဝှေ့ပြီးကြည့်လိုက်သည်။ လူတစ်ဦး ပြင်းထန်စွာဒဏ်ရာရထားသည်။ အသက်အားဖြင့် (၅၀)ပတ်ဝန်းကျင်လောက်ရှိသည်။ လူကား သတိတောင်မရ။ ဘေးက အသက် (၁၃)နှစ်လောက်ရှိမည့်ကောင်လေးတစ်ယောက်က ငိုနေသည်။

“အဖေ ကျနော့်ကြောင့် ဒီလို ဖြစ်ရတာပါ၊ အဖေ့ကို ကယ်ကြပါအုံး၊ ကျနော့်အဖေကို ကယ်ကြပါအုံး”ဆိုပြီး အော်ငိုနေသည်။ ဘေးနားတွင် ဝိုင်းဖွဲ့ကြည့်နေသူများမှလည်း အားလုံး စိတ်မကောင်းသည့် မျက်နှာများဖြင့်။ တချို့ဆိုလျှင် မျက်ရည်များ ဝဲလျက်၊ တချို့လည်း ငိုသူငိုပြီ။



သို့သော် ဒဏ်ရာရထားသူကား သွေးအိုင်ထဲတွင် လှုပ်ပင် မလှုပ်တော့ချေ။ ထိုအချိန်တွင်

“သုံးဘီး ဆိုင်ကယ်ရောက်လာပြီး သူ့ကို ဆေးရုံကို ပို့ရအောင်၊ ဒီအတိုင်းထားရင် သူ့အတွက် စိုးရိမ်ရတယ်။ ဒဏ်ရာက ပြင်းတယ်”ဆိုပြီး တစ်ယောက်က လှမ်းပြောသည်။ လူခါးလည်း အကဲခတ်ကြည့်လိုက်သည်။ ဟုတ်ပါသည်။ လူက သတိပင်မရ။ ကျောကုန်းတွင် ဓားဒဏ်ရာက တော်တော်နက်သည် ထင်ရသည်။ ဟက်တက်ကွဲနေသည်။ ဘေးနားက လူကို လူခါးလည်း မေးကြည့်လိုက်သည်။ သူက

“အခုနားက ဘင်္ဂလီကုလားတွေက မင်းဂံရပ်ကွက်ထဲကို ဝင်ဖို့လုပ်တယ်။ လူအုပ်ကများတယ်။ အဲဒါကို ဒီက ရှိတဲ့လူတွေနဲ့ ဝင်တားတာ။ အဲဒီမှာ ရင်ဆိုင်ဖြစ်ကြတယ်။ ရင်ဆိုင်ဖြစ်တော့ ကုလားတွေက ထွက်ပြေးတယ်။ ဒီက ရှေ့ကို တိုးလိုက်တဲ့အချိန်မှာ ချုံတောထဲ ကင်းပုန်းချထားတဲ့ ကုလားတွေက အလစ်ဝင်တိုက်တာ။ သူ့သား အခုအနားက ကောင်လေးက နယ်ကျော်သွားတော့ သူ့အဖေက သားကို လိုက်ကာကွယ်တာပါ။ အခုလိုဖြစ်သွားတာပဲ။ သူက ဒီအနားအိမ်ကပါ။ သူ့နာမည် ဦးကျော်ထွန်းသာပါ”ဆိုပြီး ပြောပြသည်။ တခြား ဒဏ်ရာ မပြင်းထန်သော်လည်း ပေါက်ပြဲဒဏ်ရာရသူများအနည်းငယ်ရှိသည်။

“ကျနော်တို့တတွေ ဒီအတိုင်း ငြိမ်ခံနေကြတော့မလား။ ကျနော်တို့ တစ်ခုခု ပြန်လုပ်ရတော့မယ်။ သူတို့ လာတိုက်တယ်။ ကျနော်တို့ ခံရတယ်။ အခုဆိုရင် ကျနော်တို့ဘဝမှာ မီးလောင်ပြင်ထဲကိုရောက်နေပြီ။ အားကောင်းမောင်းသန်တဲ့သူတွေ ထွက်ပါ။ ကျနော်တို့ အခု ပြတ်အောင် တစ်ခုခု မလုပ်တော့ရင် ညဆိုရင် ဒီထက် အခြေအနေ ဆိုးဝါးလာပါလိမ့်မယ်”ဆိုပြီး အော်ပြောသည်။ အားလုံးလည်း ဆိတ်ငြိမ်နေကြသည်။ ဆိတ်ဆိတ်နေခြင်းသည် ဝန်ခံခြင်းမဟုတ်လား။ အားလုံး ခေါင်းညိတ်လျက်သား ဖြစ်သွားသည်။

“ဒါပေမယ့် ဒီကောင်တွေက ဉာဏ်များတယ်။ ကြိုတင် ပြင်ဆင်ထားတဲ့ ထောင်ချောက်တွေရှိမယ်ထင်တယ်”

“ဒါတော့ ဟုတ်တယ်”ဆိုပြီး တစ်ယောက်တစ်ပေါက် သူ့အမြင် ကိုယ့်အမြင်ကို ပြောကြသည်။ ဒီအချိန်တွင်

“ဘာပဲဖြစ်ဖြစ် ကျနော်တို့ကတော့ ဝင်တိုက်မှ ဖြစ်တော့မယ်”ဆိုပြီး တစ်ယောက်က ပြောလိုက်သည်။

“ဒါဆိုရင် လက်နက်မပါဘဲ တစ်ယောက်မှ မလိုက်နဲ့၊ ရှေ့ဆုံးက လေးဂွသမားတွေ နေရာယူပါ။ နောက်က လှံသမားတွေ နေရာယူပါ။ အဲဒီနောက်မှာ ဓားသမားတွေနဲ့ တုတ်သမားတွေ အဆင်သင့်လုပ်ပါ” ဆိုပြီး ပြောပြလိုက်သည်။ လူအင်အား စုစုပေါင်း (၂၀၀)လောက်ရှိသည်။ အားလုံးအသင့်၊ သေဖို့အတွက် ဆုံးဖြတ်ပြီးသားလိုဖြစ်နေသည်။ ဟုတ်လည်း ဟုတ်ပေသည်။ ဒီညနေ ဒီကိစ္စကို မဖြတ်ရင် ညဥ့်အချိန်တွင် အားလုံး အသက်ဇီဝိန်ခြွေခံရနိုင်ပြီး ရပ်ကွက်တစ်ခုလုံးလည်း မီးလောင်ပြင် ဖြစ်သွားနိုင်သည်။

လူအုပ်သည် စတင်ချီတက်သည်။ ထိုအချိန်တွင် အနီးစပ်ဆုံး ဖြစ်သည့် ဒိုးမြောင်ဘင်္ဂလီကုလားရွာမှ တစ်ရွာလုံးထွက်ပြေးကြသည်။ ဒိုးမြောင်ဘင်္ဂလီကုလားရွာတွင် ရွာစဉ်သုံးခုရှိသည်။ ရခိုင်ရွာနှင့် အနီးစပ်ဆုံးရွာမှ အမျိုးသမီးများ၊ ကလေးငယ်များ ထွက်ပြေးကြသည်။ သို့သော် ထွက်ပြေးသည့်ထဲတွင် ယောကျ်ားများ မပါဝင်သည်ကို သတိထားမိသည်။ ရွာနားစပ်နှင့် နီးလာလေလေ လူတို့သည် အသံပိုမို တိတ်ဆိတ်လာသည်။ လူတိုင်းသည် သတိဝီရိယ ပိုရှိလာသည်။ ရှေ့ကို အမြန်နှုန်းမှသည် နှေးကွေးလာ၏။ ထိုအစဉ် ရွာအစပ်တွင် ချုံမြောင်ကလေးတစ်ခုမှ ကင်းပုန်းဝပ်နေကြသော ဘင်္ဂလီကုလားများသည် ရခိုင်တွေ လူအုပ်များသည်ကို မြင်၍ ထွက်ပြေးကြသည်။ ရခိုင်တို့က ရွာထဲသို့ အတင်းဝင်သွားသည်။ ဘင်္ဂလီကုလားတို့ကား သူတို့ပိုင် အိမ်များကို တစ်အိမ်ပြီးတစ်အိမ် မီးရှို့ပြီး ထွက်ပြေးကြသည်။ ရခိုင်တို့ တက်လာသည့် လမ်းကြောင်းကို ပိတ်လိုက်သည့် သဘောဖြစ်သည်။ ရခိုင်တို့သည် တိုက်ခိုက်စရာမလိုဘဲ ဟန်ပြရုံပဲရှိသေးသည် ဘင်္ဂလီကုလားရွာတစ်ခြမ်းကား မီးစာဖြစ်သွားသည်။



ရခိုင်တို့အခြေအနေကား သေမထူး နေမထူးသည့် အခြေအနေကို ရောက်သွားသည်။ ခံစစ်မှသည် တန်ပြန်တိုက်စစ်ဖြစ်လာသည်။ စစ်နည်းစစ်ဟန်ကျလာသည်။ စည်းစနစ်မကျသည့်တောင်မှ ကာကွယ်စစ်တွင် နှလုံးသားနှင့် ဦးနှောက်သည် တစ်ထပ်တည်းဖြစ်နေတော့သည်။ ရန်သူတို့ကား နောက်က မြှောက်ပေး၍သာ လုပ်နေရသည့်ပုံစံမျိုး။ ရင်ဆိုင်တော့ မခံရဲ။ ရခိုင်တို့ကို တို့ကနဲ့ ဆစ်ကနဲ့ စကြည့်သည်။ မရမှန်းကိုသိလျှင် ပြေးသည်။ ရခိုင်နှင့် ဘင်္ဂလီကုလားတို့သည် နှစ်ပေါင်းများစွာ အတူတကွ နေထိုင်လာခဲ့ကြသောကြောင့် တစ်ယောက်စိတ်ကို တစ်ယောက်သိသည်။ ဘင်္ဂလီကုလားတို့တွင် မော်လဝီသည် ဆရာလည်းဖြစ်သည် ခေါင်းဆောင်လည်းဖြစ်သည်။ မော်လဝီ၏ စကားကို သူတို့ သဝေမတိမ်း နားထောင်ကြသည်။ သို့သော်ကား သတ္တိနှင့် ခံစားချက်စိတ်ခံစားမှုတွင် ရခိုင်တို့နှင့် ကွာသည်။ ဘင်္ဂလီကုလားတို့ကား ဒီမြေကို သူ့မြေဟု မသမာသူတစ်စု လုပ်ဇာတ်နောက်လိုက်ပြီး မြေရှင်၊ ယာရှင် ဖြစ်လိုသူ။ ရခိုင်တို့ကား မြေပိုင်၊ ယာပိုင်ကို ကာကွယ်သူ။ မြေလုသူနှင့် မြေရှင်ကြား ပဒေသရာဇ်စနစ်မဟုတ်သည့်တောင်မှ ယခုစစ်ပွဲသည်ကား မြေရှင်ပဒေသရာဇ်စနစ်ခေတ်နှင့် တူလေတော့သည်။ ခဏနေလျှင် လုံခြုံရေးရဲတို့ ရောက်လာပြီး အခြေအနေကို ထိန်းသိမ်းလိုက်သည်။ ဒုရဲအုပ်တစ်ဦးက

“ခင်ဗျားတို့. . . ပြန်ကြတော့၊ ဒီထက် တိုးလာရင် ကျနော်တို့ ပစ်ရလိမ့်မယ်။ ခင်ဗျားတို့ စိုးရိမ်စရာမလိုဘူး။ အေးအေးဆေးဆေး ကိုယ့်နေရာကို ကိုယ်ပြန်ကြပါ”ဆိုပြီး ပြောသည်။ ထိုအချိန်မှ ရခိုင်တို့လည်း ပြန်ဆုတ်လာကြသည်။ ဘင်္ဂလီကုလားတို့သည်လည်း အဝေးမှ လှမ်းကြည့်နေကြသည်။ တချို့ကား မင်းဂံရွာစပ်မှ စောင့်ကြည့်၍ ကျန်ခဲ့သည်။ လူခါးကား မင်းဂံရပ်ကွက် ဓမ္မာရုံဘက်ကို ထွက်လာခဲ့သည်။ အချိန်ကား ညနေ (၄)နာရီ ဝန်းကျင်လောက်ရှိနေပြီ။

*×*×*

## (၂၁)

"မင်း သိပြီလား"

"ဘာကိုလဲ ဆရာသိန်း"

"မြို့ထဲမှာ အနောက်စံပြရပ်ကွက်နဲ့ တရားသိစုရပ်ကွက်၊ ရွှေပြားရပ်ကွက်၊ မြို့သူကြီးရပ်ကွက်ထဲက ပိုက်သည်ရွာမှာလည်း ဒီအတိုင်းပဲ မီးလောင်နေပြီ"

"သူတို့က သူတို့အိမ်တွေကို မီးရှို့ပြီး ထွက်ပြေးကြတယ်။ တရားသိစုရပ်ကွက်က ကောင်တွေက မီးရှို့ပြီးတော့ ပင်လယ်ကို စက်လှေတွေနဲ့ ထွက်ပြေးတယ်လို့ အခုပဲ ကိုကြီးသိန်းတို့က ဖုန်းဆက်လာတယ်။ မီးက တရားသိစုကနေ အောက်ဘက် ပိုက်သည်ရွာကိုလည်း ကူးစက်ပြီး လောင်ကျွမ်းသလို အပေါ်ဘက် ရွှေပြားရပ်ကွက်တွေကိုလည်း ကူးစက်လောင်ကျွမ်းခဲ့တယ်။ မြစ်နားတစ်လျှောက် လောင်ကျွမ်းသွားတယ်လို့ ပြောသွားတယ်"လို့ ပြောသည်။

အမှန်ဆိုလျှင် တရားသိစုရပ်ကွက် ဆိုသည်မှာ စစ်တွေမြို့ထဲမှာ ရှိပြီး မြို့ထဲ ဘီးလူးမတံတားကျော်လျှင် (၉၉)ပေါက် ဘုန်းတော်ကြီးကျောင်း (မဟာကုသလဘုန်းတော်ကြီးကျောင်း)နှင့် နီးကပ်သည်။ ဘီးလူးမတံတား အနီးမှ အရှေ့ဘက် ကိုက်(၇၀)လောက်ဆိုလျှင် မြို့သူကြီးရပ်ကွက်ထဲမှ



ပိုက်သည်ရွာ၊ ပိုက်သည်ရွာပြီးလျှင် တရားသိစုရပ်ကွက်၊ ရွှေပြားရပ်ကွက်တို့သည် ဂစ္ဆနဒီမြစ်ကမ်းတစ်လျှောက် ရခိုင်အိမ်များနှင့် ရောနှောနေသည်။ မင်းဂံရပ်ကွက်မှ အရှေ့မြောက်ထောင့်ဘက်ကို ကြည့်လိုက်လျှင် မီးခိုးလုံးများကို မြင်ရပြီး အရှေ့တောင်ထောင့်ဘက်ကို ကြည့်လျှင်လည်း မီးခိုးလုံးများကို မြင်နေရသည်။ အနောက်စံပြကျေးရွာမှာ ပင်လယ်ကမ်းစပ်နားတွင်ရှိပြီး စစ်တွေဟိုတယ်နှင့် ကပ်လျှက်ရှိသည်။

"သူတို့ ပြေးနိုင်တာ ပင်လယ်ထွက်ပေါက်ဘက်ပဲ ရှိတယ်။ သူတို့က ရေကို ရခိုင်တိုင်းရင်းသားတွေထက် ကျွမ်းကျင်မှုရှိတယ်။ ပင်လယ်ဝကို စီးဆင်းတဲ့ ချောင်းတွေ၊ မြစ်တွေက တစ်ဆင့်သူတို့ ထွက်ပြေးဖို့ ကြံပုံရတယ်။ စစ်တွေမြို့ ဆိုတာကလည်း ရေပတ်လည်ဝိုင်းနေတဲ့ ကျွန်းစုသဘောဖြစ်နေတယ်။ ဘုမေဘက်ကနေဆိုရင် တောက်လျှောက် ဘင်္ဂါလီကုလားရွာတွေချည်းပဲ ဖြစ်တဲ့အပြင် ပင်လယ်ဝနဲ့ နီးတဲ့အတွက် သူတို့ဝင်ထွက်ဖို့ ပိုလွယ်တယ်။ တကယ်တမ်း တွေးကြည့်မယ်ဆိုရင် စစ်တွေမြို့ထဲက ဘင်္ဂါလီတွေက ပြေးဖို့ မလွယ်ဘူး။ မြို့ပြင်က ဘင်္ဂါလီတွေကတော့ ပြေးလို့ ရတယ်။ ဒါပေမဲ့ မြို့တွင်းနဲ့ နီးတဲ့ ဘင်္ဂါလီအုပ်စုတွေကို ငဲ့ပြီး မြို့ပြင်က ဘင်္ဂါလီတွေက ထကြွနေတဲ့ သဘောရှိတယ်။ အခုချိန်မှာ သူတို့ ဆုပ်လည်းစူး၊ စားလည်း ရူးဖြစ်နေပြီ။ သူတို့ အဲလိုဖြစ်တာနဲ့ပဲ ရခိုင်တွေ ပျက်စီးရာ၊ ပျက်စီးကြောင်း ကြံနေတယ်လို့ ထင်တယ်" ဟု အနားက လူတစ်ဦးမှ မှတ်ချက်စကား ပြောသည်။

ဘင်္ဂလီကုလားတို့သည် သူတို့၏ မြေလှန်စနစ်ဖြင့် သူတို့အိမ်များကို မီးရှို့ထွက်ပြေးကြသည်။ မီးရှို့ပြေးသည့်သဘောမှာ သူတို့လုပ်ကိုင်ရရှိသမျှ ပစ္စည်းများကို တခြားလူများကို မပေးလိုသည့်သဘောနှင့် ရခိုင်များ တက်မလာနိုင်အောင် ကြိုတင်ကာကွယ်ခြင်းလည်း ဖြစ်သည်။ မီးရှို့မည်ဆိုလျှင် ရှို့တန်သည်။ ဘင်္ဂလီကုလားများ၏ ပိုင်ဆိုင်မှုအိမ်များမှာ ရခိုင်တို့ပိုင်ဆိုင်သည့် နွားတင်းကုတ်သာသာရှိသည်။ ရခိုင်အိမ်များကြားရှိ တန်ဖိုးနည်းသော သူတို့အိမ်များကို မီးရှို့ခြင်းဖြင့် တန်ဖိုးကြီးသော ရခိုင်အိမ်များ လောင်ကျွမ်းရန် ဖြစ်သည်။

စစ်တွေမြို့လယ်ပိုင်းတွင် အောင်မင်္ဂလာရပ်ကွက်(အင်ပါလာ)၊ စက်ရုံစုရပ်ကွက်(နာဇီရွာ)တို့သည် ဘင်္ဂါလီကုလားရွာများဖြစ်ပြီး မြို့ထဲကစ္ဆနဒီမြစ်ကမ်း တစ်လျှောက်တွင် ပိုက်သည်ရွာ၊ တရားသိစု၊ ရွှေပြားစသည်တို့သည် ဘင်္ဂါလီကုလားရွာများဖြစ်သည်။

နေလုံးကြီးသည် တဖြည်းဖြည်းဖြင့် အားငယ်စပြုလာပြီ။ အနောက်ဘက် ဘင်္ဂလားပင်လယ်အော်ထဲသို့ ငုတ်လျှိုးစပြုလာပြီ။ နေလုံး၏အလင်းရောင်ကို အန်တုလျက် စစ်တွေမြို့ပေါ်တွင် မီးလုံးကြီးများသည် ဟိုအနားတစ်စ သည်အနားတစ်စ တောက်လောင်နေတော့သည်။ ညနေစာအတွက် မြို့ထဲမှ ထမင်းထုပ်များရောက်လာသည်။ ထိုနည်းတူစွာ ကောင်းဇံ၏ စီမံခန့်ခွဲမှုကြောင့် ဟင်းအချို့ ထမင်းအချို့ကိုလည်း ခမ္မာရုံတွင် ချက်ပြုတ်ပြီးနေလေပြီ။

မနေ့ညဦးကတည်းက အိမ်က ထွက်လာခဲ့သော လူခါးအတွက် အိမ်သားများမှာ စိတ်ပူနေမည်ကား အမှန်ပင်။ လူကလည်း ပင်ပန်းနေပြီ။ အိမ်ပြန် ရေချိုးကာ ခဏလေးဖြစ်ဖြစ် အိပ်စက်ချင်နေမိသည်ကား အမှန်ပင်။ အနီးအနားက ပတ်ဝန်းကျင်တွင် ကင်းစောင့်နိုင်ဖို့အတွက် စီမံခန့်ခွဲနေကြသည်။ ညဦးအချိန်မှာ မင်းဂံရပ်ကွက်တစ်လျှောက် မီးစက်များဖြင့် မီးတောက်လျှောက် ထွန်းထားနိုင်ရန် မီးကြိုးရှည်များကို သွယ်တန်းနေကြသည်။ လက်နှိပ်ဓာတ်မီးများကိုလည်း အုပ်စုလိုက် ဝေငှနေသည်။ ဆေးလိပ်၊ ကွမ်းများကို လင်ပန်းများဖြင့် အမျိုးသမီးများမှ ဝေငှပေးနေသည်။ လူခါးလည်း ဆရာသိန်း၊ ကောင်းဇံ၊ ဇော်ထွန်း အပါအဝင် ခုမှ မိတ်ဆွေသစ်များဖြစ်လာကြသူများကို နှုတ်ဆက်ပြီး အိမ်ဘက်ကို ထွက်ခွါလာခဲ့သည်။ ဝေသာလီဘောလုံးကွင်းအပေါ်ဖက်မှ မေယုကားလမ်းမကြီးကိုရောက်သောအခါ အနောက်ဘက်ကို မျှော်ကြည့်လိုက်သော် မီးလုံး၊ မီးတောက်ကြီးများ၊ အရှေ့ဘက်ကို ရှေးရှုလိုက်သော်လည်း မီးလုံး၊ မီးတောက်ကြီးများဖြင့် ဘယ်လိုမှ မျက်စိတန်ဆာ မဖြစ်သော ညနေခင်းဖြင့် အိမ်ပြန်လာခဲ့တော့သည်။

လူခါးအိမ်ပြန်လာချိန်တွင်ကား ပြစ်မှုဆိုင်ရာကျင့်ထုံး ဥပဒေပုဒ်မ



၁၄၄၊ ပြစ်မှုဆိုင်ရာ အထွေထွေအမှုအမှတ် ၁/၂၀၁၂ အရ ညနေ (၆)နာရီမှ နံနက် (၆)နာရီထိ ညမထွက်ရ အမိန့်ကို မြို့နယ်အုပ်ချုပ်ရေးမှူးက ထုတ်ပြန်လိုက်သည်။ လော်စပီကာများဖြင့် မြို့ကိုပတ်လျက်အော်နေပြီ။ လမ်းမများပေါ်တွင် လူများ နားစွင့်လျက်ရှိသည်။ အချိန်ကိုကြည့်လိုက် သောအခါ ည(၅)နာရီခွဲကျော်ရှိနေလေပြီ။ လမ်းမများပေါ်တွင်လည်း သွားလာသူများ နည်းပါးလျက်ရှိသည်။ လုံခြုံရေးများကား ခြေချင်း လိမ်နေသည်။ မြို့ထဲသို့ ဝင်ပေါက် ထွက်ပေါက်များနှင့် ကင်းတဲကလေး များတွင်ကား ကင်းစောင့်သူများဖြင့် နေရာအသီးသီး ယူထားကြသည်။ တချို့ ကင်းတဲများကိုကား လုံခြုံရေးများမှ မောင်းထုတ်နေသည်။

"ခင်ဗျားတို့ စောင့်စရာမလို၊ ကျနော်တို့ ရှိတယ်" ဆိုတဲ့ ပုံစံမျိုးဖြစ်နေသည်။

အိမ်ပြန်ရောက်သည်နှင့် ရေမိုးချိုး ထမင်းစားပြီး ရေဒီယိုကို ဖွင့်လိုက်သည်။

၁၀. ၆. ၂၀၁၂ ရက် တနင်္ဂနွေနေ့တွင် စစ်တွေမြို့ပေါ်တွင် မင်းဂံရပ်ကွက်၊ တရားသိစုရပ်ကွက်၊ စံပြရွာတို့တွင် မီးလောင်မှုများ ဖြစ်ပွားခဲ့ပြီး ဆက်စပ်သတင်းအဖြစ် ယနေ့ (၁၀)နာရီခန့်တွင် ရမ်းဗြဲမြို့ အကွက်(၁)ရပ်ကွက်တွင် ဘင်္ဂါလီကုလားတို့ရန်စမှုကို မကျေနပ်သည့်အတွက် မြို့ပေါ်နှင့် နယ်ဘက်မှ ရခိုင်အင်အား (၁၀၀)လောက်က သာယာကုန်းဗလီကို ဝင်ရောက်ဖျက်ဆီးမှုကို လုံခြုံရေး ရဲတပ်ဖွဲ့များက ထိန်းသိမ်းနိုင်ခဲ့ကြောင်း။

နေ့လယ် (၂း၃၀)နာရီတွင် ကျောက်ဖြူမြို့ မြစ်နားတန်းရပ်ကွက်၊ ကျွန်းသာယာအစုရှိ ဘင်္ဂါလီတွေနှင့် ဒေသခံရခိုင်လူမျိုးတွေကြား အချင်းများခဲ့ပြီး မြို့နယ်အုပ်ချုပ်ရေး ပူးပေါင်းဆောင်ရွက်ရေးအဖွဲ့နဲ့ လုံခြုံရေးတပ်ဖွဲ့ဝင်တွေက အချိန်မီထိန်းသိမ်းခဲ့ကြောင်း။

ညနေ (၅)နာရီတွင် ပြစ်မှုဆိုင်ရာကျင့်ထုံး ဥပဒေပုဒ်မ ၁၄၄ အရ ညနေ (၆)နာရီမှ နံနက် (၆)နာရီထိ ညမထွက်အရ အမိန့်ကို စစ်တွေမြို့၊

ကျောက်ဖြူမြို့၊ ရမ်းဗြဲမြို့၊ သံတွဲမြို့တို့တွင် ကြော်ငြာခဲ့ကြောင်း။

ည(၈)နာရီတွင် ရခိုင်ဖြစ်စဉ်နှင့် ပတ်သတ်ပြီး မြန်မာနိုင်ငံတော် သမ္မတမှ နိုင်ငံပိုင်ရုပ်မြင်သံကြားမှ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၁၂၊ ပုဒ်မခွဲ(က)အရ ရခိုင်ပြည်နယ်အတွင်း အရေးပေါ်အခြေအနေအဖြစ် ကြေညာလိုက်သည်။ စစ်တပ်၏ အကူအညီကို ရယူမည်ဖြစ်ကြောင်း၊ ပြည်သူများကလည်း အသိတရားနဲ့ ယှဉ်ပြီး ဥပဒေများကို လေးစားလိုက်နာဖို့လိုကြောင်း။

"ယခုဖြစ်နေတဲ့ ပြဿနာဟာ မြန်မာနိုင်ငံသား ဗုဒ္ဓဘာသာဝင်များနဲ့ မြန်မာနိုင်ငံသား အစ္စလာမ်ဘာသာဝင်များကြားမှာ ဗုဒ္ဓဘာသာဝင်အားလုံးနဲ့ အစ္စလာမ်ဘာသာဝင်အားလုံးကြားမှာ ဖြစ်ပွားနေတဲ့ ပြဿနာမဟုတ်ဘူး။ ဒါကို လူမျိုးရေး ၊ ဘာသာရေးအသွင်ဖန်တီးမယ်ဆိုရင်လည်း ဒါဟာ မရိုးမသား လုပ်ဆောင်နေတဲ့ ဖန်တီးမှုပဲလို့ သတ်မှတ်ရမှာဖြစ်ပါတယ်။ အဲဒီတော့ ရခိုင်တိုင်းရင်းသားတွေ နှစ်ပေါင်းများစွာ ခံစားနေရတဲ့ ဝေဒနာ၊ သူတို့ခံစားမှုကိုလည်း ကျနော်တို့ အလေးအနက်ထားဖို့ လိုပါလိမ့်မယ်။ ရိုဟင်ဂျာ ပြဿနာဟာ နှစ်ပေါင်းများစွာကြာခဲ့ပါပြီ။ ကျနော်တို့ ၈၈ မျိုးဆက် ကျောင်းသားများအနေနဲ့ အမျိုးသားပြန်လည်သင့်မြတ်ရေး ပြဿနာကို ပြေလည်ဖို့ ကြိုးစားနေတဲ့အခါမှာ အတတ်နိုင်ဆုံး အငြင်းပွားစရာကိစ္စတွေ၊ မပြောမဖြစ်တဲ့ ကိစ္စတွေကလွဲလို့ တော်တော်များများကို ရှောင်ရှားနေခဲ့ပါတယ်။ အခုနေမှာတော့ ရိုဟင်ဂျာနဲ့ပတ်သတ်လို့ ကျနော်တို့ အတိအလင်းပဲ ပြောပါမယ်။ ရိုဟင်ဂျာသည် ကျနော်တို့တိုင်းရင်းသားလုံးဝမဟုတ်ပါဘူး။ အခုဖြစ်နေတဲ့ ဘူးသီးတောင်၊ မောင်တောကိစ္စသည် နယ်စပ်ကနေ တရားမဝင်ဖြတ်ကျော်လာတဲ့၊ ဝင်ရောက်လာတဲ့ ရိုဟင်ဂျာများနဲ့ ပြည်ပသွေးထိုးလှုံ့ဆော်မှုတွေပါ ပါနေတယ်လို့ ကျနော်တို့ မြင်ပါတယ်။ ရိုဟင်ဂျာ ပြဿနာကို ဘယ်ကမှ လက်ခံမှုမျိုးမရှိသလိုဖြစ်နေတဲ့ ဒုက္ခသည်တွေအနေနဲ့ လူသားချင်းစာနာမှုအရ ကျနော်တို့ ကိုယ်ချင်းစာပါတယ်။ စာနာပါတယ်။ ဒါပေမယ့် ကျနော်တို့လူမျိုးရဲ့ သဘောကောင်းမှု၊



လိုက်လျောမှုကို နိုင်ငံကြီးတွေကနေပြီးတော့ ဒီအားနည်းတဲ့ နိုင်ငံက ဒီပြဿနာကို လက်ခံရမယ်လို့ ဖိအားပေးနေတာမျိုးကို ကျနော်တို့ လုံးဝသည်းခံမှာ မဟုတ်ဘူး။ ကျနော်တို့က ဒီနေရာမှာ နိုင်ငံသားအနေနဲ့ သီးခြားပြောပြပါမယ်။ ကျနော်တို့နိုင်ငံမှာ အိမ်နီးနားချင်းနိုင်ငံတွေနဲ့ ဆက်စပ်နေတဲ့အားလျော်စွာ တရုတ်ရှိတယ်၊ အိန္ဒိယန်လူမျိုး၊ မျိုးနွယ်စုတွေရှိတယ်။ ကျနော်တို့ နိုင်ငံမှာ ဘိုးဘွားဘီဘင်အဆက်ဆက်ကနေလာခဲ့ကြတဲ့အတွက် နိုင်ငံသားအဖြစ်ခံယူခွင့်ရရှိထားတဲ့ နိုင်ငံသားတွေရှိပါတယ်။ အဲဒါ နိုင်ငံသားဆိုတဲ့ ကိစ္စပါ။ ဒီတော့ ဘင်္ဂလီပဲဖြစ်ဖြစ် နိုင်ငံသားအသိအမှတ်ပြုခံထားရတဲ့ ပုဂ္ဂိုလ်များကိုတော့ ကျနော်တို့ နိုင်ငံသားတစ်ဦးရဲ့အခွင့်အရေး ၊ နိုင်ငံသားတစ်ယောက်အပေါ် ကာကွယ်စောင့်ရှောက်မယ့် တာဝန်ကို နိုင်ငံသားတစ်ယောက်အနေနဲ့ ကျနော်တို့ အပြည့်အဝလက်ခံမှာပါ။ ဒါဟာ တရုတ်၊ ကုလား ကျနော်တို့ မခွဲပါဘူး" ဟု ၈၈ မျိုးဆက် ကျောင်းသားခေါင်းဆောင်ဖြစ်တဲ့ ကိုကိုကြီးက ပြောကြားသွားကြောင်း။

"ကျနော်တို့ နိုင်ငံရေးလုပ်မယ်ဆိုရင် အမျိုးသားရေး အစွန်းရောက်လို့မရသလို အမျိုးသားရေးကို စွန့်ပစ်လို့လည်းမရဘူး။ ရခိုင်ပြည်နယ်မှာ ရှိတဲ့လူဦးရေကို တွက်ကြည့်ပါ။ သူတို့နဲ့ ထိစပ်နေတဲ့ ဘင်္ဂလားဒေ့ရှ်ရဲ့ လူဦးရေကို ကြည့်ပါ။ ရခိုင်အမျိုးသားတွေအနေနဲ့ ဘင်္ဂလားဒေ့ရှ်ကနေ ပြိုဆင်းလာမဲ့ အန္တရာယ်ကို စိုးရိမ်တယ်ဆိုတာ သဘာဝကျပါတယ်။ မြန်မာနိုင်ငံမှာရှိတဲ့ အစ္စလာမ်ဘာသာဝင်တွေ အနေနဲ့က မြန်မာပြည်မှာနေပြီး၊ မြန်မာပြည်ကို ချစ်တယ်။ မြန်မာပြည်ရဲ့ ဆန်ကိုစားပြီး မြန်မာပြည်မှာ ကြီးတယ်။ အဲဒီအတွက် အမေကိုကျော်ပြီး ဒွေးတော်လွမ်းနေစရာ အကြောင်းမရှိဘူး။ အဲဒီတော့ ရခိုင်အမျိုးသားတွေရဲ့ စိတ်ပူပန်မှုဟာ ကျနော်တို့စိတ်ပူပန်မှုပါ။ ကျနော်တို့ ကိုယ်တိုင် ရခိုင်အမျိုးသားတွေဘက်က ရပ်တည်ရမှာဖြစ်တယ်"ဟု ၈၈ မျိုးဆက် ကျောင်းသားခေါင်းဆောင် ကိုမြအေးက ပြောကြားသွားကြောင်း။

"ကျနော်တို့အနေနဲ့ ဖွဲ့စည်းပုံအခြေခံ ဥပဒေပုဒ်မ ၃၆၂ အရ

အစ္စလာမ်ဘာသာဝင်တွေကို အသိအမှတ်ပြုပါတယ်။ ပြည်တွင်းမှာ အစ္စလာမ်ဘာသာဝင်တွေ နေထိုင်တာကိုလည်း ဘာမှ မပြောလိုပါဘူး။ ရိုဟင်ဂျာဆိုတာ တစ်ချိန်တုန်းက ကိုလိုနီနယ်ချဲ့တွေနဲ့အတူ ပါလာတဲ့ သူတွေဆိုတာ သိရပါတယ်။ ဒါပေမယ့် မြန်မာနိုင်ငံသားမဟုတ်"ဟု အမျိုးသားဒီမိုကရေစီပါတီ ဥက္ကဋ္ဌ၊ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းညွန့်က ပြောကြားသွားကြောင်း။

"ရခိုင်ပြည်နယ်ဘက်မှာ ဖြစ်နေတဲ့ ကိစ္စရပ်တွေက အမျိုးသားရေးကို ထိခိုက်စေပါတယ်"ဟု ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးပါတီ၊ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်၊ ရန်ကုန်တိုင်းဒေသကြီး တာဝန်ခံ ဦးအောင်သိန်းလင်းက ပြောကြားသွားကြောင်း၊ စသည်တို့ကို ရေဒီယိုမှ အကျယ်တဝင့် ကြေညာသွားသည်။

ယနေ့ညကား စကားပင် ကောင်းကောင်းမပြောနိုင်။ ညတုန်းကပင် ကောင်းကောင်းမအိပ်ခဲ့ရခြင်း၊ တစ်နေ့လုံး ပင်ပန်းခဲ့ရမှုတို့ကြောင့် လူခါးသည် အိပ်ရာပေါ်သို့ ရောက်သည်နှင့် အိပ်ပျော်သွားလေသည်။ လောကကြီးတစ်ခုလုံးသည် ဘာဖြစ်သည်ဆိုသည်ကို ခဏလောက်တော့ အိပ်စက်ခြင်းဖြင့် မေ့ခွင့်ရလိုက်သည့် အခိုက်အတန့်ပင် မဟုတ်ပါလော။ ဘေးနားတွင်တော့ သမီးကလေးက

"ဝံသာနုစိတ်ဓာတ်"

သားသမီးဝတ်ငါးပါးမှာ
တစ်ပါးဝင် အပါ။
အမျိုးဂုဏ်သာစောင့်ပါမှ
အမျိုးချစ်မည်ပ။
မြေမျိုသည်က မထောင်းတာ
လူမျိုးမပျောက်ပါ။
လူမျိုရင်သာ လူမျိုးပျောက်
အားလုံး ဒုက္ခရောက်။
အမျိုးပျောက်မှာ စိုးကြောက်ပါ


ကျွန်ဖြစ်နွံနစ်မှာ။
သွေးနှောတာ ငါတို့မုန်း
လူမျိုးအညွန့်တုံး။

ဟု 'စာရိတ္တနှင့် ပြည်သူ့နီတိ'ပါ ကဗျာများကို အော်ဟစ်ဖတ်နေသည်ကို နားထောင်ဖော်ပင် မရတော့ဘဲ တစ်ခါတည်း ကုလားသေ ကုလားမော အိပ်ပျော်သွားသည်။

*×*×*

## (၂၂)

### ၁၁. ၆. ၂၀၁၂ တနင်္လာနေ့

လူခါးသည် ပင်ပန်းမှုကြောင့် နှစ်ခြိုက်စွာ အိပ်ပျော်သွားသည်။ ဘာဆိုဘာမှ မသိတော့။ တစ်ခါတလေတွင် တစ်ခုကိုမှ မသိခြင်းသည်လည်း ကောင်း၏။ သိလျက်နဲ့တောင် အတင်းမသိဟန်ဆောင်ခဲ့ကြသည် မဟုတ်လား။ ယခုလည်း လူခါးသည် အသက်အန္တရာယ်ကြားထဲတွင် တစ်နေ့လုံး ဖြတ်သန်းခဲ့ရသည့်အတွက် ပင်ပန်းနေသည်မဟုတ်လား။ လူခါးတစ်ဦးတစ်ယောက်တည်း မဟုတ်ဘဲ ရခိုင်တစ်မျိုးသားလုံးမှသည် မြန်မာတစ်မျိုးသားလုံး စိုးရိမ်စိတ်၊ ကြောက်လန့်စိတ်တို့ကြောင့် ပင်ပန်းခဲ့ရသည်မဟုတ်လား။ လူခါးသည် စိတ်လက်ကြည်လင်စွာဖြင့် အားအင်အပြည့်ဖြင့် နံနက်ခင်းတွင် နိုးထလာသည်။ လုပ်နေကျ နံနက်အတိုင်း အိပ်ရာထ ရေဒီယိုကလေးကိုဖွင့်၊ မျက်နှာသစ်၊ ကော်ဖီသောက်ရင်း မနေ့က အခြေအနေကို စဉ်းစားနေမိသည်။



သမီးကတော့ ကလေးတို့သဘာဝအရ ကစားနေသည်။ မိန်းမကတော့ နံနက် စောစောထပြီး ထမင်းချက်နေသည်။ အမေကတော့ လူကြီးတို့အတိုင်း နံနက်ဖို့ တရားထိုင်နေသည်။ “တိုင်းပြည်ပျက်မယ် ထမင်း မြန်မြန်စား”ဟူသည့် ငယ်ငယ်တုန်းက အမေတို့ အမြဲပြောနေကျ စကားတစ်ခွန်းသည် ယခု ကိုယ်တို့လက်ထက်တွင် မျက်ဝါးထင်ထင် မြင်ရသည်။ ဂျပန်ခေတ်ကို ကောင်းကောင်းမှီလိုက်သူများဖြစ်သောကြောင့် အရေးအခင်းဖြစ်လာလျှင် ဘာဖြစ်မည်ဆိုသည်ကို ကောင်းကောင်းသိသူများဖြစ်သည်။

ဈေးဆိုင်များ ပိတ်ထားခဲ့သည်မှာကား (၄)ရက်လောက်ရှိပြီ။ ဟင်းသီးဟင်းရွက်ရောင်းချသည့် ဈေးသည်များ မရောက်လာသောကြောင့် အိမ်ဘေးနားမှ ခြံထွက် ကန်စွန်းဟင်းနှင့် ကြက်ဥတို့ဖြင့် နှစ်ပါးသွားနေရသည်။ ဈေးရောင်းမည့် နယ်ဘက်က လူတွေကလည်း မြို့ထဲကို မလာရဲကြ။ ဒီနေ့တော့ မြို့ပြင်ထွက်ပြီး ဈေးဝယ်အုံးမည်ဆိုပြီး ဆိုင်ကယ်ကိုထုတ်လျက် မြို့ပြင်ဘက်ကို ထွက်လာခဲ့သည်။ စစ်တွေမြို့၏ မြို့ပြင်ဘက်တွင်ရှိသော “တပ်နယ်ဈေး”သို့ ထွက်လာခဲ့သည်။ ဤဈေးသည် စစ်တပ်ထဲတွင်ရှိသောကြောင့် လုံခြုံသည်။ ဈေးဝယ်ပေးခဲ့ပြီး မြို့ထဲတွင်ရှိသော ကိုကြီးသိန်းတို့ဆီကို သွားရောက်ခဲ့သည်။

ကိုကြီးသိန်းတို့ဆီကို ရောက်သွားချိန်တွင် လူများသည် အလုပ်ရှုပ်နေကြသည်။ ထမင်းထုပ်ကောက်သူများ၊ ရေသန့်ဗူးသယ်သူများ၊ သတင်းထောက်များဖြင့် အလုပ်ရှုပ်နေကြသည်။ အနီးအနားမှ လူများသည်လည်း စားစရာ သောက်စရာများကို လာရောက်လှူဒါန်းကြသည်။ ဖွန်လသည် သရက်သီးရာသီမို့ သရက်သီးမှည့်များ၊ ငှက်ပျောသီးမှည့်များနှင့် တခြားသစ်သီးဝလံများလည်း အများအပြားပေ။ အများအပြား လိုအပ်သည်မှာကား အမှန်ပေ။ လောလောဆယ် ဒုက္ခသည်စခန်းတွင်ခိုလှုံနေသော ဒုက္ခသည်များ သောင်းချီရှိသည့်အတွက် အစားအသောက် အဝတ်အထည်များစွာ လိုအပ်သည်။ လူခါးလည်း ထမင်းထုပ်များကို ရွေးကြည့်ခြင်း၊ လိုအပ်သည်များကို ထုပ်ပိုးခြင်းတို့ဖြင့် ဝိုင်းဝန်းကူညီလိုက်သည်။

ထိုအချိန်တွင် ဒေါက်တာနိုင်လင်းရောက်ရှိလာပြီး

"ကျနော် မဟာကုသလဘုန်းတော်ကြီးကျောင်းသို့ သွားမလို့ လိုက်မလား ကိုလူခါး။ ဟိုမှာ ထွက်ပြေးလာကြတဲ့ ဒုက္ခသည်တွေထဲမှာ ကလေးမွေးထားတာ အချိန်ပိုင်းပဲ ရှိသေးတဲ့ အမျိုးသမီးတစ်ဦးပါတယ်လို့ ဆရာတော်က ဖုန်းဆက်တယ်။ အဲဒါ ကျန်းမာရေးစစ်ဆေးဖို့ သွားမလို့ပါ"

"လိုက်မယ်ဗျာ သွားကြတာပေါ့"ဆိုပြီး ထွက်လာခဲ့သည်။ မဟာကုလသ ဘုန်းတော်ကြီးကျောင်းကို ရောက်သွားချိန်တွင် ဒုက္ခသည်များဖြင့် ပြည့်ကျပ်နေပြီ။ ဆရာတော်ဘုရားကို ရှိခိုးပြီး ဆရာတော်မှ ကပ္ပိယ တစ်ဦးကို ခေါ်ပြီး လိုက်ပြခိုင်းသည်။

"ဟိုအခန်းထဲမှာ မီးဖွားနေတယ်။ အဲဒီမှာသာ သွားကြည့်ကြတော့"

မွေးခန်းကိုလည်း စောင်တွေဖြင့် အခန်းလုပ်ထားသည်။ လူခါးလည်း အပြင်ဘက်တွင် ကျန်ခဲ့ပြီး ဒေါက်တာနိုင်လင်းမှ မွေးဖွားခန်းထဲသို့ ဝင်သွားသည်။ မွေးဖွားသည့်နေရာနှင့် ဘုန်းကြီးကျောင်းသည် မည်သို့မျှ မသင့်တော်ပေ။ သို့သော် ဒီအခြေအနေသည် နေရာရွေးပြီး မွေးဖွားနေရမည့် အချိန်ကားမဟုတ်တော့ပေ။ အပြင်ဖက်တွင် အမျိုးသမီးကြီးတစ်ဦး စောင့်နေသည်။ အမျိုးသမီးကြီးနား ကြမ်းပြင်တွင် ထိုင်ရင်း အခြေအနေကို မေးကြည့်လိုက်သည်။ အမျိုးသမီးကြီးက

"ကျမတို့က ဗျိုင်းဖြူရွာ(ဆတ်ရိုးကျရပ်ကွက်)ကပါ။ မနေ့ညဥ့် (၁၂)နာရီလောက်ကတည်းက ဒီကလေးမက မွေးဖွားဖို့အတွက် ဗိုက်နာတယ်ဆိုလို့ ကျမကို အခေါ်လွှတ်လိုက်တယ်။ ကျမက လက်သည်မပါ။ ကျမရောက်သွားတဲ့အချိန်မှာ ကလေးမွေးဖွားဖို့ အသင့်ဖြစ်နေပြီ။ အဲဒီအချိန်မှာ ကျမတို့ရွာနဲ့ နီးတဲ့ သံထော်လီဘင်္ဂလီကျေးရွာက လူ(၃၀၀၀)လောက်က ကျမတို့ ရွာဘက်ကို မီးရှို့ဖို့ တက်လာကြတယ်။ လူအင်အားအရမ်းများတယ်။ စစ်တွေမြို့ဘက်က ပြေးကြတဲ့ ဘင်္ဂလီကုလားတွေက သံထော်လီမှာ စုသွားကြတယ်။ ခတ်မီးအလင်းရောင်ကို မြင်လို့ ဗျိုင်းဖြူရွာကလူတွေ ထွက်ကြည့်ကြတော့ သံထော်လီက လူတွေ



မှန်း သိသာတယ်။ အဲဒီမှာ ရွာသားတွေ အသိပေးလိုက်တော့ ရွာသားအကုန်လုံး ထွက်လာကြတယ်။ ယောကျ်ားတွေနဲ့ ထိပ်တိုက် တွေ့နေကြတယ်။ ဒါပေမယ့် ကျမတို့ ရွာသားတွေမှာ လူအင်အားနည်းတော့ အမျိုးသမီးတွေနဲ့ ကလေးတွေအကုန်လုံး စစ်တွေမြို့ထဲဘက်ကို ထွက်ပြေးတယ်။ ကျမလည်း ကိုယ်ဝန်သည်ကို တွဲခေါ်ပြီး ထွက်ပြေးလာခဲ့ရတယ်။ ပြေးလာရတာလည်း ညအချိန်လေ ၊ လယ်ကွင်းတွေမှာ ရွှံ့အိုင်တွေ၊ ကျွဲခြေရာတွေ၊ ချောက်တွေ၊ ချိုင့်ခွက်တွေကို ဖြတ်ကျော်ပြေးရတော့ ကလေးမက သနားစရာပါ။ လမ်းမှာပဲ ကလေးထွက်ကျသွားတယ်။ ကျမလည်း အချင်းကြိုးကို ကတ်ကြေးနဲ့ဖြတ်ပြီး ကလေးကို အနှီးနဲ့ ပိတ်ပြီး ခေါ်လာခဲ့ရတာပါ။ မြို့ထဲကိုရောက်တော့ ဒီဘုန်းတော်ကြီးကျောင်းမှာပဲ ဝင်ခိုလှုံလိုက်ရပြီး ရွာဖက်က အခြေအနေကို စောင့်ကြည့်နေတာပါ"ဟု ပြောပြသည်။ သူ့စကားဆုံးသွားသည်နှင့် လူခါးလည်း အလုံးကြီးတစ်လုံး ဆို့ဝင်သွားသလို ဘာပြောလို့ ဘာပြောရမှန်းကို မသိတော့ဘူး။ ခဏနေတော့ ဒေါက်တာနိုင်လင်းထွက်လာပြီ။

"စံပဲဗျို့ စံပဲ။ ကလေးရော သူ့အမေရော နေကောင်းကြတယ်။ ကျန်းကျန်းမာမာပဲ"လို့ ပြောသည်။

"ဒါပေမယ့် သူတို့သားအမိအတွက် ဒီနေရာကို စိတ်မချဘူးဗျာ။ ဆေးရုံကို ပို့ထားမယ်။ ကလေးက အသားဝါဖို့ပုံတော့ ပေါက်နေတယ်။ ကလေးက အရမ်းနုနယ်တော့ စိတ်မချဘူး။ ကျနော် မှတ်ချက်ပေးပြီး ဆေးရုံကို ပို့လိုက်မယ်ဗျာ"

"ဒါဆိုရင် သူ့အုပ်ထိန်းသူ ဘယ်မှာလဲ"

"ကျမပါ"

ခုနားက အမျိုးသမီးကြီးက ပြောလိုက်သည်။

"ဖြစ်ပါမလား ဆရာရယ်။ ကျမတို့ ဒီမှာပဲ နေပါရစေ"လို့ ဆက်ပြောသည်။ လူခါးလည်း တစ်ချက်လောက် အကဲခတ်ကြည့်လိုက်သည်။ ဗျိုင်းဖြူရွာသည် ဆင်းရဲသား လက်လုပ်လက်စားများပြီး အထူးသဖြင့် ဆတ်ရိုးကျချောင်းတွင် သမ္ဗာန်ခတ်ပြီး အသက်မွေးသူများ

များသည်။ သူတို့သည် ညကြီးအချိန်မတော် ပြေးလာရသည့်အတွက် ပိုက်ဆံတစ်ပြားတစ်ချပ်မှ ပါလာပုံ မပေါက်ပေ။ ထိုနည်းတူစွာ မနက်ပိုင်း ဖြစ်သောကြောင့် သူ့ယောက်ျားနှင့်လည်း အဆက်အသွယ်ရပုံ မပေါက်သေးချေ။ ဒါကြောင့်လည်း ဆေးရုံတက်ရမှာ လန့်နေသည့်ပုံမျိုး ဖြစ်သည်။ လူခါးတို့ အရပ်ဒေသတွင် ဆေးရုံတက်ရမည်ဆိုလျှင် ဆေးရုံတက်မည့်အစား ကျားဖင်ကိုသာ လက်နှင့် နှိုက်ချင်ကြသည်။ ဆေးရုံကို စတက်ကတည်းက ဆေးဖိုးဝါးခက ကြီးသည်။ အလိုက်မသင့်လျှင် သူနာပြုဆရာများနှင့် အစောင့်များ၏ ဆဲဆိုကြိမ်းမောင်းခြင်းကိုလည်း ခံရတတ်သည်မဟုတ်လား။ ဒါကြောင့်လည်း ဖြစ်နိုင်သည်။ လူခါးက

"စိတ်မပူပါနဲ့ အဒေါ်ရယ်။ ကျနော်တို့ ဒေါက်တာတို့ ဆရာတော်တို့ရှိပါတယ်။ မပူပါနဲ့ အဓိက ကလေးနဲ့ ကလေးအမေ ကျန်းမာဖို့ပဲ လိုပါတယ်"လို့ နှစ်သိမ့်လိုက်သည်။ ဒေါက်တာနိုင်လင်းက

"စိတ်ချ ကျနော် တစ်ယောက်လုံးရှိတယ်။ စရိတ်စခတွေကို မပူနဲ့ ဒီအချိန် ပူပန်ရမယ့် အချိန်မဟုတ်ဘူး။ ကိုလူခါး ဒီကလေးကို နာမည်ပေးလိုက်ရအောင်ဗျာ"

"ဆိုပါအုံး ဒေါက်တာ ဘာနာမည်များ ပေးမလဲ"

"ကုလားနိုင်လို့ပေးမယ်ဗျာ။ ယောက်ျားလေးဆိုတော့ ဒီနာမည်ပဲ ကောင်းတယ်"ဆိုပြီး ပြောသည်။

အဲဒီမှာပဲ လူခါးတို့သည် ကုလားနိုင်တို့သားအမိကို ဆေးရုံပို့ပေးလိုက်ရသည်။ လိုအပ်သည့် ဆေးဝါးများ၊ ဆေးဖိုးဝါးခများနှင့် တခြားလိုအပ်သည်များကို ဆေးရုံမှ သူနာပြုအစောင့်ဆရာများကို မှာထားခဲ့ပြီး လိုအပ်လျှင် ဆက်သွယ်၍ ရအောင် ဖုန်းနံပါတ်များကိုလည်း ပေးထားခဲ့သည်။ ယခု ဖြစ်စဉ်ကဲ့သို့ ရခိုင်ပြည်နယ်တွင် မည်မျှရှိမည်နည်း။ အဖြစ်အပျက်တို့သည်ကား ပြောလို့မဆုံးပေါင် တောသုံးတောင်ဖြစ်နေတော့သည်။

ဆေးရုံက ဆိုင်ကယ် တစ်ယောက်တစ်စီးဖြင့် ပြန်လာစဉ် ဒေါက်တာနိုင်လင်းမှ



"ဒီလို ငွေကြေး အခက်အခဲတွေကြောင့် ဆေးရုံကို မလာရဲတဲ့ လူနာတွေ အများကြီးကြုံဖူးတယ်။ သူတို့ကိုလည်း အပြစ်ပြောလို့မရဘူး။ ဆေးရုံလို့ အသံကြားလိုက်ကတည်းက ပိုက်ဆံ တရှင်ရှင်နဲ့ကို ထွက်နေတာလေ"လို့ ညည်းညည်းညူညူဖြင့် ပြောလိုက်သည်။ လူခါးလည်း အပေါင်းအဖော်တွေမို့ ဒီဆရာဝန်ရဲ့ လူမှုရေးစိတ်ကိုတော့ သိပြီးသားမို့ ပြန်မပြောလိုတော့ပေ။ တခြားသော ဆရာဝန်တစ်ဦးဦးက ဒီလိုစကားမျိုးများ ပြောလာခဲ့ရင်တော့ အံ့ဩမိမှာတော့ အမှန်။

"ဒါနဲ့ ဒေါက်တာ ဘယ်ကို သွားအုံးမလဲ"

"မင်းဂံရပ်ကွက်မှာ ဆေးတာဝန်ယူထားတော့ တစ်ညလုံးတောင် မအိပ်ရသေးပါဘူးဗျာ"

"ဒါဆို မနက်စာ စားပြီးပြီလား"

"ဘယ်က ရပါမလဲ ကိုလူခါးရယ်"

"ဒါဆို နီးစပ်ရာ လက်ဖက်ရည်ဆိုင် တစ်ဆိုင်လောက် ရှာထိုင်ရင်း လက်ဖက်ရည်သောက်ကြမယ်လေ"လို့ ခေါ်လိုက်သည်။ ခေါ်သာခေါ်လိုက်ရသည်။ လက်ဖက်ရည်ဆိုင်တော်တော်များများကား မဖွင့်သည်မှာ အမှန်ပင်။ သို့သော် လုံခြုံစိတ်ချရသော တချို့သောဆိုင်များကား ရှားရှားပါးပါး ဖွင့်လေသည်။ လက်ဖက်ရည်ဆိုင်ကို ဝင်လိုက်ပြီး ထမင်းကြော်တစ်ပွဲနှင့် ကော်ဖီတစ်ယောက်တစ်ခွက်မှာလိုက်သည်။ လူခါးကတော့ မနက် အိမ်က ထွက်လာကတည်းက မိန်းမကျွေးလိုက်ပြီမို့ အစားကိုတော့ ရှောင်လိုက်သည်။ အရည်ပဲ သောက်လိုက်သည်။

"ဒါနဲ့ စကားမစပ် မနက်က ဘာထူးသေးလဲ။ ကျနော်က ပင်ပန်းတာနဲ့ ညလုံးပေါက် အိပ်ပျော်သွားတာ၊ မိုးလင်းမှ အိပ်ရာက နိုးတယ်"လို့ လှမ်းမေးလိုက်သည်။

"ဒါဆိုရင်တော့ ခင်ဗျားလွန်တယ်ဗျာ။ ဒီနေ့ သူများတွေ နေ့မအားညမအား ကင်းစောင့် အလုပ်တွေ လုပ်နေကြတာ။ ခင်ဗျားကတော့ အိပ်လို့ကို ပျော်နိုင်သေးတယ်"ဆိုပြီး အပြစ်တင်သလိုမျိုး၊ နောက်သလိုမျိုး ပြောသည်။

"မနေ့ညတုန်းကတော့ မင်းဂံဖက်မှာတော့ တစ်ချက်တစ်ချက် ဘင်္ဂလီကုလားတွေက တက်လာတယ်။ ဒါပေမယ့် လုံခြုံရေးက အဲဒီဖက်မှာ ထိန်းသိမ်းထားနိုင်ပြီလို့ မြင်တယ်။ ပြီးတော့ တစ်ချက်တစ်ချက် သေနတ်ပစ်သံတွေလည်း ကြားရတယ်"

"ရပ်ကွက်ထဲထိတော့ ရောက်မလာနိုင်တော့ဘူး။ ရခိုင်တွေလည်း ထွက်ပြီးတော့ ကင်းစောင့်ကြတယ်။ အားလုံးတော့ သတိဝီရိယနဲ့ပေါ့ဗျာ"

"အဲဗျာ ဒီလောက် အတူတကွနေလာကြပြီးမှ ဒီကောင်တွေက လည်း ပြည်ပသတင်းဌာနတွေနဲ့ ပြည်ပရောက် ဘင်္ဂလီပညာတတ်အုပ်စု က မြှောက်ပေးလိုက်မှ ခုလိုဖြစ်လာရတာ။ ကြည့်လေဗျာ ပြည်ပသတင်းဌာနတွေက ဒီမှာ ဘာဖြစ်နေမှန်းမသိဘူး။ သူတို့ကတော့ ပြည်ပကနေ ရိုဟင်ဂျာတွေကို လူမျိုးတုန်းသတ်နေပါတယ်လို့ အော်ကောင်းတုန်းဗျ။ အင်တာနက် ဝက်ဆိုက်တွေ ဘလော့တွေမှာလည်း ဒီပြည်ကို သူတို့ပြည် လိုလို သူတို့ပဲ ရခိုင်ပြည်ရဲ့ ဓားမဦးချရောက်လာပြီး ဓညဝတီ၊ ဝေသာလီ၊ လေးမြို့၊ မြောက်ဦးကို တည်ထားခဲ့သလိုလို။ ရခိုင်ပြည်နယ်အနှံ့ လက်ညှိုးထိုးမလွဲတဲ့ စေတီဘုရားတွေကိုတောင် အားမနာကြဘူးဗျ"

"ဟုတ်ပ ကိုလူခါးရယ်။ ဒီကောင်တွေက စည်းစနစ်ကျတယ်။ ခေါင်းဆောင်တစ်ဦးတစ်ယောက်နောက်ကို လိုက်တယ်။ ဥပမာ-မော်လဝီ က ဒါဆိုရင် အကုန်လုံး ဒါပဲ ဖြစ်နေကြတယ်။ ပညာမတတ်တာ၊ စီးပွား ရေးအဆင်မပြေတာ ဗဟုသုတနည်းတာက တစ်ပိုင်းပေါ့။ နိုင်ငံတကာ မွတ်ဆလင်နိုင်ငံတွေ အားကိုးနဲ့ ပညာတတ်တွေက အားပေးအားမြှောက် လုပ်ပြီး ရခိုင်မြေဟာ သူတို့မြေပါ။ သူတို့က သူတို့ကိုယ်သူတို့ တိုင်းရင်း သားဆိုတော့ အားလုံး ပိုဆိုးကုန်တာပေါ့။ တကယ်လည်း ဒုက္ခ ရောက်တာက ပြည်ပက အော်နေတဲ့ လူတွေမဟုတ်ဘူး။ ဒီမှာရှိတဲ့ သူတွေ ဒုက္ခရောက်ကြရတယ်လေ"

"မြေနိမ့်ရာ လှံစိုက်၊ နွားရာ ဝဲစွဲ၊ လဲရာ သူခိုးထောင်း ဆိုသလို ဖြစ်နေပြီဗျာ"ဆိုပြီး ကောက်ချက်ချလိုက်သည်။ နှစ်ယောက်သား ခဏ လေး တိတ်ဆိတ်သွားကြသည်။ တစ်ယောက် ရင်ထဲက ခံစားချက်ကို



တစ်ယောက်က နားလည်နေသလိုမျိုး။ ခါတိုင်းဆိုရင် ရခိုင်တို့၏ သဘော သဘာဝအရပင် အငြင်းသန်သည်။ ခုက ငြင်းစရာမလိုလောက်အောင် တိုက်တိုက်ဆိုင်ဆိုင် ညီညွတ်နေကြသည် မဟုတ်လား။ ခဏကြာတော့ ဒေါက်တာ နိုင်လင်းဆီသို့ ဖုန်းခေါ်သံမြည်လာသည်။ သူဖုန်းပြော နေသည်။ လူခါးကတော့ မိမိအတွေးနှင့် မိမိ ငေးနေမိသည်။

"ကဲ ကိုလူခါး ပိုက်ဆံရှင်းပြီး သွားကြမယ်။ တိုက်ပွဲ စနေပြီ"

"ဘယ်ဘက်မှာ ဖြစ်တာလဲ"

"နာဇီရွာမှာ မီးလောင်နေပြီတဲ့၊ ခုပဲ ဖုန်းဆက်လာတယ်"ဆိုပြီး ကျသင့်သည့် ပိုက်ဆံကို ရှင်းပြီး ဆိုင်ကယ်ကိုယ်စီဖြင့် နာဇီရပ်ကွက် ဘက်ကို ထွက်လာခဲ့သည်။ မြို့ထဲတွင် လူများသည် လှုပ်လှုပ်ရှားရှား ဖြစ်နေသည်။ မြို့ထဲဘက်မှပင် မီးခိုးလုံးများ ထွက်လာသည်ကို မြင်ရတော့ လူတိုင်း ထွက်ကြည့်ကြသည်။ မီးလောင်ရာဘက်ကို လူတိုင်းဦးတည်ကြည့် ရှုနေကြသလို သန်သန်မာမာလူလတ်ပိုင်းများသည်လည်း ချက်ချင်း လိုက်သွားကြသည်။ လူခါးတို့လည်း လိုက်သွားကြသည်။

*×*×*

## (၂၃)

နာဇီရွာ(စက်ရုံစုရပ်ကွက်)သည် စစ်တွေမြို့ထဲတွင် ဘင်္ဂလီကုလားများ အများဆုံးနေထိုင်ရာဖြစ်သည်။ ဘင်္ဂလီကုလားတို့ ကြေးရတတ်သူဌေးများမှသည် အောက်ခြေ သူတောင်းစားထိရှိသည်။ စက်ရုံစုဈေးသည် စစ်တွေမြို့တွင် မြို့မဈေးကြီးပြီးလျှင် ဒုတိယအစည်ကားဆုံးဖြစ်သည်။ လူနေအိမ်ခြေပေါင်း (၁၀၀၀)လောက်ပင်ရှိလိမ့်မည်။ ဘင်္ဂလီကုလားများကြားတွင် ရခိုင်တို့ ကြိုကြား ကြိုကြား နေထိုင်ကြသည်။ ထိုအထဲတွင် ရခိုင်အိမ်က ရာဂဏန်းလောက်ရှိသည်။ ဒီရပ်ကွက်သည် ရခိုင်ပြည်၊ ရခိုင်မြေလို့ ပြောဖို့ပင် ခက်လှအောင် ဘင်္ဂလီကုလားတို့ နေထိုင်ရာဖြစ်သည်။ ဒီရပ်ကွက်၏ အစွန်အဖျားကျမြောက်ဖက်တွင် ဆင်းရဲသားများ နေထိုင်သည့် ဆင်ခြေဖုံးရပ်ကွက်တစ်ခုရှိသည်။ ထိုရပ်ကွက်တွင် ရခိုင်များ အများစုနေထိုင်ကြသည်။ ယခုလည်း အချိန်အားဖြင့် နံနက်ပိုင်း (၉)နာရီ ဝန်းကျင်လောက်ကတည်းက ရခိုင်များနေသည့် အစုကို ဘင်္ဂလီကုလားများက မီးရှို့လိုက်ကြခြင်းဖြစ်သည်။



လူခါးတို့လည်း နာဇီရွာနှင့် ဆက်စပ်လျှက်ရှိသော ကုန်တန်းရပ်ကွက်ထဲကို ရောက်သွားသည်။ ကုန်တန်းရပ်ကွက်နှင့် စက်ရုံစုရပ်ကွက်(နာဇီ)တို့ကို အုတ်ခေါင်းတံတားကလေးတစ်ခုဖြင့် ခွဲခြားထားသည်။ ထိုအုတ်ခေါင်းပေါ်တွင် စစ်တပ်နှင့် လုံခြုံရေးတို့က သံဆူးကြိုးများဖြင့် တားဆီးထားသည်။ နာဇီရပ်ကွက်ထဲသို့ လုံးဝဝင်ခွင့်မပေး။ ဒါလည်း ဖြစ်သင့်ပေသည်။ ဝင်ခွင့်ပေးလိုက်သည်နှင့် ဟိုဖက်တွင် ဘင်္ဂလီကုလားများ အများစုနေရာမဟုတ်လော။ သို့သော်ကား ယခုမီးလောင်နေသော နေရာကို တခြားဘက်က သွားမည်ဆိုလျှင် တော်တော်ကို ဝေးသည်။

လူခါးတို့ရောက်ရှိသည့်နေရာမှ ရှေ့မတိုးနိုင်တော့ဘဲ ဒီအတိုင်းရပ်ကြည့်နေရတော့သည်။ မီးကား အရှိန်အဟုန် ပြင်းစွာဖြင့် ရခိုင်အိမ်များကို တစ်အိမ်ပြီး တစ်အိမ်ဝါးမျိုသွားသည်။ လူများသည် ဆတ်ရိုးကျချောင်းဟိုဖက်ကို ကူးခတ်ပြေးကြရသည်။ ပြေးစရာနေရာလည်း တခြားဘက်ကို မရှိ။ အပေါ်ပိုင်းမှ လူများသည် အာကျိတ်တော်ကုန်းမြေရှိ သင်္ချိုင်းကို ဖြတ်ပြီး ထွက်ပြေးရသည်။ နာဇီရပ်ကွက်ထဲတွင် ဗုဒ္ဓဘာသာဘုန်းတော်ကြီးကျောင်း (၅)ကျောင်းရှိသည်။ အာကျိတ်တော်ကုန်းမြေဘက်တွင်ရှိသော ဇေယျမင်္ဂလာဘုန်းတော်ကြီးကျောင်း ၊ စေတီပြင်ဘုန်းတော်ကြီးကျောင်း၊ စန္ဒာလောက ဘုန်းတော်ကြီးကျောင်းများကိုပင် မီးလောင်သွားလောက်ပြီ။ ဤဘုန်းတော်ကြီးကျောင်း (၃)ကျောင်းသည် နာဇီရွာနှင့် ဆက်စပ်လျက်ရှိပြီး ကျန် (၂)ကျောင်းမှာ ရွာအပြင်ဘက်ကို နည်းနည်းကျသည့်အတွက် ကျန်ခဲ့ကောင်း ကျန်ခဲ့နိုင်သည်မဟုတ်လား။

လူတို့သည် မီးလောင်နိုင်ခြေကို အမျိုးမျိုးသုံးသပ်နေကြသည်။ ဘယ်လောက်ထိ လောင်းကျွမ်းသွားပြီ၊ ဘယ်လောက်ထိကို မီးရောက်သွားပြီ စသဖြင့် ခန့်မှန်းနေကြသည်။

အခြေအနေမှာ မီးသတ်ကားများလည်း ဝင်ရောက် ငြိမ်းသတ်၍မရ။ မီးသတ်ကား သွားလာရ ခက်ခဲသည့်နေရာဖြစ်သည်။ ရခိုင်များသည် လက်ဗလာများဖြင့် ကလေးလူငယ်၊ လူကြီး၊ သက်ကြီးရွယ်အိုမရွေး

ထွက်ပြေးနေသည်များကို မြင်ရသည်။ အထဲဘက် နာဇီရွာထဲကို ဝင်ပြေးလာလျှင်ကား အသက်ဇီဝိန်ခြွေခံဖို့မှာ ခြေကြီးလက်ခတ်မလွဲပေ။ ခဏလောက်ကြာလျှင် လုံခြုံရေးကားများ ဝင်ရောက်သွားသည်။ ဒီဖက်တွင်ရှိသော ရခိုင်များကား ရှေ့တိုး၍လည်းမရ။ ဆုတ်ချင်လျှင် နောက်ဆုတ်ရုံသာရှိသည်။

လူခါး၏ စိတ်ထဲတွင်တော့ လုံခြုံရေးမြန်မြန်ရောက်သွားပါစေလို့ ဆုတောင်းရုံမှ တစ်ပါးမရှိတော့ပေ။ မီးကား အရှိန်ကောင်းဆဲ။ ဘေးဝန်းကျင်တွင် လူများက

"တံခါးဖွင့်ပေးပါ။ ကျနော်တို့သွားမယ်။ ကျနော်တို့ ဒီအတိုင်းကြည့်မနေနိုင်ဘူး"

"ဒီလူတွေ ဒီအတိုင်း အသေခံပေးလိုက်ရတော့မှာလား။ ဒါ ကျနော်တို့ ရခိုင်သားတွေပါ"ဆိုပြီး ငိုယိုပြီး တံခါးဖွင့်ခိုင်းသည်။ လုံခြုံရေးတို့မှလည်း

"ခင်ဗျားတို့ ရှေ့တိုးမလာနဲ့နော်။ တိုးရင် အရေးယူရလိမ့်မယ်" ဆိုပြီး သေနတ်များကို အဆင်သင့် ကိုင်ဆောင်ထားသည်။ တချို့ လုံခြုံရေးတို့မှ သံဆူးကြိုးကို အသေအချာပိတ်ထားသည်။ တချို့ လုံခြုံရေးများတွင် နံပါတ်တုတ်များနှင့် ဒိုင်းကာများလည်း ကိုင်ဆောင်ထားသည်။ လူအုပ်ကား နောက်ဆုတ်မသွား။ တဖြည်းဖြည်း ကြည့်သူများ၊ ဒေါသထွက်နေသူများဖြင့် ကုန်တန်းရပ်ကွက် လမ်းမတန်းပေါ်တွင် ပြည့်ကျပ်နေလေတော့သည်။

လာရောက်ကြည့်ရှုကြသည့်အထဲတွင် အမျိုးသမီးများလည်း ပါဝင်သည်။ အမျိုးသမီးတို့သည် ယောကျ်ားတို့ထက် ခံစားချက်ထိခိုက်ချက်များ လွယ်ကူကြသည်ကိုကား အထူးပြောစရာပင် မလိုပေ။ ကြိတ်ငိုသူများ၊ ဆဲဆိုသူများ၊ လုံခြုံရေးတွေဆီမှာ တံခါးဖွင့်ခိုင်းသူများဖြင့် အချေအတင်ဖြစ်နေကြသည်။

အချိန်အတော်အသင့်ကြာသွားလျှင် မီးအရှိန်ကား တဖြည်းဖြည်း လျော့ကျသွားသည်။ ကြည့်ရသည်မှာ လုံခြုံရေးတို့မှ အခြေအနေကို



ထိန်းသိမ်းထားလိုက်နိုင်ပြီဖြစ်သည်။ လူခါးတို့ ဘေးဝန်းကျင်မှ လူများလည်း တဖြည်းဖြည်းအိမ်ပြန်ကြတော့သည်။ ထိုအချိန်တွင် ဒေါက်တာနိုင်လင်းကိုတော့ လူအုပ်ထဲတွင် ရှာမတွေ့တော့ဘဲ နောက်ဆုံးလူခါးလည်း ထွက်လာခဲ့သည်။ နောက်ဖက်အစွန်ဆုံးတွင်နေထိုင်ရသော ဆင်းရဲသားလူတန်းစား ရခိုင်တို့ဘဝကား အဓိပ္ပာယ်မဲ့စွာ ပေးဆပ်လိုက်ရလေတော့သည်။ မရှိခြင်း ဒုက္ခထဲမှသည် ယခုကား နေစရာမရှိခြင်းနှင့် စားစရာမရှိ ဝတ်စရာမရှိခြင်း ဆင်းရဲခြင်းတို့ပင် ထပ်ပေါင်းထည့်လိုက်တော့သည်။

*****

## (၂၄)

လူခါးလည်း ရပ်ကြည့်လျက် ဒေါသစိတ်၊ ယူကျုံးမရသော စိတ်က လွှဲပြီး ဘာမှ မလုပ်နိုင်ခဲ့ချေ။ အခုတော့ ဘာတတ်နိုင်တော့မလဲ။ ပေဖြစ်တုန်းခံပေ့ါ။ တက်သီးခေါက်ရုံမှ လွဲပြီး ဘာမှ မတတ်နိုင်တော့ချေ။ အကုသိုလ်စိတ် အတုံးလိုက် အတိုက်လိုက် ဝင်လာသောကြောင့် ကြာရှည် မနေတော့ဘဲ အိမ်ပြန်လာခဲ့တော့သည်။

စစ်တွေမြို့ လူထဲ၌ကား လူတိုင်းအလုပ်ရှုပ်နေကြသည်။ ဘုန်းကြီးကျောင်းတွင် ဒုက္ခသည်များ စားသောက်နိုင်ဖို့အတွက် အိမ်တိုင်းတွင် ချက်ပြုတ်နေကြရသလို ထမင်းထုပ်လိုက်ကောက်သူများဖြင့် လူငယ် လူကြီးတိုင်း အလုပ်ရှုပ်နေကြသည်။ သတင်းတို့သည်လည်း အမျိုးမျိုး ထွက်ပေါ်နေသည်။ စာရွက်စာတမ်းပေါင်း သောင်းခြောက်ထောင် ဖြန့်ဝေနေကြသည်။ အင်တာနက်ပေါ်မှ တက်လာသမျှ စာရွက်စာတမ်း များကို မိတ္တူပွား၊ ဖြန့်ဝေကြသည်။ သတင်းနှင့် ပြန်ကြားရေး ခိုင်ခိုင်



မာမာမရှိသည့် ဤအရပ် ဤဒေသတွင် လက်ကမ်းစာရွက်မှ သတင်းသည် ရှေ့ဆုံးက ပြေးနေသည်။

အိမ်ပြန်လမ်းပဲရှိသေးသည်။ လူများ လောလောဖြင့် စစ်တွေမြို့၏ မြောက်ဘက်အခြမ်းကို သွားနေကြသည်။ လူခါးလည်း ဆိုင်ကယ်ကို ခဏလောက်ရပ်ပြီး အခြေအနေကို မေးကြည့်လိုက်သည်။ အဲဒီလူက

"သတင်းတွေက ဒီလို ထွက်နေတယ်ဗျာ။ မနက်ပိုင်းက ဆိုင်ကယ် ဖြင့် ဖြတ်သန်းသွားလာနေသည့် ရခိုင်အမျိုးသမီးတစ်ဦးကို သံထော်လီ ကျေးရွာရှိ ဘင်္ဂါလီကုလားတွေက ဖမ်းဆီးခေါ်ဆောင်သွားတယ်ဆိုတဲ့ သတင်းကြောင်း ဒီလူတွေ အဲဒီဖက်ကို သွားကြည့်ကြတာ ဖြစ်မယ်"

မထူးပါဘူးလေဆိုပြီး ဆိုင်ကယ်ကို မြောက်ဘက်ကို ဦးတည်ပြီး လမ်းမတော်မြောက်ရပ်ကွက်ဖက်ကို မောင်းထွက်လာခဲ့သည်။ ထိုနည်း တူစွာ လူများသည် လမ်းမတော်မြောက်ရပ်ကွက် တစ်ဖက်တွင်ရှိသော ဗျိုင်းဖြူရွာ(ဆတ်ရိုးကျ) တစ်ဖက်သို့ လှေ၊ သမ္ဗန်တို့ဖြင့် ကူးခတ်ပြီး သွားနေကြသည်။ လူခါးတို့လည်း ဗျိုင်းဖြူရွာဘက်ကို ကူးလိုက်ပြီး အခြေအနေကို စောင့်ကြည့်လိုက်သည်။ လူများသည် တဖြည်းဖြည်း တိုးပွားလာပြီး အင်အား (၁၀၀၀)ကျော်လောက်ရှိမည်ဟု ခန့်မှန်းရသည်။

"ကျနော်တို့ အဲဒီအမျိုးသမီးအလောင်းကို သွားတောင်းကြမယ်။ ဒီလောက်ဆိုရင် ကောင်မလေးက သေလောက်ပြီ။ မနေ့ညဥ့်တုန်းက လည်း သူတို့ ရွာဖက်ကနေ ဒီဖက်ကို လာရောက်ခဲ့သေးတယ်။ ဒီက လူအုပ်နဲ့ ပြန်လိုက်မှ သူတို့ ပြန်နောက်ဆုတ်သွားကြတယ်"လို့ ပြောပြနေသည်။

"ဒိုင်း. . . ဒိုင်း"

သေနတ်ပစ်သံများကြားရသည်။ အသံလာရာဘက်ကို နားစွင့် ကြည့်လိုက်တော့ သံထော်လီ ဘင်္ဂလီကုလားရွာဘက်က လာသည့် အသံဖြစ်သည်။ လူများသည် လှုပ်လှုပ်ရှားရှားဖြစ်သွားသည်။

"ဒီလောက်ဆိုရင်တော့ သူတို့က ရခိုင်တွေကို သေနတ်တွေနဲ့ လှမ်းပစ်ပြီထင်တယ်။ သူတို့မှာ လက်နက်တွေရှိရမယ်။ အဲဒီရွာက

ကုလားတွေက ဘင်္ဂလားဒေ့ရှ်နဲ့ အဆက်အသွယ်ရှိတယ်”ဆိုပြီး တစ်ယောက်တစ်ပေါက် ပြောနေကြသည်။

“ကျနော်တို့ ဒီလို ရပ်ကြည့်နေလို့ မဖြစ်တော့ဘူး။ တစ်ခုခု လုပ်မှ ဖြစ်တော့မယ်”ဆိုပြီး လူတစ်အုပ်မှ ရှေ့က ဦးဆောင်ထွက်လိုက်သည်။ သံထော်လီဘင်္ဂလီကုလားရွာနှင့် ဗျိုင်းဖြူရွာကြားတွင် ၅ ဖာလုံလောက် အကွာရှိသည်။ ထို့အပြင် ဗျိုင်းဖြူရွာနှင့် ကပ်လျက်တွင် ကျေးတောကျေးရွာရှိသည်။ ကျေးတောရွာမှ လူများလည်း လာရောက်ပူးပေါင်းကြသည်။ သံထော်လီဘင်္ဂလီ ကုလားရွာသို့ သွားသော လမ်းမှာ တစ်ခုတည်းရှိသည်။ ထိုတစ်ခုတည်းသော လမ်းမှာ မိုးရွာထားသောကြောင့် ရွှံ့ဗွက်များ ထနေသည်။ ဘေးတစ်ဖက်တစ်ချက်တွင် ပုစွန်ကန်များဖြင့် ဝိုင်းရံထားသည်။ မိုးရာသီဖြစ်သောကြောင့် ပုစွန်ကန်များတွင် ရေပြည့်လျှံနေသည်။

လူခါးတို့ သွားနေတုန်းပဲရှိသေးသည် လူတစ်အုပ်မှ ကသောင်းကနင်းဖြင့် ထွက်ပြေးလာကြသည်။ ထွက်ပြေးလာသော လူအုပ်ကို ကြည့်ရသည်မှာ တော်တော်ကြောက်လန့်နေသည့်ပုံရသည်။ လူခါးတို့ ရောက်နေသည့် နေရာသို့ ရောက်သောအခါ လူအုပ်သည် တော်တော်ကို ပင်ပန်းနေကြပြီ။ အသက်ရှူသံများကိုပင် ကြားနေရသည်။ ကြောက်စိတ်တွေကြောင့် ထင်သည် တဆတ်ဆတ် တုန်နေသည်။ လူခါးလည်း ပြေးလာသူထဲမှ တစ်ယောက်ကို လှမ်းမေးလိုက်သည်။

“သူတို့က ရွာထဲကနေ သေနတ်တွေနဲ့ လှမ်းပစ်တယ်။ ကျနော်တို့ထဲက ကျဆုံးသူတွေရှိတယ်။ ကျနော် ကိုယ်တိုင်မြင်ခဲ့တယ်”

“ခင်ဗျားတို့ ရှေ့က ဘာသွားလုပ်တာလဲ”

“ကျနော်တို့က ကျေးတောရွာကပါ၊ မနက်က ပျောက်ဆုံးသွားတဲ့ ကောင်မလေးကိစ္စကို သွားမေးကြည့်တာ။ သူတို့ရွာနဲ့ ကျနော်တို့ရွာနဲ့က ဘာပြဿနာမှမရှိဘူး။ အေးအေးဆေးဆေးနေထိုင်လာကြတာ” လို့ ကြောက်ကြောက်လန့်လန့် တုန်တုန်ရီရီဖြင့် ပြောပြသည်။ မနက်က ပျောက်ဆုံးသွားတဲ့ ကောင်မလေးကိစ္စကို ဗျိုင်းဖြူရွာနှင့် ကျေးတောရွာမှ



လူကြီးပိုင်းများက ဦးဆောင်ပြီး အခြေအနေကို သွားရောက် မေးမြန်းခဲ့ခြင်းဖြစ်သည်။ ဒီပြဿနာ မဖြစ်ခင်ထိ သံထော်လီဘင်္ဂလီကုလားများသည် စစ်တွေမြို့သို့ သွားလျှင် ဗျိုင်းဖြူရွာထဲမှ ဖြတ်ပြီးသွားခဲ့ရသည်။ နှစ်ရွာတစ်ရွာလိုမျိုးနေထိုင်ခဲ့ကြသည်။ ယခုကား အခြေအနေမှာ မည်သည့်ပယောဂမှန်းမသိ ရုတ်ချည်းပြောင်းသွားသည်ကား အမှန်ပင်။ နောက်လာသူတစ်ယောက်က

“ကျနော်တို့ရွာက ကျေးရွာရဲ့ ဂုဏ်သရေရှိ လူကြီးကိုယ်တိုင် ဦးဆောင်သွားတာပါ။ အခု အဲဒီလူကြီးက နောက်မှာ ကျန်ခဲ့တယ်။ အဲဒီလူကြီးကို သူတို့ သတ်လိုက်ကြပြီထင်တယ်”လို့ ဖြည့်ပြောသည်။

“ဒါဆိုရင် လူစစ်ကြည့်ပါအုံး။ လူစစ် လူစစ်” ဆိုပြီး တစ်ယောက်မှ ဝင်ပြောသည်။ ထွက်ပြေးလာကြသူများသည် အားလုံး အနီးပတ်ဝန်းကျင်ရွာမှ ဖြစ်သောကြောင့် အချင်းချင်း စစ်ကြည့်လိုက်ကြသည်။ ရပ်ရွာလူကြီး ဦးကျော်သိန်း၊ ဦမောင်သိန်းရွှေ၊ ဦးမြသာထွန်းတို့ကို မတွေ့ရတော့ပေ။ နောက် တစ်ခေါက် ရေကြည့်သည့် ဒီသုံးယောက် လျော့နေသည်။ ဒီသုံးယောက် ကျဆုံးလေသည်မှာ သေချာနေပြီ။

“ဦးကျော်သိန်းက ကျနော့်နောက်က ကပ်ပြီးတော့ ပြေးလာသေးတယ်ဗျာ”ဆိုပြီး တစ်ယောက်မှ ဝင်ပြောသည်။ ဝင်ပြောသည့် လူမှာ ပေါင်ပေါ်မှ သွေးများ စီးကျလာသည်။ နောက် တစ်ယောက်က

“ခင်ဗျားမှာ သွေးတွေ ထွက်လာတယ်။ ကြည့်ပါအုံး”ဆိုလိုက်မှ ထိုလူကြည့်လိုက်ရာ ဒဏ်ရာရသည်ကို ယခုမှ သိပုံရသည်။ ထိုလူလည်း သွေးပူတုန်း ဘာမှ သိပုံမရ။ ထိုလူကို ဆေးရုံသို့ ပို့ဖို့လုပ်ကြသည်။ တချို့တစ်ဝက် လူများက သံထော်လီ ဘင်္ဂလီကုလားရွာနားထိ သွားရောက်ကြည့်ရှုကြရာ လူတစ်ယောက် အလောင်းကို ရလာသည်။ လူခါးလည်း သူတို့နှစ်ဦးကို ကြည့်လိုက်သောအခါ ရွှံ့အိုင်ကြား လဲကျထားသည်ကတစ်ကြောင်း၊ သွေးများ အလိပ်လိပ် ပေကျံနေသောကြောင်း လူရုပ်ကိုတောင် ခန့်မှန်းရခက်သွားသည်။

“ဒါဆိုရင် ကျနော် မြင်ခဲ့တာ ဟုတ်ပါပြီ။ နောက်က နှစ်ယောက်ကို

လူအုပ်က ဖမ်းချုပ်တာကို ကျနော်မြင်ခဲ့တယ်။ ဒါပေမယ့် ကျနော်တို့ လူတွေလို့ ကျနော် မထင်ထားမိဘူး”လို့ ပြောသည်။ ဤအတိုင်းဆိုလျှင် ကျန်လူနှစ်ယောက်ကို ဘင်္ဂလီကုလားတို့မှ ဖမ်းထားလိုက်ပြီဖြစ်သည်။ ဤစကားကို ကြားသည်နှင့် လူအုပ်သည် လုံးဝ မကျေနပ်တော့ဘဲ ဒေါသမီးများ တဟုန်းဟုန်း တောက်လောင်လာသည်။

“နောက်နှစ်ယောက် အလောင်းကျန်သေးတယ်။ ကျနော်သွားတောင်းမယ်”ဆိုပြီး နာကြည်းစိတ်တို့ဖြင့် လူငယ်တစ်ဦးမှ ရှေ့က ထွက်သွားသည်။ သူ့နောက်သို့ လူတစ်အုပ်လိုက်သွားသည်။ ဒီပြင် ကွင်းပြင်တွင် ရပ်နေသမျှ လူများ အားလုံးလိုက်လာကြသည်။ လူခါးလည်း ရပ်ကြည့်မနေတော့ဘဲ နောက်က လိုက်လာလိုက်သည်။

ထိုလူငယ်အုပ်စုမှ ဦးဆောင်ပြီး

“ကျုပ်တို့ လူကို ပေးပါ”လို့ ပါးစပ်က အော်ပြီး ရွာနားသို့ ကပ်လိုက်သည်။ လူခါးတို့အုပ်စု ရွာထဲကို မဝင်ခင်ကတည်းက ရွာအဝင်ဝတွင်ရှိသော အိမ်များကို သူတို့ မီးရှို့ထားခဲ့ပြီ။ ရွာအဝင်လမ်းများကိုလည်း သစ်သားထင်း၊ အုန်းလက်ဆိုး၊ အမှိုက်ဆိုးတို့ဖြင့် မီးရှို့ထားသည်။ ရွာလမ်းတစ်လျှောက်တွင်လည်း ပုလင်းကွဲများကို ခင်းထားသည်။ လူခါးတို့ ရောက်သွားချိန်တွင် အိမ်များ အတော်အသင့် မီးထဲကို ပါသွားပြီ။ ထိုလူငယ်အုပ်စုမှ အတင်းရွာထဲကို တိုးဝင်သွားသည်။ သေမှာမကြောက်တော့သည့် ဤလူများကို မြင်သောအခါ ဘင်္ဂလီကုလားတို့သည် ထွက်ပြေးကြသည်။

ရွာထဲဘက်မှ လော်စပီကာများမှ “မာ. . မာရေ၊ ရှက်သစ်(ဉ်) ရှင်လဟွမ်း”(အဓိပ္ပာယ်က- သတ်၊ သူတို့ဘာသာကလွဲပြီး ကျန်ဘာသာဝင်များကိုသတ်)လို့ အော်သည်။ တခြား နားမလည်သော ဘင်္ဂလီစကားများဖြင့် အော်ပြောသည်။ သို့သော် လူငယ်တို့ကား မမှု၊ အတင်းဝင်သည်။ နောက် သေနတ်ပစ်သံများကို ကြားရသည်။ တစ်ရွာလုံး ဆူနေသည်။ ဘင်္ဂလီကုလားတို့ဘက်မှ အမျိုးသမီးများနှင့် ကလေးများကိုကား မတွေ့ရ။ လူကြီးလူသန်များဖြင့် ရင်ဆိုင်ခံကြသည်။ ရင်ဆိုင်နိုင်



လောက်သည့် အင်အားလည်း ရှိသည်။ စစ်တွေမြို့ထဲမှ တချို့သော ဘင်္ဂလီကုလားတို့သည် သံထော်လီကျေးရွာဘက်ကို ရောက်ရှိနေသည်ဟု သတင်းအစအနကို ဒေသခံများ ပြောကြားချက်အရ သိထားသည်။ ဘင်္ဂလီကုလားတို့မှ လေးဂွ၊ ဂျင်ကလိတို့ဖြင့် ပစ်ခတ်သည်။ အနီးကပ်ဖြစ်လာလျှင် လှံချွန်တို့ဖြင့် ထိုး၍ ပြေးသည်။ ရခိုင်တို့ဘက်မှလည်း လေးဂွများဖြင့် ပစ်ခတ်သည်။ အနီးကပ်ဆိုလျှင် ဓားများကို အသုံးပြုသည်။ သို့သော်ကား ရင်ဆိုင်အနေအထားထက် လေးဂွ၊ ဂျင်ကလိတို့ကို အဓိက သုံးကြသည်။ ခဏနေလျှင် လုံခြုံရေးကား (၅)စီးဝင်ရောက်လာသည်။ အခြေအနေကို သေနတ်များ ပစ်ဖောက်ပြီး ထိန်းသိမ်းလိုက်သည်။ သေနတ်များကို မပြတ်တမ်း ပစ်ဖောက်သည်။ ရခိုင်များကို ရွာထဲက ထွက်ဖို့ပြောသည်။ အော်သံများဖြင့် အော်ပြောသည်။

“ရခိုင်တွေ အခုချက်ချင်းရွာထဲက ထွက်ပါ”လို့ အော်ပြောသည်။ သို့သော် တိုက်ပွဲကား နောက်ဆုတ်၍ ပြန်လောက်အောင် နောက်ခိုင်း၍ မရပေ။ ရန်သူများမှာ လစ်ရင် လစ်သလို ဝင်တိုက်သည်။ ခဏနေလျှင် လုံခြုံရေးက အပြင်းအထန် ကိုင်တွယ်သည်။ လူခါးတို့အပါအဝင် ရခိုင်များသည် နောက်ဆုတ်လာခဲ့ကြသည်။ ရွာအစပ်တွင် လူများ ပြန်စုလိုက်ပြီး အခြေအနေကို ကြည့်လိုက်သည်။ သို့သော်ကား ဒီတိုက်ပွဲသည် အကျအဆုံးများသည့် တိုက်ပွဲတစ်ရပ်ဖြစ်ပြီး ရခိုင်တို့အတွက် များစွာ အထိနာခဲ့သည်။ သွေးရဲရဲသံရဲရဲဖြင့် ဒဏ်ရာရသူများပင် လူခါးဘေးပတ်ပတ်လည် မနည်း။

ဘင်္ဂလီကုလားတို့မှ တချို့တစ်ဝက်သည် စက်လှေများဖြင့် ပင်လယ်ဘက်သို့ ထွက်ပြေးကြသည်။ ဘင်္ဂလီကုလားတို့သည် ရခိုင်ပြည်တွင် နေထိုင်စဉ်ကတည်း ရေလုပ်ငန်းကို အဓိက လုပ်ကိုင်စားသောက်ကြပြီး ရေကြောင်းကျွမ်းကျင်ကြသည်။ စက်လှေ၊ သမ္ဗာန်၊ လှေတို့မှာ အိမ်တိုင်းလိုလိုရှိကြသည်။ ထို့ကြောင့် တချို့တစ်ဝက်အိမ်များကို မီးရှို့ပြီး ထွက်ပြေးကြခြင်းဖြစ်သည်။

ကွင်းပြင်ဘေးနားတွင် လူစုံလောက်သည့် အချိန်၌ လူများ စစ်

ကြည့်ကြသည်။ ဒဏ်ရာရသူများကို ဆေးရုံသို့ ပို့ဖို့လုပ်ကြသည်။

"ဒီအတိုင်း စစ်ကြည့်ရင် သိမှာမဟုတ်ဘူး။ ကိုယ့်လူကို ကိုယ်စစ်ကြည့်ကြပါ။ မပါလျှင် ပြောပါ" ဆိုပြီး လူကြီးတစ်ဦးမှ သတိပေးသည်။ လူများသည် ကိုယ့်လူများကို ပါမပါ စစ်ကြည့်ကြသည်။ နောက်ဆုံးတွင် ကျန်ခဲ့သူများ စာရင်းထွက်လာသည်။

၁။ ဦးကျော်သိန်း
၂။ ဦးမြသာထွန်း
၃။ ဦးဇော်တင်ဦး
၄။ အောင်စံသိန်း
၅။ မောင်သိန်းရွှေ

အားလုံး ငါးယောက်ကျဆုံးခဲ့သည်။ အလောင်းများကို တချို့မရသေး။ လုံခြုံရေးများကို ထိုလူကြီးမှ ဦးဆောင်ပြီး အကူအညီတောင်းသည်။ လုံခြုံရေးများက အလောင်းများကို ယူဆောင်လာခဲ့သည်။ လုံခြုံရေးများ ယူဆောင်လာကြသောအခါ ဘင်္ဂလီကုလား အလောင်း(၂)လောင်းပင် ပါဝင်လာသည်။

စိတ်ပျက်စရာကောင်းသော အနိဋ္ဌာရုံတို့သည် စိတ်မကောင်းစွာပင် မြင်တွေ့နေရသည်။ သို့သော် စိတ်မကောင်းခြင်းထက်ပိုဆိုးသည်။ သေဆုံးသူမိသားစုများနှင့် ကျန်ရစ်ခဲ့သောမိသားစုတို့အတွက်ကား ရင်နာကြေကွဲစရာဖြစ်သည်။ သံထော်လီကျေးရွာတွင်လည်း ဆက်လက်မီးလောင်ကျွမ်းဆဲဖြစ်သလို မီးခိုးမီးလျှံများမှာ မြို့ထဲဖက်တွင်လည်း မြင်နေရသည်။ သတင်းများအရ မြို့ထဲရှိ ဓညဝတီရပ်ကွက်တွင် မီးလောင်နေသည်ဟု သိရှိရသည်။ ဓညဝတီရပ်ကွက်တွင် ရခိုင်များနှင့် မရမာများ နေထိုင်ကြပြီး ယခုမီးလောင်မှုမှာ မရမာ(ဗုဒ္ဓဘာသာကိုးကွယ်သည့် မရမာလူမျိုးများ)နေသည့် ရပ်ကွက်တွင် မီးလောင်နေသည်ဟု သတင်းထောက်များမှ ပြောပြ၍ သိရှိခဲ့ရသည်။

ယခု လုံခြုံရေးများနှင့်အတူ သတင်းထောက်များလည်း ပါလာခဲ့ကြသည်။ သူတို့မှ ဓာတ်ပုံမှတ်တမ်းများ၊ ဗွီဒီယိုမှတ်တမ်းများနှင့် တချို့



သူများကို အင်တာဗျူးနေကြသည်။ လုံခြုံရေး တာဝန်ထမ်းဆောင်နေသည့် ရဲမှူးကြီးလှမိုးက

"ဒီဖြစ်စဉ်က ရှင်းရှင်းလေးရယ်နဲ့ အခက်တွေ့နေတာပါ။ ပြည်နယ်အတွင်းမှာက ဟိုဘက်လုပ်လိုက်၊ ဒီဖက်ကလုပ်လိုက် သတင်းတွေ မကြာခဏကြားရတယ်၊ အချို့သတင်းတွေက မမှန်ကန်ဘူး၊ အခုဖြစ်စဉ်ဆိုရင်လည်း ရခိုင်အမျိုးသမီးတစ်ယောက်ကို အဲဒီသံထော်လီကျေးရွာက လူမျိုးခြားတွေ ဖမ်းခေါ်သွားတယ်ဆိုတဲ့ သတင်းကြောင့် မခံနိုင်တဲ့ ရခိုင်လူမျိုးတွေက တဖြည်းဖြည်းများလာပြီး အဲဒီဖမ်းခေါ်သွားတယ်ဆိုတဲ့ လူမျိုးခြားကျေးရွာထဲကို ဝင်ပြီးတော့ နှစ်ဖက်ခိုက်ရန် ဖြစ်ပွားခဲ့တာဖြစ်ပါတယ်။ ရခိုင်လူမျိုးတွေက မွန်းလွဲပိုင်းလောက်မှာ အဲဒီကျေးရွာ ပတ်ဝန်းကျင်မှာ တဖြည်းဖြည်း များလာတဲ့အချိန်မှာပဲ ရဲကင်းက တာဝန်ရှိသူတွေက လူစုခွဲဖို့အတွက် မိုးပေါ်ထောင်ပြီး သေနတ်ပစ်ခဲ့တယ်။ အဲဒါကို သံထော်လီကျေးရွာထဲက လူမျိုးခြားတွေက ပစ်တယ်လို့ထင်ပြီးတော့ ပိုပြီး စိတ်မထိန်းနိုင်တော့ဘဲ အခုလိုဖြစ်ခဲ့တာပါ"

"ခုဆိုရင် တပ်မ(၂၁၀)က တပ်ခွဲတစ်ခွဲ လုံခြုံရေးယူထားတယ်။ ဘာမှ စိုးရိမ်စရာမရှိတော့ဘူး။ ဒါပေမယ့် ကျနော်ပြောချင်တာက နာကျည်းတဲ့စိတ်တွေကို ရှေ့မထွက်ဘဲ နေဖို့လိုတယ်။ တာဝန်ရှိတဲ့ နိုင်ငံတော်အစိုးရက ဥပဒေအရ အရေးယူပေးသွားမှာပါ" ဟု ရှင်းလင်းပြောကြားခဲ့သည်။

သတင်းထောက်တစ်ဦးက အနီးအနားလူတစ်ဦးကို လှမ်းမေးနေသည်။ ထိုသူက

"စစ်တွေမြို့ထဲမှာသာ ဘင်္ဂါလီက အင်အားက နည်းတယ်။ အင်ဘာလာအုပ်စု၊ နာဇီအုပ်စု၊ ဘုမေ အုပ်စုကတော့ ဘင်္ဂါလီတွေ များတယ်။ ဒါတွေက စစ်တွေမြို့နဲ့ နီးတယ်။ သူတို့က မြို့ကို ပတ်ဝိုင်းပြီး နေတဲ့ သဘောရှိတယ်။ မြို့တွင်းမှာ နေတဲ့ ဘင်္ဂါလီတွေကတော့ သူတို့ရဲ့ နေအိမ်တွေကို စွန့်သွားပါပြီ။ ဒီရက်ပိုင်းမှာဖြစ်နေတာက စစ်တွေမြို့ ပတ်လည်မှာ ဝိုင်းနေတဲ့ ဘင်္ဂါလီအုပ်စုတွေက အလှည့်ကျ ထကြွနေတဲ့

သဘောရှိတယ်။ လုံခြုံရေးက တစ်ဖက်မှာ အားစိုက်နေရင် ကျန်တဲ့ တစ်ဖက် ထကြွတဲ့သဘောဖြစ်နေတယ်။ လုံခြုံရေးအင်အားကလည်း တစ်မြို့လုံး အတိုင်းအတာအရ လုံလောက်မှု မရှိသေးဘူး။ အဲဒီတော့ စစ်တွေဒေသခံတွေကပဲ ကိုယ့်လက်နက် ကိုယ်ရှာပြီး ကာကွယ်နေရတဲ့ သဘောရှိနေတယ်။ စစ်တွေ မြို့ပြင် ကမ်းနားပတ်လည် တစ်ကြောမှာ လည်း ဘင်္ဂါလီရွာတွေ များတယ်။ သူတို့တွေနဲ့ နီးနေတဲ့ ဥပမာ-ဗျိုင်းဖြူ ရွာလို ရွာမျိုးဆိုရင် စိုးရိမ်ရတဲ့ အခြေအနေရှိတယ်။ လုံခြုံရေးကလည်း အဲဒီအထိ မရောက်သေးဘူး။ ထင်ထားတဲ့ အတိုင်းပဲ ဒီနေ့မှာတော့ ဗျိုင်းဖြူရွာနားက သံထော်လီ ဘင်္ဂါလီအုပ်စုက ထကြွတယ်။ လုံခြုံရေးက တော်တော်လေး နောက်ကျပြီးမှ ရောက်တယ်" ဟု ပြောသံကို ကြား လိုက်ရသည်။

နောက်တစ်ဦးက

"ကျနော်ထင်တာကတော့ စစ်တွေမှာ ရှိနေတဲ့ ဘင်္ဂါလီတွေက သူတို့ စခဲ့တဲ့ ဇာတ်လမ်းမှာပဲ သူတို့ ထွက်ပေါက် ပိတ်နေတယ်။ သူတို့က ရခိုင်တိုင်းရင်းသားတွေ အိမ်ကို မီးစရှို့၊ ရခိုင်တွေကို စပြီး ရန်စတယ်။ ဒီမတိုင်ခင် အချိန်က သူလည်း သူ့ဟာသူနေ၊ ကိုယ်လည်း ကိုယ့်ဖာသာ နေ နေတဲ့အချိန်မှာကတည်းက သူတို့ဘက်က ရန်စမှုတွေ ရှိခဲ့တယ်။ အခုတော့ သူတို့က ရခိုင်တိုင်းရင်းသားတွေ နေတဲ့ နေရာကို မီးရှို့တော့ ဒီဘက်က လုံခြုံရေးအရ ကာကွယ်ရတာတွေ ရှိလာတယ်။ ဒီအခါမှာ ရခိုင်တိုင်းရင်းသားတွေလည်း ဘာအလုပ်မှ မလုပ်နိုင်ပဲ သူတို့ရန်ကို ကာကွယ်နေရတယ်။ သူတို့လည်း ရွာပြင် ထွက်လို့ မရနိုင်ဘူး ဖြစ်တယ်။ ဒီအခါမှာ ရခိုင်တိုင်းရင်းသား အိမ်တွေနဲ့နီးတဲ့ သူတို့အိမ်တွေကို ကိုယ်တိုင် မီးပြန်ရှို့တယ်။ နောက်တော့ ရခိုင်အိမ်တွေကို မီးကူးအောင်လုပ်တယ်။ ရခိုင်တွေက မီးဝိုင်းသတ်တဲ့အချိန်မှာ ထွက်ပြေးမယ်ဆိုတဲ့ အကြံနဲ့ လုပ်ပုံရတယ်။ အခု ဖြစ်နေတာတွေကို ကြည့်ရင် ဒီလို ပြေးနိုင်ဖို့ အကွက်ချ လုပ်နေတယ်လို့ မြင်တယ်"ဟု ပြောသည်။

လူခါးအနီးမှ နောက်တစ်ဦးကလည်း



"စစ်တွေက ဘင်္ဂါလီတွေရဲ့ ဒီလုပ်ရပ်တွေက ဘယ်လိုရည်ရွယ်ချက်နဲ့ ဘာကို လိုချင်လို့ ဒီလိုလုပ်နေသလဲဆိုတာ အခုထိ စဉ်းစားလို့ မရသေးဘူး။ သူတို့ဘက်က အေးအေးချမ်းချမ်းနေရင် ကျနော်တို့ ကလည်း အေးအေးချမ်းချမ်းပဲ ဆက်ဆံမှာပါ။ အခုတော့ သူတို့လည်း ချောင်ပိတ်နေတယ်။ ကျနော်တို့လည်း အလုပ်ပျက်၊ အကိုင်ပျက်နဲ့ ရရာလက်နက်ကိုင်စွဲပြီး ကိုယ့်နေရပ် ကိုယ့်လုံခြုံရေး ကိုယ်လုပ်နေရတယ်။ ဒီအတိုင်းဆက်သွားနေရင် သူတို့လည်း ရိက္ခာပြတ်တော့မယ်။ ကျနော်တို့ ဘက်မှာလည်း အခက်အခဲ ရှိလာနိုင်တယ်။ အခုတောင် ကယ်ဆယ်ရေးစခန်းတွေမှာ ရိက္ခာမလုံလောက်မှုတွေနဲ့ ရင်ဆိုင်နေရတယ်။ ဘာလို့ များ ပြဿနာတွေ ဖြစ်စေနိုင်မယ့် ဖန်တီးမှုတွေကို ဘင်္ဂလီတွေ လုပ်နေကြ တာလဲ" ဟု ပြောသည်။

လူခါးကိုလည်း လာဗျူးသည်။

"အစ်ကိုက ဘယ်လိုများမြင်ပါသလဲ"

"ပြဿနာက သူတို့က စတင်တယ်။ ပထမပိုင်းမှာ ရခိုင်တွေက ငြိမ်ပြီးတော့ သည်းခံတယ်။ တဖြည်းဖြည်း ဒီဘင်္ဂလီတွေက အတင့်ရဲ လာတယ်။ သူတို့က သူတို့နဲ့ နီးစပ်တဲ့ ရခိုင်အိမ်တွေကို လာမီးရှို့တယ်။ ရခိုင်တွေက ဒီထက်ပိုပြီး သည်းမခံကြတော့ ခုလို ပြန်လုပ်ခြင်းဖြစ်လိမ့် မယ်လို့ ထင်ပါတယ်။ ဒီပြဿနာ ဒီလောက်နဲ့ ပြီးစေချင်ပါတယ်။ သူတို့ဘက်လည်း ထိန်းသိမ်းသင့်ပါပြီ။ ကျနော်တို့ဘက်ကလည်း ထိန်းသိမ်းနိုင်အောင် ကြိုးစားပေးပါမယ်။ ဘက်နှစ်ဘက်မှာ တစ်ဘက် တည်း ထိန်းရုံနဲ့မရပါ။ နှစ်ဘက်လုံး ထိန်းမှ အမြန်ငြိမ်းချမ်းသွားမှာပါ"ဟု ထင်မြင်ချက်ကို ပြောပြလိုက်သည်။ သူလည်း အသံဖမ်းစက်ဖြင့် အသံဖမ်းသွားသည်။ မှတ်စရာများကို မှတ်တမ်းတင်သွားသည်။

အချိန်ကား တဖြည်းဖြည်းဖြင့် ညနေစောင်းလာသည်။ သေဆုံးသူအလောင်းများကို ကားများဖြင့် လာကြိုကြသည်။ ဘေးနားတွင် မျက်ရည်ကျသူ၊ ငိုသူတို့ဖြင့် မသာယာ မလှပသော ညနေဆည်းဆာ နဲ့အတူ အိမ်ပြန်လာခဲ့ကြတော့သည်။ ဒီနေ့တော့ မနက်စာ တစ်နပ်

လွတ်သွားလေပြီ။ အော်- ရခိုင်သမိုင်းကို သွေးဖြင့် ရေးခဲ့ရလေပြီ။ ရခိုင့်မြေမှာ သွေးချောင်းစီးလေပြီ။

မနေ့ညတုန်းကလည်း ဘင်္ဂါလီကုလားတို့သည် မီးသတ်ဝတ်စုံ၊ ဌာနဆိုင်ရာ ဝတ်စုံများ ဝတ်ပြီး မြို့ထဲသို့ ဝင်ရောက်ခဲ့သည်ဟု ပြောကြသည်။ ထို့အပြင် မြစ်ကမ်းခြေဖက်မှ စက်လှေများဖြင့် ဘင်္ဂါလီကုလားများမြို့ထဲသို့ ဝင်ရောက်ဖို့ ကြိုးစားခဲ့သည်ဟုလည်း မြစ်ကမ်းနားစပ်နေသူများက ပြောပြကြသည်။ လူခါးကား ဤသည်တို့ကို မသိရှိခဲ့။ ပင်ပန်းနွမ်းနယ်မှုကြောင့် တစ်ညတာကို ကောင်းကောင်း အိပ်စက်ခဲ့ရသည် မဟုတ်လား။ ဒီနေ့ညတော့ ကင်းစောင့်ရအုံးမည်။ လုံခြုံရေးများ ဘယ်လောက်ပင် လုံခြုံရေး ကင်းချထားပါစေ ကိုယ့်ရပ်ကွက်၊ ကိုယ့်ဒေသလုံခြုံဖို့အရေးက မိမိတို့အရေးဖြစ်သည်။

ထိုနည်းတူစွာ တစ်ခုခု ထူးခြားလာလျှင် သိရှိရအောင် ဖုန်းများကိုလည်း အဆင်သင့် ဘက်ထရီဖြည့်ထားရသည်။ ဓာတ်မီးများကိုလည်း အဆင်သင့် လုပ်ထားရအုံးမည်။ မီးမရသော နေရာများသို့ လျှပ်စစ်ကြိုးသွယ်တန်းပြီး မီးချောင်းများ ဆင်ရအုံးမည်။ အထူးသဖြင့် မြစ်ကမ်းခြေဖက်ကို အဆက်အသွယ်ရအောင် အထူးသတိထားရမည်မဟုတ်လား။ လူခါးတို့ အိမ်ပြန်လာချိန်တွင် မြစ်ကမ်းခြေတစ်လျှောက် ကိုယ်ပိုင်မီးစက်များဖြင့် ဆလိုက်မီးလုံးကြီးများ၊ အဝေးထိုး မီးလုံးများ ဆင်နေကြသည်ကိုလည်း တွေ့ရှိခဲ့ရသည်။ စစ်တွေမြို့သည် ဘင်္ဂလားပင်လယ်အော်နှင့် ဂစ္ဆပနဒီမြစ်ကို မေးတင်ပြီး တည်ဆောက်ထားသောမြို့ဖြစ်သောကြောင့် ရေပြင်ဖက်မှ ဝင်ရောက်မည်ဆိုလျှင် အလွယ်တကူဖြစ်သည်။ သို့သော် မြစ်ပြင်တွင် တပ်မတော်ရေမှ လုံခြုံရေးယူထားသည်ကိုလည်း တွေ့ရှိခဲ့ရသည်။

*×*×*

## (၂၅)

လူခါးသည် ညနေစာစားပြီး ကင်းရုံသို့ သွားခဲ့သည်။ ကင်းရုံပေါ်တွင် ရပ်ကွက်သားမှ တချို့ရောက်ရှိနေပြီ။ ခါတိုင်းလောက်တော့ လူကမစုံသေး။ အချိန်ကလည်း စောနေသေးသည် မဟုတ်လား။ ခဏနေလျှင် လုံခြုံရေးများက ကင်းမစောင့်ရန် လာရောက်ဟန့်တားခဲ့သည်။

"ခင်ဗျားတို့ ကင်းစောင့်စရာမလိုဘူး။ အထက်က ညွှန်ကြားထားတယ်။ လူတွေကို အပြင်မှာ တစ်ယောက်မှ မတွေ့စေနဲ့လို့ မှာထားတဲ့အတွက် ခင်ဗျားတို့ပြန်ကြပါ။ လုံခြုံရေးကို ကျနော်တို့ တာဝန်ယူပါတယ်" လို့ လာပြောသည်။ လူခါးတို့လည်း ပေကပ်ကပ်ဖြင့် နေကြည့်သေးသည်။ နောက်ထပ် လာပြောသည်။ ဒီလောက်ဆိုရင်တော့ အခြေအနေ မကောင်းကြောင်း သတိထားမိလာသည်။ ဒါကြောင့် အိမ်ပြန်လာခဲ့သည်။ အခြေအနေများကို စိတ်မချသောကြောင့် အိမ်ပေါ် ဝရန်တာတွင် ထိုင်ပြီး တစ်ယောက်တည်း ကင်းစောင့်နေလေသည်။ ဘေးနားတွင် ဓားတစ်လက်၊ လေးခွနှင့် လှံရှည်တစ်ချောင်းတို့ကို အဆင်သင့်ချထားသည်။ ဓာတ်မီး

ကတော့ လက်ထဲတွင် အဆင်သင့်ကိုင်ထားရသည်။ ယနေ့ တစ်ရက် မနေ့က တစ်ရက် ဘင်္ဂလီကုလားများသည် ပင်လယ်ပြင်ဘက်ကို စက်လှေများဖြင့်ထွက် ပြေးကြသည်မဟုတ်လား။ အိမ်က မြို့ထဲ လုံခြုံသည့်နေရာတွင် ရှိသည်ထားဦး ပင်လယ်ကမ်းခြေဖက်က တက်လာလျှင် မလွတ်သာ။ နောက် တစ်ချက်က မနေ့ကတည်းက သတင်းတွေအရ ဘင်္ဂလီကုလားများသည် မီးသတ်ဝတ်စုံများ၊ တခြားဌာနဆိုင်ရာ ဝတ်စုံများကို ဝတ်ပြီး မြို့ထဲသို့ ဝင်လာခဲ့သည့်အတွက် (၃)ယောက်ကို ဖမ်းဆီးရမိသည်ဟု ကြားမိသေးသည်။

လူခါးလိုပင် ဘေးပတ်ဝန်းကျင်အိမ်များမှ လူများသည်လည်း ကိုယ်ထူကိုယ်ထဖြင့် ကင်းစောင့်နေကြသည်။ ညဦးပိုင်းအချိန်သာ ရှိနေသေးသောကြောင့် လူခါးမိန်းမမှ လက်ဖက်သုပ် သုပ်ပေးရင်း အဖော်လုပ်ပေးသည်။ စကားများ ပြောကြသည်။ လူခါးက တစ်ခါတလေတွင် အတွေးကြောင်တတ်သည်။ ယခုလည်း လက်ဖက်သုပ်ကောင်းကောင်းစားရဖို့အတွက် မိန်းမကို ပြောပြနေမိသည်။ ပြောပြနေသည်ဆိုတာထက် အချိန်ဖြုန်းဖို့ ကြိုးစားနေခြင်းဖြစ်သည်။

"တောင်ပေါ်ဒေသဖြစ်တဲ့ ရှမ်းပြည်နယ်က လာတဲ့ ဒီလက်ဖက်၊ ဗမာပြည်အလယ်ပိုင်း မြေပြန့်ဒေသကလာတဲ့ ပဲဆီစစ်စစ်ကို ပေါင်းမယ်၊ ဒီထက်ကောင်းအောင် ပင်လယ်ကမ်းခြေဖက်ဖြစ်တဲ့ ကိုယ်တို့ ရခိုင်ပြည်က ထွက်တဲ့ ပုစွန်ခြောက်နဲ့ပေါင်းလိုက်မှ လက်ဖက်သုပ်ဆိုတာ ပိုမပြည့်စုံဘူးလား။ အဲဒီလိုပေါင်းစပ်လိုက်တာကမှ လက်ဖက်သုပ်ကောင်းသွားသလိုမျိုး၊ ဒီလိုပေါင်းဖက်ထားတာကို ပြည်ထောင်စုလို့ ခေါ်တယ် မိန်းမရယ်"လို့ မဆီမဆိုင် လက်ဖက်သုပ်ကို နိမိတ်ပုံဖတ်နေသည်။ ကိုယ်သိသလောက် မှတ်သလောက်များကို တောပြောတောင်ပြောရင်း ည၌ တစ်ည၌ကို ဖြတ်သန်းဖို့ ကြိုးစားနေရသည်။ ည၌ (၁၁)နာရီလောက်တွင် မိန်းမသည် အိပ်ဖို့အတွက် အိပ်ခန်းကို ဝင်သွားသည်။ အမေကတော့ သူ့မြေးလေးနဲ့ စောစောစီးစီး အိပ်နေပြီ။ ဒီထက် ပျင်းလာပြီဆိုလျှင် ကိုကြီးသိန်း၊ ဆရာသိန်း၊ ကိုကြီးထွန်း၊ ကောင်းဖေ၊ ဇော်ထွန်းနဲ့ တခြား



လူများကို ဖုန်းလှမ်းဆက်နေမိသည်။ သူတို့လည်း ကိုယ့်လိုဘဲ ထင်ပါသည်။ တစ်ခုခု အကြောင်းရှာပြီး ဖုန်းဆက်နေကြသည်။

တစ်ချက် တစ်ချက် ခွေးအ အူသံများကို ကြားရသည်။ ရဲစခန်းဆီမှ သံချောင်း (၂)ချက်ခေါက်သံကို ကြားရသည်။ အော် နံနက်ပိုင်း (၂)နာရီတောင် ထိုးနေပြီးကိုး။ လူက လုံးဝ မအိပ်ချင်၊ ရောက်တတ်ရာရာ တွေးနေမိသည်။ တစ်ယောက်တည်းနေသောအခါ စိတ် အစဉ်သည် ခါတိုင်းထက် ပျံလွင့်လွယ်သည်။ တစ်ချက်တွင် မိသားစုရွှေ့ရေးကို တွေးမျှော်ကြည့်မိသည်။ တကယ်လို့ အခုအခြေအနေပုံစံမျိုးနဲ့ ရခိုင်တွေဘက်က ကျဆုံးခဲ့ရင် ရခိုင်တစ်မျိုးသားလုံးရွှေ့ရေးက မတွေးဝံ့စရာဖြစ်သည်။ လူခါးလည်း အဖြစ်အပျက်များကို စဉ်စားနေမိခဲ့သည်။ မြို့ထဲဖက်မှာတော့ သေနတ်ပစ်သံ တစ်ချက်တစ်ချက်ကြားရသည်။

ဘင်္ဂလီကုလားတော့ကတော့ ကြိုတင်အကွက်ချသလို တစ်ခုပြီး တစ်ခု လှုပ်ရှားလာကြသည်။ လူခါး သတိထားမိသလောက် ၂၀၁၀ ခုနှစ် မြန်မာ နိုင်ငံ အသွင်းကူးပြောင်းကာလမှာ ပိုဆိုးလာသည်ထင်သည်။

၁၉၅၁ ခုနှစ်တွင် ဇွန်လတွင် မောင်တောမြို့နယ်၊ အလယ်သံကျော် ကျေးရွာ၊ မူလတန်းကျောင်းတွင် မူဆလင်များအဖွဲ့စုံဖြင့် ညီလာခံ တစ်ရပ်ကို ကျင်းပခဲ့သည်။ ထိုညီလာခံတွင် အချက် (၁၄)ချက်ကို တောင်းဆိုချမှတ်ခဲ့သည်။ အချို့အဓိကကျသည့် အချက်များမှာ-

- ရခိုင်ပြည်နယ်မြောက်ပိုင်းကို မွတ်ဆလင်ပြည်နယ်အဖြစ်သတ်မှတ်ရန်။ ယင်းပြည်နယ်တွင် ပြည်ထောင်စုအစိုးရကွပ်ကဲမှုဖြင့် ပြည်နယ်စစ်တပ်၊ ပြည်နယ်ရဲတပ်ဖွဲ့၊ ပြည်နယ်လုံခြုံရေးအဖွဲ့များ ထားရှိရန်။
- စစ်တွေမြို့ကို ရခိုင်ပြည်နယ်မြောက်ပိုင်းမြို့တော်အဖြစ် သတ်မှတ်ပေးရန်။ မြို့တော်ဝန်နှင့် တိုင်းမင်းကြီးကို မွတ်ဆလင်လူမျိုးထဲမှ ခန့်ထားရန်။
- လက်နက်ကိုင်တပ်ဖွဲ့ ဖွဲ့စည်းပေးရန်။ ထိုတပ်ဖွဲ့တွင် မူဆလင် ငါးဆယ် ရာခိုင်နှုန်းပါဝင်ရန်။

- ဗဟိုအစိုးရအဖွဲ့တွင်မှ ဝန်ကြီးခန့်အပ်ထားရန်။
- တိုင်းပြုပြည်ပြုလွှတ်တော်တွင် အခြားပြည်နယ်နှင့် တိုင်းများနည်းတူ ကိုယ်စားလှယ်အညီအမျှ စေလွှတ်ခွင့်ရရန်။
- မွတ်ဆလင်ကောင်စီ ထားရှိခွင့်ပြုရန်။
- အစ္စလာမ် အထက်တန်းကျောင်းများနှင့် ကောလိပ်ကျောင်းများ တည်ထောင်ခွင့်ပြုရန်

စသည့်များကို ချမှတ် အကောင်အထည်ဖော်ခဲ့ကြသည်။ ဤတောင်းဆိုချက်များကို တစိုက်မတ်မတ်လုပ်ဆောင် အကောင်အထည်ဖော်ခြင်းကြောင့် ယခုကဲ့သို့ ရလဒ်များရလာခြင်း မဟုတ်ပါလော။ ယခုလည်းဖြစ်ပျက်နေသော အရေးအခင်းသည် ရေခံမြေခံမရှိဘဲ ဖြစ်လာစရာအကြောင်းမရှိ။ သူတို့သည် ဒီမူအတိုင်း အဆင့်ဆင့် လုပ်လာခဲ့ကြသည်မဟုတ်လား။ မြို့ထဲတွင် ဤစာရွက်များသည့် ပျံ့နှံ့နေသည်။ ဒီမူကိုအကောင်အထည်ဖော်ဖို့အတွက် အဆင့်ဆင့် လုပ်လာခဲ့ကြသည်ကိုအင်တာနက်တို့တွင် အမိကတွေ့လာခဲ့ရသည်။ အာရ်ဗီကျောင်းများဆိုလျှင် စစ်တွေမြို့နယ်အစ ဘူးသီးတောင်၊ မောင်တောများတွင်အစိုးရအထက်တန်းကျောင်းများထက် များလာခဲ့သည်။ ရခိုင်ပြည်နယ်တစ်နံတစ်လျားတွင် လူခါးတို့ ငယ်စဉ်ကထက် ဘင်္ဂလီကုလားများပိုများလာသည်။ မြို့နယ်တိုင်းတွင် ဘင်္ဂလီကုလားမရှိသည့် မြို့နယ် မရှိသလောက် ဖြစ်လာသည်။

ဒီတင်မကသေးဘူး သမိုင်းကြောင်းထဲမှာ ဆိုလျှင်

- ၁၉၅၁ ခုနှစ်တွင် မေယုအော်ပရေးရှင်း မြန်မာနိုင်ငံအစိုးရနဲ့ တိုက်ပွဲတွေ ဖြစ်ပွားခဲ့သည်။
- ၁၉၅၂ ခုနှစ် ဇွန်လမှာပဲ အဗ္ဗဒူကာဆင်က စစ်ကြောင်းကို ဦးစီးပြီး မြန်မာစစ်တပ်တွေကို တိုက်ခိုက်ခဲ့ပြီး မောင်တောမြို့နဲ့ ဘူးသီးတောင်မြို့နယ်တွေကို သိမ်းပိုက်ခဲ့သည်။
- ၁၉၅၂ ခုနှစ် အောက်တိုဘာလမှာသာ မြန်မာစစ်တပ်ရဲ့ ထိုးစစ်ကို ခံခဲ့ရပြီး မူဂျာဟစ်တို့ကျဆုံးသွားသည်။



- ၁၉၅၄ ခုနှစ်တွင် နိုဝင်ဘာလမှာပဲ မြန်မာအစိုးရက တိုက်ခိုက်တာကြောင့် အဗ္ဗဒူကာဆင် အရှေ့ပါကစ္စတန်ကို ထွက်ပြေးခဲ့ရသည်။
- ၁၉၅၉ ခုနှစ်လောက်မှာပဲ ဘင်္ဂလီတို့သည် တောင်ပြိုရဲစခန်းနဲ့ လဝက စခန်းတွေကို သိမ်းပိုက်နိုင်ခဲ့သည်။
- ၁၉၅၆ ခုနှစ်မှာ ဘူးသီးတောင်မြို့နယ်နှင့် မောင်တောမြို့နယ်ကို မေယုခရိုင်သတ်မှတ်ပြီး ဦးနုအစိုးရမှ ဘူးသီတောင်မြို့နယ်က ဖားဝပ်ရွာတွင် ဘင်္ဂလီကုလားတို့နှင့် တွေ့ဆုံပြီး မူဂျာဟစ်တို့နှင့် ညှိနှိုင်းကာ ဘင်္ဂလီကုလားတို့ကို တစ်ဇာတ်ပြောင်းခဲ့သည်။
- ၁၉၆၀ ခုနှစ်မှာ ဧပြီလမှာ မေယုခရိုင်က ဖဆပလ အမည်ဖြင့် မဲအောင်ခဲ့သော ဘူးသီတောင်ပါလီမန်အမတ် အဒူဂေါ်ဖော် (ဂဖား)က သတင်းစာရှင်းလင်းပွဲမှာပဲ ရခိုင်၊ ပထန်၊ အာရပ်တို့ သွေးတွေ ရောထားသူတွေဟာ 'ရိုဟင်ဂျာ'လို့ပြောကြားခဲ့ပြီး 'ရိုဟင်ဂျာ' စကားကတော့ ရခိုင်၊ ဘင်္ဂါလီ၊ အူရဒူ ၊ ပါရှန် စကားတွေကို ရောနှောပြီးပြောတဲ့ စကားအဖြစ် ရှင်းလင်းခဲ့သည်။
- ၁၉၆၁ ခုနှစ် မေယုခရိုင်အုပ်ချုပ်ရေးဖွဲ့စည်းပြီးတော့ မူဂျာဟစ်တို့နှင့် မြန်မာအစိုးရတို့မှ တိုက်ပွဲအပြင်းအထန်ဖြစ်ပွားခဲ့ပြီး မူဂျာဟစ်ပါတီရဲ့ ဥက္ကဋ္ဌ ရော်ဘီဟူလာ၊ ဒုဥက္ကဋ္ဌ မော်စတာဖီ အဖွဲ့တွေပေါ့ ၂၉၀ လောက်က လက်နက်ချခဲ့တယ်။ အဲဒီမှာတင် မူဂျာဟစ် သမိုင်းဆုံးပါးသွားခဲ့ပြီး နောက် ရိုဟင်ဂျာ ဇာတ်လမ်းတု စလာခဲ့သည်။
- ၁၉၆၂ ခုနှစ်တော့ ဗိုလ်ချုပ်နေဝင်း အာဏာသိမ်းပြီးတဲ့နောက် သိမ်းလိုက်တော့ သူတို့က ဘယ်ရောက်လို့ ဘယ်ပျောက်သွားခဲ့မှန်းမသိဘူး။ ပါကစ္စတန် ဂျိန်နာဘတ်လည်း ခဏလေး မှေးမှိန်သွားခဲ့သည်။
- ၁၉၉၂ ခုနှစ်မှာ ဗိုလ်ချုပ်မှူးကြီး သန်းရွှေတို့ အာဏာကို ယူလိုက်တော့ သူတို့လှုပ်ရှားမှုကို ပြည်တွင်းတွင် ငုပ်လျှိုးခဲ့ပြီး ပြည်ပနိုင်ငံများတွင် အဓိက ထောက်ခံမှုရအောင် ကြိုးစားနေခဲ့ကြသည်။

- ၂၀၁၀ ခုနှစ် ပွင့်လင်းလာတဲ့ ဒီမိုကရေစီစနစ် ခြေလှမ်းသစ်များ အပေါ်မှီခိုပြီး သူတို့ အမျိုးမျိုးကြံဆလာခဲ့သည်။ ရခိုင်တွေအပေါ် ပေါ်ပေါ်တင်တင် စော်ကားလာတာတွေရှိသည်။ ဘင်္ဂလီကုလားကြေးရတတ်တို့က အစိုးရဌာနတွေနဲ့ပေါင်းပြီး ရခိုင်တွေအပေါ် နှိပ်ကွပ်လာခဲ့သည်။ အနီးစပ်ဆုံးအဖြစ် ၃. ၆. ၂၀၁၂ ရက်နေ့က စစ်တွေမြို့ စက်ရုံစုရပ်ကွက်(နာဇီ)တွင် ဦးအောင်သန်းဝေနဲ့ ဖြစ်ပွားခဲ့တဲ့ ပြဿနာကို ကြည့်ရှုရင် သိနိုင်သည်။ ဒီပြင် NGO များ၊ UN အဖွဲ့အစည်းများကို ခုတုံးလုပ် အသုံးချလာခဲ့ကြသည်။ သူတို့သည် NGO, INGO, UN အဖွဲ့အစည်း၏ အပေါ်ပိုင်းတာဝန်ခံများထိ ထိုးဖောက်ချုပ်ကိုင်လာပြီး လိုသလို ချယ်လှယ်လာကြသည်ကိုလည်း ဒီအရေးအခင်းထဲတွင် မျက်ဝါးထင်ထင် မြင်ခဲ့ရသည်။

အချိန်ကား လင်းကြက်တွန်သံကိုပင် ကြားရသည်။ လူသည် အတွေးလွန်ရာမှ အိပ်ငိုက်လာပြီ။ မျက်လုံးများ မှေးစင်းလာခဲ့သည်။ နောက်တော့ မျက်လုံးကို ဘယ်လိုမှ ဖွင့်၍မရတော့။ နေ့ခင်းကလည်း တစ်နေ့လုံးပင်ပန်းထားမှုတို့ကြောင့် လူက အားအင်ထည့်ပြီး စောင့်ကြည့်သော်လည်း မရတော့ချေ။ ဝရန်တာပေါ်တွင် တစ်ယောက်တည်း ဟိုတွေး ဒီတွေးရင်း နောက်ဆုံး မှေးခနဲ အိပ်ပျော်သွားလေတော့သည်။

*****

## (၂၆)

### ၁၂. ၆. ၂၀၁၂ ရက် အင်္ဂါနေ့

လူသည် အိပ်ပျော်သွားသည့်အတွက် ဘာကိုမှ မသိတော့ချေ။ မနက်ဖက်တွင် အမေက စောစောစီးစီး နိုးတတ်သည်။ ယနေ့လည်း စောစောစီးစီးထလျက် လူခါးကို လာနှိုးသည်။

"သား . . ထတော့ အတွင်းခန်းမှာ သွားအိပ်။ ဒီမှာ ခြင်ကိုက်တယ်"ဆိုပြီး နှိုးသည်။ လူခါးသည် အတင်းမျက်လုံးကိုဖွင့်ပြီး အိပ်ခန်းကို သွားအိပ်လိုက်သည်။ သို့သော်ကား အိပ်၍ မရတော့ လူက မူးတူးတူး မှိုင်တိုင်တိုင်ဖြင့် ဖြစ်နေသည်။ အိပ်ရာပေါ်တွင် ခဏကလေး မှေးလိုက်ပြီး နံနက် (၇)နာရီ ဝန်းကျင်လောက်မှ အိပ်ရာထဲမှ ထနိုင်သည်။ မျက်နှာသစ်ပြီး လက်ဖက်ရည်သောက်ရင်းနဲ့ မိသားစုများ စကားပြောဖြစ်သည်။ အမေက အခြေအနေကို စိတ်မချသဖြင့် တစ်နေရာရာကို ပြောင်းချင်နေသည်။ လူကြီးဖြစ်သည်မို့ စိုးရိမ်သည်လည်း ဖြစ်နိုင်သည်။ အခင်းဖြစ်မှုသည်လည်း ရက်ကြာလာသည်မဟုတ်လား။ အမှန်အတိုင်း ဝန်ခံရလျှင်

ငြိမ်းအေးသွားမည့်လက္ခဏာ မမြင်ရသေး။ လူကြီးသူမတို့အလျောက် စိုးရိမ်စပြုလာပြီ ထင်သည်။ လူခါးလည်း စဉ်းစားကြည့်သည်။ နှလုံးသားထဲရော ဦးနှောက်ထဲကပါ လက်မခံနိုင်သည်ကို တွေ့ရသည်။ လူခါးနှင့် ဇနီးက သဘောမတူ။

"အမေတို့ မိသားစု အရေးအခင်းကာလ ပုဏ္ဏားကျွန်းဘက်ကို ခဏကလေး ပြောင်းနေလိုက်ရင် မကောင်းဘူးလား။ အဲဒီမှာ လုံခြုံခြုံ ရှိတယ်။ ပြီးတော့ ဟိုက နင့်အဒေါ်တို့ကလည်း ဖုန်းဆက်လို့ ခေါ်တယ် မဟုတ်လား"လို့ တိုင်ပင်သလိုလို နားချသလိုလိုမျိုး ပြောလာသည်။ အရေးအခင်းဖြစ်စ တစ်ရက်နေ့က ပုဏ္ဏားကျွန်းမှာရှိတဲ့ အမေရဲ့ ဝမ်းကွဲညီမက လှမ်းခေါ်သည်။ သို့သော် လူခါးက ငြင်းလိုက်သောကြောင့် နောက်လည်း မခေါ်ဝံ့ဖြစ်နေသည်။ ပုဏ္ဏားကျွန်းမြို့နှင့် မြို့နယ်တွင် ဘင်္ဂလီကုလားများမရှိပေ။ လုံခြုံသည်ဟု ပြောရမည်။

"အမေကလည်းဗျာ၊ ကုလားကြောက်လို့ ပြေးရတယ်ဆိုတာ ရာဇဝင်ရိုင်းပါတယ်။ သားတော့ မသွားဘူးအမေ။ ကိုယ့်မြေမှာနေပြီး သူတို့ကို ကြောက်နေရမှာလား။ ဒီလိုကြောက်လို့သာ ပြေးစတမ်း၊ နောက်ဆုတ်စတမ်းဆိုရင် ကျနော်တို့ ရခိုင်တွေဟာ ရိုးတောင်တစ်ဘက်ကို ရောက်သွားတော့မယ် အမေ"လို့ ပြောလိုက်သည်။

"ဒါ ကျနော်တို့ ဘိုးဘွားဘီဘင်တွေရဲ့ အသက်တွေ၊ သွေးတွေ၊ ချွေးတွေနဲ့ရင်းပြီးတော့ တည်ဆောက်ခဲ့တဲ့ မြေပါအမေရယ်။ အမျိုးသီလနှစ်ဌာနကို စောင့်စွမ်းနိုင်မှ ရခိုင်မည်လှဆိုတာ မေ့နေပြီလား။ ကျနော်ကတော့ အမျိုးကိုလည်း စောင့်မယ်၊ သီလကိုလည်းစောင့်မယ် အမေ။ ဒို့ပြင် ဌာနေဖြစ်တဲ့ ဒီမြေကိုလည်းစောင့်မယ်။ မြေကို ချစ်လို့ တီဖြစ်ရင်တောင် မြေစားပြီးတော့ တီဖြစ်ခံမယ် အမေရယ်"လို့ ပြောလိုက်သည်။ အမေလည်း စိတ်မကောင်းစွာဖြင့် ဆက်၍ မပြောတော့ပေ။ မိန်းမကတော့ ဘေးနားက နားထောင်ရုံမှလွဲပြီး တခြားဝင်မပြောချေ။ ဘယ်ဝင်ပြောပါမလဲ။ ဒီအိမ်မှာ လူခါးက အိမ်ဦးနတ်မဟုတ်လား။ တစ်ဖက်ကလည်း သားကိုအချစ် မြေးကိုအနှစ်ဆိုတော့ အမေ၏



စိုးရိမ်ကြောင့်ကြမှုကို နားလည်မိသည်။ အမေလည်း ဘာမှ ဝင်မပြောတော့ပေ။

စစ်တွေမြို့၏ မနက်ပိုင်းသည် အေးဆေးတည်ငြိမ်နေသည်။ မုန်တိုင်းမလာခင် လေပြေလေညှင်းများ တိုက်လာသလိုမျိုးပင်ဖြစ်သည်။ ရာသီဥတုက သာယာနေသည်။ မနေ့တုန်းကလို မနက်ပိုင်းတွင် မီးလုံး၊ မီးခိုးများကိုကား မမြင်တွေ့ရပေ။ ပတ်ဝန်းကျင်တစ်ခုလုံးသည် အပ်ကျသံကို ကြားရလောက်အောင် တိတ်ဆိတ်နေသည်။ လမ်းမများပေါ်တွင် လူသွားလူလာနည်းပါသည်။ လူခါးလည်း စိတ်ထဲတွင် မသိုးမသန့် ဖြစ်လာသည်။ ဆိုင်ကယ်ကို မင်းဂံရပ်ကွက်ကိုသို့ မောင်းလိုက်သည်။ မင်းဂံရပ်ကွက်တွင်လည်း အေးအေးဆေးဆေးပင် ရှိနေသည်။ မင်းဂံ ဓမ္မာရုံတွင်ရှိသော ကောင်းဇံအား

"ဒီနေ့ တစ်ခုခုတော့ ထူးမလားမသိဘူးဗျာ။ စိတ်က ဘယ်လို ဖြစ်လို့ ဖြစ်နေမှန်းမသိဘူး" ဟု ပြောလိုက်မိသည်။

"ဟုတ်တယ်။ ကျနော်လည်း ဒီအတိုင်းပဲ ထင်နေတယ်"လို့ ပြန်ပြောရင်း သက်ပြင်းရှည်ကြီးချသွားသည်။ သူတို့လည်း အလွန်ပင် ပန်းနေကြပြီ။ အရေးအခင်း စတင်ဖြစ်ပွားခဲ့သည့် ၈. ၆. ၂၀၁၂ ရက်က ယနေ့ထိ ရေတွက်ကြည့်လျှင် (၅)ရက်မြောက်နေပြီ။ တစ်ရက်မှ နားခဲ့ရသည် မရှိ။ လူတို့သည်လည်း လက်ပန်းကျလာပြီ မဟုတ်လား။

လူအုပ် တစ်အုပ် ချီတက်လာသည်။ နယ်ဘက်ကဟု ထင်ရသည်။ သူတို့လက်ထဲတွင် စားစရာများ၊ အသီးအနှံများ၊ ဟင်းသီးဟင်းရွက်များ၊ ဆန်အိတ်များကိုပါ သယ်လာကြသည်။ တချို့လက်ထဲတွင်ဆိုလျှင် လှံများ၊ ဓားများ၊ လေးဂွများ၊ တင်းပုတ်များ၊ ပေါက်ဆိန်များကို ကိုင်ဆောင်ထားသည်။ မင်းဂံဓမ္မာရုံထဲသို့ ဆိုက်ဆိုက်မြိုက်မြိုက်ဝင်လာကြသည်။

"အစ်ကိုတို့က ဘယ်ကလဲ"

"ပုဏ္ဏားကျွန်းမြို့နယ်ကပါ။ ရွာအစုံပါတယ်။ ဒီကိုလာတဲ့ လမ်းမှာ ကျွန်တော်တို့က စစ်တွေက ဒုက္ခသည်တွေအတွက် စားစရာ သွားပို့မယ် ဆိုတော့ လမ်းကြုံတဲ့ရွာတွေက အခြေအနေကို ကြည့်ရင်း ဒီက လုံခြုံရေး

လိုအပ်ချက်ကိုလည်း အားဖြည့်လို့ရအောင် လာကြတာပါ။ ကျနော်တို့ နောက်က Exrpess ကား (၁၀)စီးစာလောက် ပါလာသေးတယ်။ လမ်းမှာတော့ လူများတဲ့အတွက် နောက်ကားတွေကို စစ်တပ်က တားထား လိုက်ပါတယ်"ဟု ပြောပြသည်။ လူခါးလည်း ကြက်သီးမွေးညှင်းများ ထသွားသည်။ အရေးကြုံလျှင် သွေးနီးသည် စကားကို သွားသတိရ မိသည်။ သူတို့က လူအင်အားတင်မက စားနပ်ရိက္ခာများကိုပါ တပါတည်း ယူဆောင်လာသည့်အတွက် ဒီလောက် ငတ်ပြတ်နေသော ဒုက္ခသည်များ အတွက် ပိုအဆင်ပြေသွားသည်။ တကယ့် အာဂရက္ခိတတွေပဲ။

ကားနောက်တစ်စီး ဝင်လာပုံရသည်။ လူနောက်တစ်အုပ် ရောက် လာသည်။ မင်းဂံဓမ္မာရုံတွင် ပြည့်ကျပ်သွားပြီ။ ကြည့်ရသည်မှာ လူအုပ်က ဝင်လာမစဲ တဖွဲဖွဲဆိုသလိုမျိုးဖြစ်နေသည်။ တချို့ကဆို

"ဘာလုပ်ပေးရမလဲ"လို့ လာမေးတဲ့သူများလည်ရှိသည်။ တချို့က လည်း ရပ်ကွက်အစပ် လုံခြုံရေးယူထားသည့်များကို သွားရောက်ကြည့်ရှု ကြမယ်ဆိုပြီး ထွက်သွားကြသည်။ တချို့လည်း မြင်ကွင်းများကို အံ့သြ တကြီး ကြည့်နေကြသည်။

ထိုအချိန် ကိုလှထွန်းကို သွားတွေ့မိသည်။ ကိုလှထွန်းကား အလုပ် ရှုပ်နေသည်။ လူခါးကို တစ်ချက်ကလေး ပြုံးပြပြီး တခြား လုပ်စရာရှိသည် များကိုလုပ်နေသည်။ ခဏနေတော့ ကိုလှထွန်းက အနားသို့ရောက်လာပြီး

"ကိုလူခါး နေကောင်းတယ်နော်။ စကားနည်းနည်းပြောချင်တယ်။ ရတယ်မို့လား"

"ကောင်းပါတယ်ဗျာ။ ရပါတယ်။ ပြောပါ"ဆိုပြီး လူလွတ်ကင်းရာ နေရာဘက်သို့ ရွှေ့ပေးလိုက်သည်။

"ညမအိပ်ရတာ ၄ ရက်လောက်ကလွဲရင် ကျန်းမာပါတယ်ဗျာ"လို့ ပြန်ပြောသည်။

"ဟုတ်ပဗျာ။ လူတော်တော်များများကတော့ ကင်းစောင့်ရတာ တစ်မျိုး၊ အသံကြားရင် လန့်နိုးတာ တစ်မျိုး။ ဘယ်ကောင်းကောင်း အိပ်နိုင် မလဲဗျာ"



"ကိုလူခါး ကျနော် ဒီနေ့ စိတ်တွေ လေးနေတယ်ဗျာ။ တစ်ခုခု တော့ ဖြစ်မယ်ထင်တယ်"

"ကိုလှထွန်းကလည်းဗျာ တစ်ခုခုထက်ဆိုးတဲ့ဟာ ဖြစ်နေတာပဲ ခင်ဗျားကလည်း စိတ်က ထင်လို့ပါ"

"မနက်က ကျနော့်အမျိုးသမီးက ကျနော့်ကို ဒီနေ့ဘယ်မှ မသွားဖို့ မှာတယ်။ သူ့အိပ်မက် မက်တယ်လို့ပြောတယ်။ သူ့အဖေတုန်းကလည်း ကုလားသတ်လို့ သေခဲ့ရတာဗျာ၊ အဲဒါ မနေ့က သူ့အဖေက အိပ်မက် လာပေးတယ်။ ကျနော့်ကို ကုလားတွေနေတဲ့အရပ်ဆီကို မသွားဖို့ ပြောတယ်။ မနက်ကလည်း ကျနော့် ဒီဘောင်းဘီကို ဝတ်တော့ အမျိုး သမီးက အစ်ကို အဲဒီဘောင်းဘီကို လဲလိုက်ပါလို့ ပြောတယ်။ ကျနော်က လည်း ဒါအယူသည်းတာပါ။ ဘာမှမဖြစ်ပါဘူးဆိုပြီး ဝတ်လာခဲ့တာပဲ။ သူနဲ့ ကျနော် စကားတောင် များခဲ့သေးတယ်"လို့ ပြောသည်။ ဘောင်းဘီ ကို ကြည့်လိုက်တော့ ဘောင်းဘီက ဂျိမ်းဘောင်းဘီ။ ဘယ်ဖက် ပေါင်ကြား တွင် နည်းနည်း စုတ်ပြဲနေရုံကလွဲရင် အကောင်းကြီးမဟုတ်ရင်တောင်မှ အိန္ဒြေလုံပါသည်။

"ဒါဆိုရင် ခင်ဗျား ဘယ်မှ မသွားနဲ့၊ အနားမှာ ဒုက္ခသည်တွေကို ကူညီနေပေါ့ဗျာ"လို့ ပြန်ပြောလိုက်သည်။ ကိုလှထွန်းကား သက်ပြင်း ချလိုက်သည်။ ယနေ့ကား ကိုလှထွန်းတစ်ယောက် ထူးခြားနေသည်ကား အမှန်ပင်။ သူနဲ့ကျနော် ကုန်ခဲ့တဲ့ အရေးအခင်းစတင်သည့်ရက်လောက်က ရင်းနှီးခဲ့ကြသော်လည်း တစ်ယောက်ကို တစ်ယောက် ညီအစ်ကိုလို၊ ဘော်ဒါလိုဖြစ်နေကြသည်။ လူခါး၏ အသိစိတ်ထဲတွင်ကား ငယ်ပေါင်း သူငယ်ချင်း ညီအစ်ကိုရင်းလိုဖြစ်နေသည်။

"ကျနော်တို့ လင်မယားက ချစ်လို့ ကြိုက်လို့ ညားကြတာပါ။ ဒါပေမယ့် မကြာခဏ စကားများကြတယ်။ ခုဆိုရင် ကျနော့်သားက (၉)တန်း၊ သမီးက (၃)တန်းဖြစ်နေပြီ။ အသက်အရွယ်ငယ်ငယ်နဲ့ အိမ် ထောင်ကျကြတာဗျာ။ ကျနော်က ကချင်ပြည်ဖက်မှာ ကျောက်တူးတာ အဆင်ပြေတယ် သတင်းတွေကြားတော့ ကျောက်တူးဖို့သွားခဲ့တယ်။

အဲဒီမှာ အဆင်ပြေတယ်ဗျာ။ အဲဒီက စုမိဆောင်းမိတဲ့ ပိုက်ဆံနဲ့ ဒီမှာ အေးအေးဆေးဆေး လုပ်ကိုင်စားသောက်နေတာ။ ဒါပေမယ့် ဒီမှာက သိပ်အဆင်မပြေဘူး။ ကျနော်က ပြန်သွားချင်တယ်။ အဲဒါကို ကျနော့် အမျိုးသမီးက မကြိုက်ဘူး။ ဒါနဲ့တင် မကြာခဏ စကားများကြတယ်။ ကျနော်ပြန်သွားမယ် ပြောတိုင်း မသွားနဲ့တော့ တားတယ်။ ဒီကိစ္စနဲ့တင် လင်မယားနှစ်ယောက် မကြာခဏ စကားများရန်ဖြစ်ကြတယ်။ ဒါလည်း ခဏလေးပါပဲ။ ခဏလောက်ဆိုရင် ပြန်ပြေသွားကြတာပဲလေ”

လို့ သူ့ဘဝကို ပြောပြသည်။ လူခါးလည်း အိမ်ထောင်သည်တစ်ဦး မဟုတ်လား။ ချစ်ပြီး ကြိုက်ပြီး ညားခဲ့ကြတာပဲ။ ဒါပေမယ့် အချစ်ကို အဓိပ္ပာယ် မဖွင့်ဆိုတတ်။ ဖြေလည်း မဖြေတတ်ခဲ့ပါ။ တစ်ခါက ဖတ်ခဲ့ဖူးသော စာအုပ်တစ်အုပ်က အတွေးတစ်ခုကို ခေါင်းထဲကို ဝင်လာသည်။ အချစ်သည် မာန်မာနနှင့် ထိတွေ့ဆက်ဆံရသောအခါ အာနိသင်ပျက်ပြယ်တတ်သည်။ ထို့ကြောင့် ချစ်ခြင်းတွင် မာန်မာနတွေကို ခဝါချပြီး အာဃာတတွေကို ဘေးချိတ်ထားခဲ့ရသည်။ စစ်ဦးကျွံသွားသော စစ်သားကောင်းသည် သေမင်း၏ ခံတွင်းဝသို့ ဆင်းသက်သည်ဆိုလျှင် အချစ်စစ်၊ အချစ်ဦးကို နယ်ကျွံသွားမိလျှင် အချစ်နွံနစ်တတ်သည်။ အချစ်ကို အဓိပ္ပာယ် အမျိုးမျိုးဖွင့်ဆိုကြသည်။ ပြည့်စုံမှုရယ်လို့ မတွေ့ စာကောင်းတစ်စောင် ပေကောင်း တစ်အုပ်မတွေ့ခဲ့ရပေ။ အဲဒီမပြည့်စုံမှုပင်လျှင် အချစ်ဟု ခေါ်တွင်လိမ့်မည်။

ကမ္ဘာကျော် နပိုလီယံအချစ်မျိုးကို လူခါးမသိသလို၊ ကလီယိုပက်ထရာကြောင့် ရောမမြို့ ပြိုပျက်သွားသော အချစ်ရဲ့ အဓိပ္ပာယ်ကိုလည်း လူခါး နားမလည်ခဲ့သည်မှာ အမှန်ပင်။ လူခါး၏ အချစ်သည် ရာဇဝင်တွင်လောက်အောင်ထိ မရှိခဲ့။ သူနဲ့ ရိုးရိုးကလေး တွေ့ခဲ့သည်။ ရိုးရိုးကလေးသာ ချစ်ကြိုက်ခဲ့ပြီး အိမ်ထောင်ကျခဲ့သည်။ ယခု ချစ်စရာ သမီးဦးကလေး တစ်ဦးပင် ရထားခဲ့ပြီးမဟုတ်လား။ သူက မိဘမရှိ တစ်ကောင်ကြွက်။ သူ့အဒေါ်အိမ်မှာ ခိုင်းတာလုပ်၊ ကျွေးတာစားနဲ့ လူ့ဘဝ အသက်တစ်ချောင်းကို ထိန်းကျောင်းလာခဲ့သူ။ လူခါးကတော့



မိတဆိုးသား။ အမေတစ်ခု သားတစ်ခု။ ဒီဘဝနှစ်ခုကို စွယ်တော်ရွက်လို ပေါင်းစပ်သည်ဆိုလျှင် အမေကတော့ ရိုးတံဖြစ်လိမ့်မည်။

“ကိုလှထွန်း ဒါတော့ ကျနော် မပြောတတ်ဘူးဗျာ။ ကျနော်လည်း ခင်ဗျားနဲ့ ယေဘုယျတူပါတယ်။ ကျနော့်ဘဝမှာ အဓိပ္ပာယ်ရှိရှိ ပြောစရာဆိုလို့ တစ်ခုမှ မရှိခဲ့ဘူး”လို့ ပြောလိုက်သည်။ ထိုအချိန် ဆရာသိန်းရောက်လာပြီး

“ကိုလှထွန်း ခင်ဗျား အခုရောက်လာတဲ့ နယ်ဘက်လူတွေအတွက် ဒီမှာ မဆံ့တော့ဘူးဗျာ။ ဟို အဓိဋ္ဌာန်ဘုန်းတော်ကြီးကျောင်းဘက်ကို ခေါ်သွားပြီး နေရာချပေးလိုက်ပါ။ လူခါးကတော့ ကားနဲ့လာသူတွေကို ဒီဖက်ကို မလာစေနဲ့ အဲဒီဖက်မှာရှိတဲ့ ဒုက္ခသည်စခန်းတွေကို ပို့လိုက်”ဟု ပြောသည်။ နှစ်ယောက်လုံး ခေါင်းညိတ်ပြီးသားဖြစ်သွားသည်။ ဒီအချိန်တွင် ပေးလာသည့် တာဝန်ကို ငြင်းနေရမည့် အချိန်မဟုတ်တော့ပေ။ ကိုလှထွန်းနှင့်အတူ လူခါးတို့ထွက်လာခဲ့ကြသည်။ ကိုလှထွန်းက အဓိဋ္ဌာန်ဘုန်းတော်ကြီးကျောင်းသို့သွားသည့် လမ်းမအတိုင်း ဝင်သွားပြီး လူခါးကတော့ “စစ်တွေမြို့မှ လှိုက်လှဲစွာ ကြိုဆိုပါ၏” မြို့ဝင် ဆိုင်းဘုတ်အောက်တွင် ကျန်ခဲ့သည်။ ဒိုင်နာကားများဖြင့် ဆန်၊ ဟင်းသီးဟင်းရွက်များ ဝင်လာသည်။ လူများလည်းပါလာသည်။ ထိုကားများကို ကိုလှထွန်းတို့ရှိရာဘက်သို့ သွားဖို့ ညွှန်ပေးလိုက်သည်။ ပုံမှန်အချိန်များဆိုလျှင် လမ်းပြပုလိပ်များ လုပ်ရမည့် အလုပ်ဖြစ်သည်။ ယခုမူကား လူခါးက လမ်းပြပုလိပ်ဖြစ်နေသည်။

ဝင်လာသမျှ ကားများတွင် စစ်တပ် လုံခြုံရေးကားများလည်း ပါသည်။ တစ်ခေါက်ဆိုလျှင် လုံခြုံရေး စစ်တပ်ကား အစီး (၃၀)လောက်ရှိမည်။ ရှေ့က အစိမ်းရောင်ကားတစ်စီးက မီးထွန်းထားပြီး ကားပေါ်မှ စစ်သားများက သေနတ်ကို အသင့်ကိုင်ဆောင်ထားသည်။ လည်ပေါ်တွင်လည်း လည်စည်းအနီကို ပတ်ထားသည်။ တစ်ခါမှ ဒီလိုမြင်ကွင်းမျိုးကို လူခါး တစ်သက်နှင့်တစ်ကိုယ်မမြင်ခဲ့ဖူးချေ။ မြို့ပြအလှအပထဲတွင် ဒီမြင်ကွင်းမျိုးသည် မည်သို့မျှ မလှပသည်ကား အမှန်ပင်။ သို့သော်

ဒီအခြေအနေမှာ ဒီလိုပုံစံမျိုးနှင့်သာ အဆင်အပြေဆုံးဖြစ်သည်။ ပုံစံမှာ စစ်တွေမြို့သည် စစ်တပ်၏ ထိန်းချုပ်မှုအောက်သို့ ရောက်သွားပြီဟု ထင်လောက်အောင် များပြားနေသည်။

မနက်ပိုင်း လမ်းမှာလာတုန်း သတင်းတစ်ခုကြားခဲ့သည်။ စက်ရုံစု (နာဇီရွာ)ရပ်ကွက်ရှိ အကွက်အမှတ် ၁၊ ၂၊ ၁၁၊ ၁၂ မှ ဘင်္ဂါလီများ ထကြွလာနိုင်သည်။ အထူးသဖြင့် နာဇီ အကွက် ၁ နှင့် ၂ တွင် အာဘုလူနှင့် အာမီဆန်း တို့၏နေအိမ်တွင် လက်နက်များစုနေသည် ဟူသော သတင်းများထွက်ပေါ်နေပါသည်။ ထိုနှစ်ဦးသည် နာဇီရွာရပ်ကွက်အတွင်း ငွေကြေးချမ်းသာသော ဘင်္ဂါလီနှစ်ဦးဖြစ်ပြီး ဘင်္ဂလားဒေ့ရှ် နယ်စပ်နှင့် မပြတ်ဆက်သွယ်မှု ရှိနေသူများဖြစ်ကြောင်း သတင်းကို ကြားခဲ့ရသည်။ ဒီ့ပြင် ခင်မောင်လှ၊ ဘုလီယာ၊ မောင်နု၊ မောင်မောင်တင် စသည့် ဘင်္ဂလီကုလားတို့သည်လည်း တခြားဘင်္ဂလီကုလားတို့အပေါ် တွင် ဩဇာညောင်းသည်။ NGO အသိုင်းအဝိုင်းတွင် ဒေါက်တာ ထွန်းအောင်နှင့် ကျော်လှအောင်တို့သည်လည်း လှုပ်ရှားမှုကို ကြိုးကိုင် နေသည်ဟု သတင်းပျံ့နေသည်။ ဟုတ်မဟုတ်တော့ မသိပေ။ မြို့ထဲ တွင်တော့ သူတို့ဆီက သတင်းများကား လူတိုင်းပါးစပ်ဖျားဆီကို ရောက် နေသည်။ အရင်တုန်းကလည်း သူတို့ လှုပ်ရှားခဲ့မှုများ သာဓကများ ရှိသည်မဟုတ်လား။

လုံခြုံရေးကား ဝင်သွားရုံပဲရှိသေးသည်။ စက်ရုံစုရပ်ကွက်နှင့် ကုန်တန်းရပ်ကွက်ကြားတို့မှ မီးခိုးလုံးများ တက်လာသည်။ ဒီ့အပြင် ကုန်တန်းရပ်ကွက်ထဲမှလည်း မီးခိုးလုံးများ တက်လာသည်။ မီးခိုးလုံးများ နှစ်နေရာမှ မြင်နေရသည်။ ကုန်တန်းရပ်ကွက်သည် ရခိုင်များနေသော ရပ်ကွက်ဖြစ်သည်။ သူနှင့် ထိစပ်ပြီး စက်ရုံစု(နာဇီ)ရပ်ကွက်နှင့် ကသဲ ရပ်ကွက်တို့ ထိစပ်လျက်ရှိသည်။ လူခါးတို့ရောက်နေသော နေရာနှင့် ဆိုလျှင် အရှေ့ဘက်တွင်ကျသည်။ လေသည် အရှေ့ဘက်မှ အနောက် ဘက်သို့ တိုက်ခတ်နေသည်။ ဘင်္ဂလီကုလားတို့သည် ရခိုင်ရပ်ကွက် များနှင့် ထိစပ်နေသော လမ်းမများပေါ်တွင် ပုလင်းကွဲများ၊ သံဆူးကြိုး



များချထားသည်။ သိပ်မကြာပေ။ စက်ရုံစုရပ်ကွက်နှင့် ဓညဝတီ ရပ်ကွက်ကြားမှ မီးလောင်လာသည်။

သတင်းများအရဆိုလျှင် တောင်ချေရွာ ဘုန်းတော်ကြီးကျောင်းကို ဘင်္ဂလီကုလားများ ဝင်ရောက်ပြီး မီးရှို့လိုက်သည်ဟု သိရသည်။ မီးခိုးလုံး များသည် တဖြည်းဖြည်း အားကောင်းလာသည်။ ဘင်္ဂလီကုလားတို့က လမ်းများကို ပိတ်ထားခဲ့သောကြောင့် မီးသတ်ကားများ အထဲကို ဝင်၍ မရဘဲ ဖြစ်နေသည်။ ဒီ့ပြင် စစ်တပ်မှလည်း အထဲကို ဝင်၍မရဖြစ်နေ သည်။ လမ်းမများအားလုံးကို စစ်တပ်က ဘလောက်ရိုက်ပြီး ပိတ်ထား လိုက်သည်။

ဓညဝတီ (ခ)ရပ်ကွက်ရှိ ဓမ္မာရာမ ဘုန်းတော်ကြီးကျောင်းကို အစွန်း ရောက်ဘင်္ဂလီကုလားများက မီးရှို့လိုက်ကြောင်း သတင်းများ ဆက်လက် ထွက်ပေါ်လာသည်။ စက်ရုံစုရပ်ကွက်ထဲမှ ဘင်္ဂလီကုလားများသည် ရခိုင်များရှိသော ကြားတွင် ရောက်ရှိနေပြီး သူတို့ အိမ်များကို မီးရှို့ပြီး ထွက်ပြေးဖို့ လုပ်ကြခြင်းလည်း ဖြစ်နိုင်သည်။ ရခိုင်တို့သည် မြို့အနှံ့ မီးမကူးစက်နိုင်ရန်အတွက် ငြိမ်းသတ်နေကြရသည်။ ရခိုင်တို့ အာရုံ ပြောင်းနေချိန်၌ ထွက်ပြေးကြမည့်သဘောဖြစ်သည်။

သို့သော်လည်း ရခိုင်တို့သည် ဘင်္ဂလီကုလားတို့ အဓိက နယ်ကျွံ ထွက်ပြေးလာနိုင်သည့် အာကျိပ်တော်ကုန်းမြေဘက်တွင် နယ်ကလာသူ များနှင့် ရွာသာယာကျေးရွာမှ ဒေသခံများနှင့် ပူးပေါင်းပြီး ကင်းစောင့် ချထားလိုက်သည်။ တကယ်လို့ ဒီဘက်အခြမ်းကသာ ဘင်္ဂလီကုလားများ ထွက်ပြေးလာလျှင် ရခိုင်ရွာစဉ်တစ်လျှောက် စိုးရိမ်ရသည်။ ဒီဘက် အခြမ်းတွင် ရခိုင်ကျေးရွာများ တောက်လျှောက်ရှိသည်အတွက် ဒီဘက် အခြမ်းမှ ထွက်ပေါက်မပေးခြင်းဖြစ်သည်။

ဘင်္ဂလီကုလားတို့သည် ဓညဝတီရပ်ကွက်ကို အဓိက မီးရှို့ တိုက်ခိုက်သည်မှာ ဓညဝတီရပ်ကွက်ပြီးလျှင် ဘုမေ ဘင်္ဂလီကုလားရွာကို ရောက်သည်မဟုတ်လား။ ရခိုင်တို့၏ အားအပျော့ဆုံးအပိုင်းဖြစ်သည်။ ကုန်တန်းရပ်ကွက်သည် မြို့ထဲဘက်ကျသည့်အတွက် မြို့ထဲဘက်အခြမ်း

ကို အလျင်မီးရှို့လိုက်လျှင် ရခိုင်တို့သည် မြို့ထဲဘက်ကို မီးမကူးနိုင်ဖို့ အတွက် ငြိမ်းသတ်မည်မှာ အမှန်ပင်။ မီးကား တဖြည်းဖြည်း ပြင်းထန်လာသည်။ မီးသတ်ကားများ ဝင်၍မရ။ ရခိုင်များသည် တနိုင်တပိုင် ကိုယ်ထူကိုယ်ထ မီးသတ်နေရသည်။

ဘင်္ဂလီကုလားတို့သည် ဘက်ကွဲသွားသည် ထင်ရသည်။ လူခါးတို့ရောက်ရှိနေသော ရွာသာယာဘက်အခြမ်းဖက်မှ လူတစ်အုပ်ထွက်လာကြသည်။ ဒီဘက်အခြမ်းကို အဓိက စောင့်နေသည်က နယ်ဘက်က ရခိုင်များနှင့် ရွာသာယာက လူများဖြစ်သည်။ လမ်းလွဲပြီး ဦးတည်ပေးထားသူက ကိုလှထွန်းဖြစ်နေသည်။ ဘင်္ဂလီကုလားအုပ်သည် ထွက်လာသည်။ ဒီဘက်အခြမ်းမှ ထိုးဖောက်လျှင် သံထော်လီဘင်္ဂလီကုလားဘက်ကို ရောက်သွားနိုင်သည်။ ရခိုင်တို့လည်း နေရာယူလိုက်ကြသည်။ ဒီနေ့တော့ ရခိုင်လူအင်အား ကောင်းသည်။ အုပ်စုတောင့်သည်။ သို့သော် နယ်ဘက်က လူများဖြစ်သည့်အတွက် တိုက်ပွဲအခြေအနေကို မသိ။ ရင်ဆိုင်မတိုက်ခိုက်ဖူး။ သတ္တိတော့ရှိကြသည်။ စည်းကမ်းပိုင်းတွင် သူတစ်လူငါတစ်မင်းဖြစ်နေသည်။ တချို့ဆို နှုတ်ကြမ်း၊ လျှာကြမ်းဖြင့် ဆဲဆိုလျက်။ မည်သူ့ကို အပြစ်တင်လို့ တင်နေမှန်းမသိ။

လေကား တဖြည်းဖြည်း လူခါးတို့ဘက်ကို တိုက်ခိုက်လာသည်။ သို့သော် ကံတရား၏ မျက်နှာသာပေးမှုသည် ရခိုင်တို့ဘက်ကို ရောက်လာသည် ထင်သည်။ မီးကား စက်ရုံစု(နာဇီရွာ)ရပ်ကွက်တစ်ခုလုံးကို ဝါးမျိုတော့သည်။ လူခါးဘဝတစ်လျှောက်လုံးတွင် ဒီလောက်စွမ်းအားပြင်းမီးကို မမြင်ဖူး။ မီးသည် တစ်ချိန်တည်း (၃)ကေလောက်ကို ဖြတ်လောင်ကျွမ်းနေသည်။ မီးခိုးလုံးများနှင့် တိမ်တိုက်များသည် တိုက်ရိုက် ဆက်စပ်နေသည်။

မီးခိုးလုံးများသည် တခြားနေရာများမှလည်း ထွက်ပေါ်လာသည်။ တောင်ဘက်တွင်ရှိသော စစ်တွေဟိုတယ်အနီး စံပြရွာဘက်မှလည်း ထွက်လာသည်။ ထိုဖက်မှ သတင်းအရ မနေ့က မီးမလောင်ခဲ့သော အိမ်များကို လုံခြုံရေးများ မရှိစဉ် ဘင်္ဂလီကုလားများ လာရောက် မီးရှို့



သွားကြောင်းကို သိရသည်။

နောက် မြို့ထဲဘက်ကျသည့် မကျည်းမြိုင်ရပ်ကွက်ဘက် ကျောင်းကြီးလမ်းဘက်မှလည်း မီးခိုးလုံးများတက်လာသည်။ ထိုဘက်ကို ရောက်နေသော ကိုကြီးထွန်းမှ ဖုန်းဆက်လာသည်။

"ကျောင်းကြီးလမ်းရှိ သူတို့အိမ်များကို မီးရှို့ပြီး အောင်မင်္ဂလာ(အင်ပါလာ)ရွာထဲသို့ ဝင်ပြေးကြတယ် ဒီပြင်ထွက်ပြေးတဲ့အချိန်မှာ အောင်မင်္ဂလာ(အင်ပါလာ)ရပ်ကွက်၊ ဖေယာလမ်းမှာရှိတဲ့ ဟိန္ဒူတွေနေတဲ့ ဘုရားကျောင်းနဲ့ အိမ်တွေကိုလည်း မီးရှို့သွားကြတယ်။ ဟိန္ဒူတွေက လူနည်းတော့ ဘာမှ မလုပ်နိုင်ဘူး။ ဟိန္ဒူတွေလည်း ရခိုင်တွေဘက်ကို ထွက်ပြေးလာနေကြတယ်။ ဒီပြင် ဓညဝတီရပ်ကွက်မှာရှိတဲ့ မရမာကြီးလူမျိုးတွေလည်း ဓညဝတီရပ်ကွက်ထဲရှိ စာသင်ကျောင်းများကို ထွက်ပြေးလာနေကြတယ်။ သူတို့က ရုပ်ရည်ချင်းတူပေမယ် ဘာသာမတူတာကြောင့် သူတို့ကို အကုန်လုံး သိမ်းကျုံးတိုက်ခိုက်တဲ့သဘောရှိတယ်။ အကုန်လုံး ရခိုင်တွေကတော့ ကာကွယ်ပေးထားတယ်။ လုံခြုံရေးအင်အားကလည်း ဒီဖက်မှာနည်းတယ်"ဟု ပြောသွားသည်။ ခဏလောက်နေတော့ နောက်တစ်ခေါက်ဖုန်းလာသည်။

"နာဇီက ကောင်တွေ သူတို့ ချီးနဲ့သူတို့ပတ်နေပြီ။ မီးက ရခိုင်ဘက်ကို မလောင်ဘဲ သူတို့ရပ်ကွက်ထဲကိုပဲ လေတိုက်ပြီး လောင်တဲ့အတွက် လေညာဘက်ဖြစ်တဲ့ ကသည်းရွာကို ထွက်ပြေးဖို့လုပ်နေတယ်။ ကသည်းရွာမှာ ထိပ်တိုက် ဖြစ်နိုင်တယ်။ ဒါကြောင့် ဖြစ်နိုင်ရင် အသိတွေ လူအင်အားတွေ ပြောပေးစေချင်တယ်"လို့ ပြောရင်း ဖုန်းချသွားသည်။ မီးလောင်ပြင်ကား စစ်တွေမြို့ တစ်မြို့လုံးတွင် မမြင်ရသည့် နေရာမရှိပေ။ တောင်ဘက်စံပြရွာက မီးခိုးလုံးများ တက်လာသလို၊ အရှေ့ဘက် ပင်လယ်ကမ်းစပ်ဖြစ်တဲ့ မိဇံရပ်ကွက်လည်း မီးခိုးလုံးများ ထွက်နေသည်။

လူခါးတို့ရောက်နေသည့်ဘက်တွင်ကား မီးအား အပြင်းဆုံးနှင့် မီးလောင်မှု အားအကောင်းဆုံးဖြစ်နေသည်။ မြို့ပြင်ဘက်ဖြစ်သောကြောင့် ဘင်္ဂလီကုလားများသည် ဒီဘက်ကို အများစု ထွက်ပြေးလာကြသည်။

ရခိုင်တို့ကား ဒီဘက်ကို ထွက်ပေါက် မပေးနိုင်၊ ထွက်ပေါက်ပေးလိုက်ရင် အကုန်လုံး မြေစာပင်ဖြစ်သွားမည်။ စစ်တွေမြို့ထဲဘက်ကို သွားသော လမ်းများနှင့် စက်ရုံစု(နာဇီရွာ)ဘက်ကို ဝင်သည့် လမ်းများကို လုံခြုံရေးများနှင့် စစ်တပ်တို့က ပိတ်ထားပြီ။ စက်ရုံစုရပ်ကွက်သို့ ဝင်သည့် လမ်းမတစ်လျှောက်ကို စစ်တပ်နှင့် ရဲလုံခြုံရေးတို့မှ ဘယ်ညာဆီးတားပြီး အလယ်မှ သက်ကြီးရွယ်အိုများနှင့် ဘင်္ဂလီကုလားများကို ထွက်ပေါက်ပေးသည်။ ဒီလောက် လုံခြုံရေးနှင့် ယခုအခြေအနေကို ထိန်းသိမ်းနိုင်ဖို့ရန်မှာ ဘယ်လိုမှ မဖြစ်နိုင်။ နေရာစုံမှာ ဖြစ်နေသည်။

လူခါးတို့လည်း ရွာသာယာဘက်မှ ကွင်းပြင်စပ်တွင် ထိုင်ရင်း လမ်းပေါက်များကို ပိတ်ထားသည်။ ဘင်္ဂလီကုလား လူအုပ်ကား ထွက်လာသည်။ အသက်လုထွက်လာရသောကြောင့် ကသောင်းကနင်းနိုင်သည်။ သူတို့ လက်ထဲတွင် ဓား၊ လှံ၊ လေးဂွ၊ အုတ်ခဲကျိုးများကို အဆင်သင့် ကိုင်ဆောင်ထားသည်။ ဤလောက်ဆိုလျှင် ရင်ဆိုင်တိုက်ပွဲတိုးပြီဟု လူခါး သိလိုက်သည်။

“ကျနော်တို့ ဒီထွက်ပေါက်ကို လုံးဝ ခွင့်မပြုနိုင်ဘူး။ ဒီဘက်က ထွက်ခွင့်ပေးလိုက်ရင် ဒီဘက်မှာရှိတဲ့ ကျနော်တို့ရခိုင်ရွာစဉ်တွေ အကုန်လုံး ပြာပုံဖြစ်သွားမယ်။ ဒါကြောင့် ကျနော်တို့ အသက်နဲ့ရင်းပြီး ကာကွယ်ရပါလိမ့်မယ်”ဆိုပြီး တပ်လှန့်နေသည်။ ယခုအခြေအနေတွင် ကိုလှထွန်းတစ်ယောက်ကား ရှေ့ဆုံးမှ အော်ပြောနေသည်။ သူသည် လူထုက မတင်မြှောက်ဘဲနဲ့ ဦးဆောင်ဦးရွက်သူဖြစ်နေသည်။ သူရဲကောင်းတို့မည်သည် အခက်အခဲကြားမှ ပေါ်ပေါက်လာတတ်သည် မဟုတ်လား။ ယခုလည်း အခက်အခဲ အကျဉ်းအကျပ်ကို သူသိသလောက် မှတ်သလောက်ဖြင့် ဦးဆောင်နေသည်။

ဘင်္ဂလီကုလားများကား သူတို့ရွာအစပ်မှ ဒီဖက်ကို လှမ်းကြည့်သည်။ ဒီဖက်ကလူများလည်း လှုပ်လှုပ်ရှားရှားဖြင့် ဟိုဖက်ကို ကြည့်နေသည်။ အလယ်ခေါင်တွင် ကွင်းပြင်ကြီးတစ်ခု ခြားထားသည်။ ဟိုဖက်တွင် စက်ရုံစု(နာဇီရွာ)ရပ်ကွက်နှင့် ဒီဖက်တွင် ရွာသာယာရပ်ကွက်ကြား



(၅)ကေခန့်လောက်ရှိမည့် ကွင်းပြင်ကြီးတစ်ခုခြားထားသည်။ မနေ့ညနေပိုင်းက ရွာထားသောမိုးကြောင့် အင်း၊ အိုင်များဖြစ်ပေါ်လျက်ရှိပြီး ကြားက ဖြတ်ထားသည့် မြောင်းကလေးတွင် ရေများပင် စီးဆင်းနေသည်။ ဟိုဖက်က ဘင်္ဂလီကုလားများ စတင် လှုပ်ရှားလာသည်။ သူတို့က ဦးဆောင်ပြီး ထွက်လာကြသည်။ အနီးအနားရွာဖြစ်သည့် ရွာသာယာမှ အမျိုးသမီးများ ကြောက်လန့်ပြီး ငိုကြွေးသံများ၊ အော်ခေါ်သံများကို ဆူညံစွာ ထွက်ပေါ်လာသည်။

ဒီဘက်တွင်ရှိသော ရခိုင်တို့လည်း မြောင်နားစပ်ထိ တိုးထွက်လိုက်ကြသည်။ ရှေ့ဆုံးတွင် အကျႌချွတ်ပြီး ကိုယ်ဗလာဖြင့် တပ်လှန့်နေသူကား ကိုလှထွန်းဖြစ်နေသည်။ သူသည် သတ္တိအပြည့်ရှိသည့် ယောကျ်ားကောင်းတစ်ယောက်တည်း။

တစ်၊ နှစ်၊ သုံး၊ လေး ရန်သူခြေလှမ်းများကို အသက်ရှူမှားစွာ လိုက်ရေလိုက်သည်။ ရန်သူတို့သည်လည်း တုန့်ဆိုင်း တုန့်ဆိုင်းဖြင့် တက်လာကြသည်။ ခြေလှမ်းကတော့ မှန်မှန်။ ရခိုင်တို့နေရာနှင့် လေးဂွတစ်ပစ်စာ အနီးကို ရောက်လာသည်။ လေးဂွတို့ဖြင့် အပြန်အလှန် တိုက်ခိုက်ကြသည်။ ဟိုဖက်ကလည်း ပစ်ခတ်သလို ဒီဖက်ကလည်း ပစ်ခတ်သည်။ ဘေးနားက ခေါင်းကွဲသူ၊ မျက်နှာပေါ်ကို ထိသူတို့ဖြင့် အော်သံလောက်ကို သာကြားရသည်။ “တရားသူဖယ်၊ မတရားသူထိပ်”ဆိုသလို လေးဂွများမှ လောက်စာလုံးများကား မိုးရွာနေသလိုပင်။ ဒီထက်မက နီးကပ်လာကြသည်။ အုတ်ခဲကျိုးများ ကျလာသည်။ လူခါး၏ လက်သည် ပူကနဲဖြစ်သွားသည်။ ဘယ်ဘက်လက်ကို ထိသွားသည်။ နာသည်ကို သိသော်လည်း၊ အသိကို ထိန်းသိမ်းထားရသည်။

ကိုလှထွန်းမှ “တက်”ဆိုပြီး တပ်လှန့်လိုက်သည်။ အားလုံး ငြိမ်နေရာမှ တက်ကြသည်။ တချို့လူများလည်း ကျန်ခဲ့သည်။ ရခိုင်တို့၏ သတ္တိများကို မြင်တွေ့ရသောအခါ ဘင်္ဂလီကုလားများသည် ကစဉ့်ကလျားဖြင့် သူတို့ရွာထဲဘက်ကို ဝင်ပြေးကြသည်။ သူတို့ရွာထဲတွင်လည်း မီးက အကြီးအကျယ်လောင်နေပြီ။ မီးမလောင်သည့် တခြားဘက်ကို ဦးတည်

ထွက်ပြေးကြသည်။ နောက်က ရခိုင်တို့ အတင်းလိုက်သည်။ သို့သော်လည်း လိုက်သွားသည်က လူနည်းစုဖြစ်နေသည်။ သူတို့ဘက်ကမှ ပြန်ခံတိုက်သောအခါ လူနည်းစုဖြစ်သော ရခိုင်တို့ နောက်လှည့် ပြန်ပြေးလာကြသည်။ ထိုအချိန် လူတစ်ယောက်လဲကျသွားသည်။ ရန်သူတစ်ဦးက နောက်က ဆီးခုတ်သည်။ "အား"လို့ အော်သံကိုသာကြားလိုက်သည်။ ကိုလှထွန်းအော်သံ. . .။ အော်သံကြောင့် ဘေးနားက လူတစ်ဦးမှ နောက်ပြန်လှည့်ပြီး ဝင်ကူသည်။ သူ့ကို အတင်းဆွဲပြီး ခေါ်ယူလာသည်။ သွေးစက်တို့ကား စီးကျကျန်ခဲ့သည်။ သို့သော် ရဲရင့်သည့် ရခိုင်လူတချို့ သတိပြန်ဝင်ပြီး ပြန်ဝိုင်းကူကြသည်။ ရန်သူများကား ကစဉ့်ကလျား ထွက်ပြေးသွားကြသည်။ အနောက်ဘက်တွင် ကျန်ခဲ့သော ဘင်္ဂလီကုလားရွာကား တစ်ရွာလုံး မီးစာဖြစ်သွားပြီ။

လယ်ကွင်းပြင်ထဲရှိ မြောင်ကို ဖြတ်ပြီး ရွာသာယာအနီးက ဘုန်းကြီးကျောင်းခြံထဲဆီသို့ ထမ်းယူလာသည်။ အသံသဲ့သဲ့မျှကြားလိုက်ရသည်။

"ငါကို ချတော့။ ငါ့ အခြေအနေကို ငါသိတယ်"ဆိုပြီး ပြောသည်။ ထမ်းခေါ်လာသည့် သူက

"ညီရှိတယ် အစ်ကို၊ အားတင်းထားပါ။ ဆေးရုံကိုရောက်အောင်ပို့မယ်"ဆိုပြီး ပြောသည်။ သူသည် အသာအယာဖြင့် ပခုံးပေါ်မှ ချလိုက်သည်။ ချလိုက်သည့်နေရာမှာ မြက်ခင်းပြင်ဖြစ်နေသည်။ ရွာသာယာအရှေ့ဘက် အာကျိပ်တော်ကုန်းမြေ၊ ဒက္ခိဏဘုရား ပဏ္ဍိတာရာမကျောင်းတိုက် ခြံဝင်းရှိ အောင်မင်္ဂလာဆုတောင်းပြည့်စေတီအနီး ဘုရား၏ခြေရင်းတွင် ဖြစ်နေသည်။ ဆရာတော်ဘုရားလည်း ထွက်လာခဲ့သည်။

"သုံးဘီးဆိုင်ကယ်ခေါ်၊ သူ့ကို ဆေးရုံပို့ရမယ်"ဆိုပြီး ပြောလိုက်သည်။ ဘေးနားက တစ်ယောက် ချက်ချင်း ပြေးထွက်ပြီး သွားရှာသည်။ ဘေးပတ်ဝန်းကျင်ရှိ လူတိုင်း မျက်ရည်စိုပြီး ငိုယိုနေကြသည်။ လူတိုင်းမျက်နှာပေါ်မှာ မျက်ရည်စများ စီးဆင်းနေကြသည်။ လူခါးလည်း လူအုပ်ကြား တိုးဝင်သွားသည်။ သူသည် အသက်ရှိသေးသည်။ ထမ်းခေါ်လာသူရဲ့ လက်မောင်းပေါ်တွင် သူလဲလျောင်းနေသည်။ ဘေးနားတွင်



အမျိုးသမီးသုံးယောက်မှ ယပ်ခတ်ပေးနေသည်။ ဆရာတော်မှ တရားဘာဝနာကို ပြောပြနေသည်။ သို့သော်လူတိုင်းသည် မျက်ရည်များကို ဆီးတားမရပေ။

လူခါးသည် သူ့ဘေးနားတွင် ဒူးထောက်ထိုင်လိုက်၏။ အသားရောင်တို့သည် ချက်ချင်းဖြူဖတ်ဖြူရော်ဖြင့် သွေးဆုတ်သွားသလိုမျိုး၊ ခန္ဓာတစ်ခုလုံးသည် တုန်လှုပ်နေ၏။ လူခါး၏ မျက်နှာပေါ်မှာ မျက်ရည်စက်တို့ အတားအဆီးမရှိသော ရေကာတာကဲ့သို့ စီးဆင်းနေသည်။ အတွေးထဲတွင်လည်း ယူကျုံးမရသော ခံစားချက်တို့ဖြင့် သူ့ကို ကြည့်လိုက်သည်။ သူက

"ငါ. . ငါ . . "ဆိုပြီး အသံတိတ်သွားသည်။

"စကားမပြောပါနဲ့တော့ ကိုလှထွန်းရယ်. . အားတင်ထားပါ"လို့ ပြောလိုက်သည်။ သို့သော် မျက်နှာပေါ်မှ မျက်ရည်စများကား ဆီးမနိုင်တားမရ စီးဆင်းသွားသည်။

"ကျနော့်. . မိန်းမကို ပြောလိုက်ပါ. . ကျနော်ဟာ မိသားစုအပေါ်မှာ တာဝန်ကျေခဲ့တဲ့ ယောကျ်ားကောင်း တစ်ယောက်မဟုတ်ခဲ့ဘူး။ သူ့ကို လမ်းခုလတ်မှာ ထားခဲ့ပြီး ထွက်သွားခဲ့ရတဲ့အတွက် တောင်းပန်ပါတယ်လို့ ပြောပြပေးလိုက်ပါ"လို့ ပြောသည်။ ပခုံးပေါ်မှာ ဓားဒဏ်ရာမှာ ပြင်းသည်။ သွေးများ ဒလဟောထွက်လာသည်။ အဝတ်စများဖြင့်ပိတ်ထားသော်လည်း အဝတ်စကြားမှ သွေးစများ စီးဆင်းနေသည်။

"ဘာတွေကိုပြောနေတာလဲ အစ်ကိုရယ်။ မဟုတ်တာတွေ ပြောမနေပါနဲ့တော့"လို့ ဖက်ထားတဲ့ သူ့ညီဆိုသူက ပြောသည်။ သူ့ညီသည် ကျိတ်မနိုင် ဆီးမရ ငိုနေသည်။ အသံပြာဖြင့် တားဆီးလိုက်သည်။

"ငါ့ကို မတားပါနဲ့တော့ ညီ. . ငါ့ကိုယ်ငါ သိပါတယ်. . ."

"အရှင်ဘုရား တပည့်တော်ကို . . ခွင့်လွှတ်ပါ. . တိုက်ပွဲမပြီးဆုံးသေးခင် တပည့်တော် သွားရပါတော့မယ်။ တပည့်တော် ခေါင်းရှောင်ထွက်သွားတာတော့ မဟုတ်ပါ။ အသက်တစ်ချောင်းကို ပေးလှူသွားရသည့်အတွက်. . ."

"အားတင်းထားပါ တကာတော်. . စိတ်အစဉ်ကို တရားနဲ့ထိန်းပါ"

"ဒီမြေ၊ ဒီရေ ၊ ဒီလေဟာ တပည့်တော်တို့ရဲ့ ဘိုးဘွားတွေက သွေးသားတွေ၊ အရိုးတွေနဲ့ တည်ဆောက်ခဲ့တာပါ။ သွေးမြေပေါင်း မြောက်မြားစွာနဲ့ ပေးဆပ်ထားခဲ့တာပါ။ ဒီမြေကို ကာကွယ်ဖို့ တပည့်တော်ကိုယ်ကကျခဲ့တဲ့ သွေးစက်တွေနဲ့ ဒီမြေအတွက် တပည့်တော် ကျေနပ်ပါတယ်။ စိတ်မကောင်းတာက တိုက်ပွဲမပြီးဆုံးဘဲနဲ့ ထွက်ခွာသွားရတော့မယ်ဖြစ်တဲ့အတွက် ခွင့်လွှတ်ပါ အရှင်ဘုရား"ဆိုပြီး လက်အုပ်ချီလိုက်သည်။ မျက်နှာရှေ့တည့်တည့်တွင်ရှိသော အောင်မင်္ဂလာဆုတောင်းပြည့်စေတီကို ရှိခိုးကန်တော့လိုက်သည်။

ပထမတစ်ချက်. .

နောက်တစ်ချက်. .

နောက်တစ်ချက်. . . ခေါင်း ငိုက်စိုက်ကျသွားသည်။ အသံတိတ်သွားသည်။ ခန္ဓာကိုယ်တစ်ခုလုံး ပျော့ခွေသွားသည်။ ဘာမှ မလှုပ်တော့။ ဆရာတော်ဘုရားမှ လက်ကို စမ်းလိုက်သည်။ ခေါင်းခါလိုက်သည်။ ဘေးနားမှ အမျိုးသမီးများနှင့် လူထုပရိသတ်ကလည်း ငိုကြွေးကာ မျက်ရည်ဖြေမဆည်နိုင်ဖြစ်နေကြသည်။ ရခိုင်ပြည်သူတစ်ရပ်လုံး၏ မျိုးချစ်အာဇာနည်ခေါင်းဆောင်တစ်ဦး ကျဆုံးခဲ့ရသည်ကို မြင်ရသူတိုင်း ယူကျုံးမရ နှမြောတသဖြစ်ကြရသည်။

လူခါးလည်း မျက်ရည်ကို ဆည်မရ။ ရေကာတာပေါ်မှ ရေကို လွှတ်ချလိုက်သလိုမျိုး စီဆင်းလာသည်။ သူသေပြီဟု အသိစိတ်က သိသော်လည်း နှလုံးသားက လက်မခံချေ။ နှလုံးသားက ငြင်းဆန်မြဲ ငြင်းဆန်နေသည်။ တစ်ခါတလေတွင် သူရဲကောင်းတို့သည် ဘေးနားတွင် စောင့်ကြည့်နေသူအား သိမ်ငယ်စေ၏ဟု လူခါးထင်မိသည်။ သို့သော် လူခါး ဘာမှ မမြင်မိတော့။ အရှေ့ဘက်တွင် မီးခိုးလုံးများကိုတောင် ဝိုးတိုးဝါးတား ဖြစ်သွားသည်။

သုံးဘီးဆိုင်ကယ်ရောက်လာသည်။ အပေါ်ပိုင်းတွင် ကိုယ်ဗလာဖြစ်နေသော ခန္ဓာကိုယ်နှင့် အောက်ပိုင်းတွင် အိမ်က ထွက်လာခါနီး သူ့ဇနီးက တားမြစ်ခဲ့သည့် နိမိတ်ဖတ် ဂျင်းဘောင်းဘီနှင့် ဆိုင်ကယ်ပေါ်ကို တင်လိုက်သည်။ ဆိုင်ကယ် ထွက်သွားသည်။ လူများကား အပူမီးကို ဆည်တားမရ။ ဒီမြေ၊ ဒီရေ၊ ဒီလေမှာ အသက်ပေါင်းမြောက်မြားစွာ၊ သွေးစက်ပေါင်းမြောက်မြားစွာနှင့် အရိုးပေါင်းမြောက်မြားစွာတို့ကို ငြမ်းခံထားသည်။



ခန္ဓာကိုယ်တစ်ခုလုံး ကိုက်ခဲလာသည်။ မျက်လုံးများသည် ပြာဝေလာသည်။ လူက မိုက်ကနဲဖြစ်သွားသည်။ လူခါးသည် ဘာမှ မသိတော့ မေ့မြောသွားလေတော့သည်။

*×*×*

## (၂၇)

“ဟိုက်. . လူမိုက်. . မင်းကိုမင်း လူ့ဘဝကို သိတယ် သူများထက် တော်တယ် တတ်တယ်လို့ ကြွေးကြော်ခဲ့တယ်။ သူများတွေထက် စာပေကို လိုက်စားခဲ့တယ်ဆို။ ဒါတွေကို မင်းမေ့သွားပြီလား။ လူဆိုတာ သေမျိုး။ အခုသေသွားတာ မြင့်မြတ်တဲ့ သေခြင်းမျိုး။ ကိုယ့်ပြည်၊ ကိုယ့်မြေကို ကာကွယ်ရင်းနဲ့ သေသွားတာ ဂုဏ်ယူရမယ်။ သူ ကောင်းရာဘဝကို ရောက်အောင် ဆုတောင်းပေးရမယ်။ သူ့လိုနောက်ထပ် ဘဝပေါင်းများစွာ မပေးဆပ်ရဖို့အတွက် ကာကွယ်ရအုံးမယ်။ သီတာထွေးလို နောက်ထပ် သီတာထွေးတွေ ဆက်မဖြစ်အောင် သက်ရှိဖြစ်တဲ့ မင်းတို့တာဝန်ပဲ။ တိုက်ပွဲကား မပြီးသေးဘူး။ မင်း သွေးကြောင်သွားပြီလား။ လူဆိုတာ



ကိုယ်လျှောက်ခဲ့တဲ့ လမ်းပေါ်မှာ ကိုယ်အကောင်းဆုံး လုပ်ခဲ့ကြရတာပဲ မဟုတ်လား။ ဒီတိုက်ပွဲကို ငြိမ်းချမ်းအောင် မင်းတို့လုပ်ဆောင်ရလိမ့်မယ်။ ဒီမြေကို မင်းတို့ အသက်တွေနဲ့ ကာကွယ်ရမယ်။ ဒီမြေမှာ အသက်တွေ သွေးတွေနဲ့ရေးခဲ့သည့်မြေဖြစ်တယ်. . ”

ဤအသိစိတ်ကြောင့်ပင် လူခါးလန့်နိုးလာသည်။ အသိများသည် ဘယ်ကရောက်လို့ ရောက်လာမှန်းမသိ။ မျက်လုံးကို ဖွင့်ကြည့်လိုက်တော့ အိမ်ကိုရောက်နေသည်။ မိန်းမ၊ အမေတို့က ကြည့်နေကြသည်။ မျက်နှာပေါ်မှ မျက်ရည်စများကား မခန်းခြောက်သေး။ ကိုလှထွန်းဆုံးပါးသွားမှုမှာ လူခါး၏ ပယောဂလွတ်ခဲ့ရဲ့လား။ သူ့ကို သူ့မိန်းမက စုတ်ပြဲနေသော ဘောင်းဘီကို ဝတ်မသွားဖို့နဲ့ သူမရဲ့အိမ်မက် မကောင်းကြောင်းကို ပြောပြပြီး တားခဲ့၊ သတိပေးခဲ့သည်ကို လူခါးကို ပြောပြခဲ့သည်။ လူခါးနှင့် သူသာသိသည့်ကိစ္စ။ အမှန်ဆို လူခါး တားခဲ့သင့်သလား။ ဒီအချိန်မှာ လူတစ်ယောက်က လူတစ်ယောက်ကို တားဆီးရမည့် အချိန်မဟုတ်ပေ။ လူမျိုးတစ်မျိုးအတွက် အသက်ထက် အရေးကြီးသည်။ အသက်နှင့် လူမျိုး၊ သွေးနှင့် လူမျိုး လဲလှယ်နေရသည့် အချိန်အခါမျိုးမဟုတ်လား။ ငါတို့ကား ယောကျ်ား၊ လူ့လောကသစ္စာနယ်မြေထဲမှာ ခဏတဖြုတ်လာနေပြီး ပြန်သွားရမည့်သူ။

လူဆိုသည်မှာ ရှေးတိုးတက်မှုအတွက် ဘာမှ တတ်စွမ်းမှုမရှိတဲ့ သက်မဲ့ပစ္စည်းမဟုတ်။ လူတို့ရဲ့ နောက်ကွယ်မှာ ရှည်လျားတဲ့ တိုးတက်ဖြစ်ထွန်းမှုရှိသေးသည်။ လူခါးသည် ယောကျ်ားပီပီ အသက်ရှင်နေသမျှ ကာလပတ်လုံး လူသားတစ်ဦးရဲ့ တာဝန်နှင့် ဝတ္တရားကို စွမ်းအားရှိသမျှ ဆောင်ရွက်သွားရမည်သာတည်း။

ဤလူ့အဖွဲ့အစည်းတွင် တာဝန်နှင့် ဝတ္တရားမှ ကင်းလွတ်ပြီး နေနိုင်သော လူသားစစ်စစ်ဟူ၍ ရှိနိုင်ပါမည်လား။ ယခုလည်း သိကျွမ်းခဲ့သည်မှာ တစ်ပတ်တောင် မပြည့်သေးသော ကိုလှထွန်းတစ်ယောက် လူ့လောကမှ ဂုဏ်သိက္ခာရှိရှိထွက်ခွါသွားလေတော့သည်။ သူ့ရဲ့ ခန္ဓာကိုယ်မှ သွေးနဲ့ ဒီမြေ ဒီရေကို ဆေးကြောသန့်စင်ပေးခဲ့ခြင်းပင်ဖြစ်သည်

မဟုတ်လော။ သူ့လိုပင် တခြားသော ညီရင်းအစ်ကို့ သွေးရင်းပမာ ညီအစ်ကိုတော်တွေ၊ ဘိုးဘွားတွေရဲ့သွေးတွေကား ရခိုင်မြေပေါ်တွင် ခြောက်သွေ့မသွားခင် နောက်ထပ် သွေးမြေတို့ ကျခဲ့ရသည်။ သွေးမြေတို့သည် ကျမြဲ ကျဆဲ ကျလျက်ရှိနေဆဲပင်. . .။

(ယနေ့သည် သတင်းဖြစ်လျှင် မနက်ဖြန်တွင်
သမိုင်းဖြစ်သွားလိမ့်မည်။)

ဝေဟင်အောင်

## သုခမိန်(စစ်တွေ)၏ ရင်တွင်းစကား

ရခိုင်တို့သည် ဓညဝတီ၊ ဝေသာလီ၊ လေးမြို့၊ မြောက်ဦး ဟူ၍ ခေတ်(၄)ခေတ်ကို ဘီစီ (၃၃၂၅)မှ အေဒီ(၁၇၈၄)ခုနှစ်ထိ ဖြတ်သန်းခဲ့ရပေသည်။

၁၆- ရာစု မဂိုအင်ပါယာ၏နယ်ပယ်ချဲ့ထွင်မှုကြောင့် ရခိုင့်နိုင်ငံတော်နှင့် အမျိုး၊ ဘာသာ၊ သာသနာ ကွယ်ပျောက်သွားမည့်အရေးကို မြောက်ဦးခေတ် ရခိုင်ဘုရင် စန္ဒသုဓမ္မက ကောင်းမွန်စွာ တားဆီးကာကွယ်စောင့်ရှောက်ပေးနိုင်ခဲ့သည်။

၁၉- ရာစု အစောပိုင်းက ဝင်ရောက်လာသော အင်္ဂလိပ်ကိုလိုနီနယ်ချဲ့သမားတို့နှင့် အတူပါလာသည့် ဘင်္ဂလီကုလားများ၏ ဆိုးမွေကြောင့် ၁၉၄၂ ခုနှစ်တွင် ရခိုင်ပြည်နယ်အတွင်း လူမျိုးရေးပဋိပက္ခ ဖြစ်ပွားခဲ့ရသည်။

ဤရခိုင်ပြည် လူမျိုးရေးပဋိပက္ခကြောင့် ရခိုင်သူ၊ ရခိုင်သားထောင်ပေါင်းများစွာ၊ သွေးမြေကျ၊ မြေခခဲ့ရသည်ကို သမိုင်းသင်ခန်းစာ ယူနိုင်ရန်၊ ရခိုင်ပြည်နယ် ၊ ဘူးသီးတောင်မြို့၊ မြတောင်ကျောင်း ဆရာတော် ဦးဣန္ဒာစရိယဝံသက ၁၃၂၆-ခု၊ သီတင်းကျွတ်လပြည့်ကျော်

(၁၀)ရက်၊ စနေနေ့တွင် မော်ကွန်းစာအဖြစ် မှတ်တမ်းတင် ရေးသားခဲ့ပေသည်။

နှစ်ပေါင်း (၇၀)ကြာညောင်းခဲ့ပြီးမှ ၂၀၁၂ ခုနှစ်၊ ဇွန်လမှ စတင်၍ ရခိုင်ပြည်နယ်အတွင်း ဖြစ်ပွားခဲ့သော၊ လူမျိုးရေးပဋိပက္ခတွင်လည်း ရခိုင်သူ၊ ရခိုင်သားများစွာတို့ အသက်အိုးအိမ်၊ စည်းစိမ်ပျက်စီးကာ သွေးမြေကျမြေခဲ့ရသည်။

ဤသို့ ရခိုင်သူ၊ ရခိုင်သားတို့၏ ရင်နင့်ခါးသီးစွာ၊ တွေ့ကြုံခံစားခဲ့ကြရသော သမိုင်းဖြစ်ရပ်မှန်များကို စာတင်ကာ ရေးဖွဲ့ထားသော စာရေးဆရာ ဝေဟင်အောင်၏ "သွေးနဲ့ရေးသည့် မြေ" ဝတ္ထုသည် ဒဏ္ဍာရီဆန်ဆန်၊ ပုံပြင်ဆန်ဆန်မဟုတ်ဘဲ သမိုင်းတွင် မှတ်တမ်းကျန်ရစ်မည့် တကယ့်ဖြစ်ရပ်မှန် ဝတ္ထုတစ်ပုဒ်ဖြစ်ပေသည်။

ရှေးပဝေသဏီကပင် မြန်မာနိုင်ငံအတွင်း အေးအတူပူအမျှ မှီတင်းနေထိုင်ကြသည့် တိုင်းရင်းသား ညီအစ်ကို မောင်နှမများအနေဖြင့်၊ အတိတ်က ကြုံဆုံခဲ့ရသည့်ဖြစ်ရပ်နှင့် ပစ္စုပ္ပန်တွင် ကြုံတွေ့ခံစားရသည့် အခြေအနေအရပ်ရပ်ကို သင်ခန်းစာယူ၍ နောင်အနာဂတ်တွင် ဖြစ်ပေါ်လာမည့် မျိုးဆက်သစ်တို့ ယခုလို ဆင်းရဲ ဒုက္ခမျိုး မတွေ့ကြုံ၊ မခံစားရစေဖို့ ရင်တွင်းစကား ဖွင့်ဟပါရစေ။

**သုခမိန်(စစ်တွေ)**

## ၂၀၁၂ ခုနှစ် ဇွန်လ သတင်းမှတ်စုတိုများကို ဖော်ပြပေးလိုက်ပါသည်။

<u>၂၈. ၅. ၂၀၁၂ ရက်နေ့</u>

* ညနေ ၅ နာရီ ၁၅ မိနစ်မှာ ရမ်းဗြဲမြို့နယ်၊ ကျောက်နီမော်အုပ်စု၊ သပြေချောင်းကျေးရွာမှ မသီတာထွေး(၂၆နှစ်)ကို ကျောက်ထရံ ဘင်္ဂလီကုလားရွာမှ ထက်ထက်(ခ)ရော်ဇျီး၊ ရောဖီး၊ ခိုးဇျီး ဘင်္ဂလီကုလား သုံးယောက်မှ ပစ္စည်းလု၊ မုဒိန်းကျင့်၊ သတ်ဖြတ်ခဲ့သည်။

<u>၃၀. ၅. ၂၀၁၂ ရက်နေ့</u>

* တရားခံ (၃)ယောက်အား ကျောက်နီမော်ရဲစခန်းမှာ ဖမ်းဆီးရမိခဲ့သည်။ ဒေသခံ (၁၀)ရွာမှ ရခိုင်များရောက်ရှိလာပြီး တရားခံများကို တောင်းဆိုခဲ့ကြသည်။

<u>၃၁. ၅. ၂၀၁၂ ရက်နေ့</u>

* ရမ်းဗြဲလူထုမှ မသီတာထွေးကို အဓမ္မဗလက္ကာရ ကျင့်ကြံမှုကို မကျေနပ်သောကြောင့် မြို့နယ်အုပ်ချုပ်ရေးမှူးရုံးကို ချီတက်ဆန္ဒပြခဲ့သည်။

* ရသေ့တောင်မြို့နယ် စေတီပြင်ကျေးရွာတွင် တာဘလစ်(ခေါ်) အစ္စလာမ်နယ်လှည့်အဖွဲ့မှ ဗလီတစ်လုံးဆောက်ရန် ငွေများပေးအပ်ခဲ့ပြီး ဒေသခံများနှင့် အချင်းဖြစ်ပွားခဲ့သည်။

<u>၂. ၆. ၂၀၁၂ ရက်နေ့</u>

*      ဝန်ကြီးများ သီတာထွေးအတွက် အလှူငွေလာရောက်ပေးအပ်သော (၇)သိန်းကို မသီတာထွေးအမိ ဒေါ်မြမှ မေးခွန်းထုတ်ခဲ့သည်။

*      တောင်ကုတ်မြို့တွင် ဝံသာနုရက္ခိတတောင်ကုတ်အဖွဲ့က စာရွက်များကို မြို့အနှံ့ ဝေငှခဲ့သည်။

<u>၃. ၆. ၂၀၁၂ ရက်နေ့</u>

*      သံတွဲမှ ရန်ကုန်သို့ မောင်းနှင်လာသော ရှုံးမသစ္စာ ခရီးသည်တင်ကားပေါ်တွင် ပါလာသော မွတ်ဆလင် (၁၀)ဦး တောင်ကုတ်မြို့တွင် သတ်ဖြတ်ခံရသည်။ သေဆုံးသူ မွတ်ဆလင်များမှာ တောင်ကြီးမြို့နယ်မှ (၆)ဦး၊ မြောင်းမြမြို့နယ်မှ (၂)ဦးနှင့် သံတွဲမြို့နယ်မှ (၂)ဦး ဖြစ်သည်။

*      ညနေပိုင်းတွင် စစ်တွေမြို့၊ အမှတ်(၁) ရဲစခန်းရှေ့တွင် စက်ရုံစု (နာဇီရွာ)ရပ်ကွက် ကိစ္စနှင့်ပတ်သတ်ပြီး ဦးအောင်သန်းဝေကိစ္စနှင့် အခင်းဖြစ်ပွားခဲ့သည်။ အခင်းတွင် လုံခြုံရေးများမှ ပစ်ခတ်မှုကြောင့် (၁၂)ဦး ဒဏ်ရာရပြီး ဆေးရုံတက် ဆေးကုသခံခဲ့ရသည်။ (၄)ဦး ခြေဖြတ်လိုက်ရသည်။ ရဲတပ်ရင်း (၁၂)မှ ရဲသားတစ်ဦး ကျည်ရှင်းရင်း သေဆုံး။

<u>၄. ၆. ၂၀၁၂ ရက်နေ့</u>

*      နိုင်ငံပိုင်သတင်းစာတွင် တောင်ကုတ်မြို့ အကြမ်းဖက်ခံရမှုကိစ္စကို ရပ်မိရပ်ဖများနှင့် ပူပေါင်းဆောင်ရွက်ပြီး ရပ်ရွာတည်ငြိမ်အေးချမ်းသာယာရေးအတွက် တာဝန်ရှိသူများက ထိရောက်စွာ ဆောင်ရွက်သွားမည်ဟု ဖော်ပြထားသည်။

*      ဒေါ်အောင်ဆန်းစုကြည်မှ လူများစုက လူနည်းစု အနိုင်မကျင့်သင့်ဘူးဟု သတင်းဌာနများကို ပြောကြားခဲ့သည်။

*      စစ်တွေမြို့ စက်ရုံစုရပ်ကွက်အတွင်း ဖြတ်သွားသော ဆိုင်ကယ်တစ်စီးအား ဘင်္ဂလီကုလားများမှ ဖျက်စီးခဲ့ပြီး သွားရောက်ကြည့်ရှုခဲ့သည့်



ခညဝတီရပ်ကွက်မှ ဗိုလ်သိန်းဆိုသူ အကြမ်းဖက်ခံရသောကြောင့် ဒဏ်ရာရရှိခဲ့သည်။

<u>၅. ၆. ၂၀၁၂ ရက်နေ့</u>

*      နိုင်ငံပိုင် သတင်းစာတွင် ဖော်ပြထားသော မွတ်ဆလင် ကုလားအသုံးအနှုန်းကို ကန့်ကွက်ခဲ့သည့်အတွက် နိုင်ငံပိုင် ပြန်ကြားရေးဝက်ဆိုက်တွင် ပြည်တွင်းနေ အစ္စလာမ်ဘာသာ ကိုးကွယ်သူအဖြစ် ဖတ်ရှုရန် ဖော်ပြထားခဲ့သည်။

*      အစ္စလာမ်အဖွဲ့ချုပ်က လူစုလူဝေးဖြင့် ဆန္ဒထုတ်ဖော်ခြင်းကို မပြုလုပ်ရန် တောင်းပန်ထားကြောင်း၊ ဥပဒေအရ အရေးယူရန် တိုက်တွန်းထားကြောင်းကိုပါ သတင်းစာတွင် ဖော်ပြပါရှိသည်။

*      အစ္စလာမ်အဖွဲ့ (၅)ဖွဲ့ပေါင်းပြီး မေတ္တာရပ်ခံစာ ထုတ်ပြန်ခဲ့သည်။

*      တောင်ကုတ်တွင် အကြမ်းဖက်ခံခဲ့ရသည့် မွတ်ဆလင် (၁၀)ဦးအား သံတွဲ မွတ်ဆလင် သင်္ချိုင်းတွင် သဂြိုဟ်လိုက်သည်။

<u>၆. ၆. ၂၀၁၂ ရက်နေ့</u>

*      ဩစတြေးလျနိုင်ငံမှ နိုင်ငံခြားရေးဝန်ကြီး မြန်မာနိုင်ငံကို လာရောက်လည်ပတ်ခဲ့သည်။

*      တရားဥပဒေရုံးမှ အမှုထမ်းတစ်ယောက် အောင်မင်္ဂလာ (အင်ပါလာ)ရပ်ကွက်အတွင်းသို့ ကဘား(ခြောက်ဆွဲနှင့် ထမင်းရောကြော်) သွားစားရာမှ အကြမ်းဖက်ခံခဲ့ရပြီး ဒဏ်ရာ ပြင်းထန်စွာ ရရှိခဲ့သည်။

*      စုံစမ်းစစ်ဆေးရေးအဖွဲ့ကို ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စု အရအဖွဲ့ အမှတ်(၄၃/၂၀၁၂)ကို အစိုးရပိုင်သတင်းစာများတွင် ထုတ်ပြန်ခဲ့သည်။ ဗိုလ်မှူးချုပ် ကျော်ဇံမြင့်(ဥက္ကဋ္ဌ ဒုတိယဝန်ကြီး၊ ပြန်ထဲရေးဝန်ကြီးဌာ)က တာဝန်ယူခဲ့သည်။

**၇. ၆. ၂၀၁၂ ရက်နေ့**

* ၈၈ မျိုးဆက်ကျောင်းသားများအဖွဲ့မှ မေတ္တာရပ်ခံ ထုတ်ပြန်ချက်ကို ထုတ်ပြန်ခဲ့သည်။ တခြားအဖွဲ့အစည်းအသီးသီးမှ ထုတ်ပြန်ကြေငြာချက်များ ထုတ်ပြန်ခဲ့ကြသည်။
* ထိုင်းနိုင်ငံကို သွားရောက်လည်ပတ်မည့် နိုင်ငံတော်သမ္မတ ဦးသိန်းစိန်၏ ခရီးစဉ်ကို ဖျက်သိမ်းလိုက်သည်။

**၈. ၆. ၂၀၁၂ ရက်နေ့**

* မောင်တောမြို့နှင့် မောင်တောမြို့နယ်တို့တွင် အကြမ်းဖက်မှုများကို ဘင်္ဂလီကုလားတို့မှ နေ့လည် (၁)နာရီမှ စတင်ခဲ့သည်။ ရခိုင်ပြည်နယ်သမိုင်းတွင် အဆိုးရွားဆုံး အကြမ်းဖက်မှုနှင့် အပျက်အစီး အများဆုံးဖြစ်သည်။
* စစ်တွေမြို့တွင် မှန်စီသုသာန်သို့ အသုဘသွားသော ကားများကို ဘုမေဘင်္ဂလီကုလားရွာမှ ခဲများဖြင့် ပစ်ပေါက်မှု ဖြစ်ပွားခဲ့သည်။
* မောင်တောမြို့နယ်တွင် ၁၄၄ (ညမထွက်ရအမိန့်)ကို ထုတ်ပြန်ခဲ့သည်။
* မြန်မာ-ဘင်္ဂလားဒေ့ရှ် ကုန်သွယ်ရေးကို ရပ်ဆိုင်းခဲ့သည်။

**၉. ၆. ၂၀၁၂ ရက်နေ့**

* ဆယ်တန်းအောင်စာရင်းထွက်သည်။
* GTC ကျောင်းသားတစ်ဦး အသတ်ခံရပြီး အလောင်းကို မြို့နယ်အားကစားရုံ နောက်ဘက်မှ ရရှိခဲ့သည်။
* မောင်တောမြို့ တည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေးအဖွဲ့ကို နိုင်ငံတော် သမ္မတအမိန့်နှင့် ဖွဲ့စည်းခဲ့သည်။ နယ်စပ်ဒေသလူဝင်မှုကြီးကြပ်ရေးဌာနမှ ဦးအောင်ကြီးကို ဥက္ကဋ္ဌအဖြစ် ခန့်အပ်ခဲ့သည်။



**၁၀. ၆. ၂၀၁၂ ရက်နေ့**

* မသီတာထွေးကို မုဒိန်းကျင့် လူသတ်မှုတွင် အဓိက တရားခံ ထက်ထက်(ခ) ရှော်ချီး ကျောက်ဖြူထောင်တွင် ကိုယ့်ပုဆိုးနှင့် ကိုယ်ကြိုးဆွဲချသတ်သေ။
* စစ်တွေမြို့တွင် မင်းဂံရပ်ကွက်၊ မြို့သူကြီးရပ်ကွက်ရှိ ပိုက်သည်ရွာ၊ တရားသိစုရပ်ကွက်၊ ရွှေပြားရပ်ကွက်တို့တွင် အကြမ်းဖက်မှုဖြစ်ပွားခဲ့ပြီး မီးလောင်မှုများဖြစ်ပွားခဲ့သည်။
* မောင်တောမြို့တွင်လည်း အကြမ်းဖက်မှု မီးရှို့မှုအနည်းငယ် ဖြစ်ပွါးခဲ့သည်။
* ကျောက်ဖြူမြို့၊ သံတွဲမြို့၊ ရမ်းဗြဲမြို့တို့တွင်လည်း အကြမ်းဖက်မှု အနည်းငယ် ဖြစ်ပွားခဲ့သည်။
* ညနေပိုင်းတွင် ပုဒ်မ ၁၄၄၊ ညမထွက်ရ အမိန့်ကို စစ်တွေ၊ ကျောက်ဖြူ၊ သံတွဲ၊ ရမ်းဗြဲမြို့နယ်တို့တွင် ထုတ်ပြန်ခဲ့သည်။
* ဥပဒေကဲ့သို့ အာဏာတည်သော အမိန့် (၁/၂၀၁၂)ကို ထုတ်ပြန်ခဲ့သည်။
* ညနေပိုင်းသတင်းတွင် နိုင်ငံတော် သမ္မတမှ ရေဒီယို၊ တီဗွီတို့မှတစ်ဆင့် နိုင်ငံတော်သို့ မိန့်ခွန်းပြောကြားခဲ့သည်။
* ကျောက်ဖြူမြို့အနီး ပင်လယ်ပြင်တွင် "ရွှေဇေယျာအောင်" သင်္ဘောနစ်မြုပ်သွားခဲ့သည်။
* ရန်ကုန်မြို့၊ ရွှေတိဂုံစေတီတော်တွင် ရခိုင်ပြည်နယ်က လက်ရှိပဋိပက္ခကြောင့် သေဆုံးသွားသူများအတွက် ဆုတောင်းပွဲ ပြုလုပ်ခဲ့ကြသည်။
* ရခိုင်အရေးအခင်းနှင့် ပတ်သတ်ပြီး ဖော်ပြချက်များကို ရန်ကုန်တိုင်းဒေသကြီး အစိုးရမှ ကန့်သတ် တားမြစ်ခဲ့သည်။
* NLD နှင့် မဟာမိတ် တိုင်းရင်းသားများ စုပေါင်းပြီး ကြေညာချက်တစ်စောင်ထုတ်ပြန်ခဲ့သည်။
* UNHCR အဖွဲ့မှ တာဝန်ရှိသူ ဒေါ်မြနန္ဒာအောင်ထံမှ မသက်ာ

ဖွယ်ရာ စာရွက်စာတမ်း အထောက်အထားများ သိမ်းဆည်းရမိသည် စစ်တွေလေဆိပ်၌ ခေတ္တ ထိန်းသိမ်းခံရပြီး ပြန်လွှတ်ပေးခဲ့သည်။ သူမနှင့် အတူ တခြား (၂)ယောက်ကိုပါ ထိမ်းသိမ်းခဲ့သည်။

## ၁၁. ၆. ၂၀၁၂ ရက်နေ့

* စစ်တွေမြို့ စက်ရုံစု(နာဇီရွာ)ရပ်ကွက်၊ သံထော်လီကျေးရွာများတွင် အကြမ်းဖက် မီးရှို့မှုများဖြစ်ပွားခဲ့သည်။
* မသီတာထွေးကို မုဒိန်းကျင့်၊ သတ်ဖြတ်သွားသည့်အမှုကို စတင် စစ်ဆေးသည်။
* မောင်တောမြို့နယ်တွင်လည်း အကြမ်းဖက် မီးရှို့မှု ဆက်ဖြစ်ခဲ့ သည်။
* အဲယား ကမ္ဘောဇ လေယဉ်ကြောင်းလိုင်းကို တစ်ပတ်ထိ ရပ်နား ခဲ့သည်။
* စစ်တွေမြို့သို့ ကန်တော်ကြီးရေကန်မှ ရေပေးဝေမှုအား ရပ်နား ထားလိုက်သည်ဟု စစ်တွေမြို့ စည်ပင်သာယာမှ ထုတ်ပြန်ထားခဲ့သည်။
* ရခိုင်ပြည်နယ်အရေးအခင်းနှင့် ပတ်သတ်ပြီး မြန်မာနိုင်ငံ မျိုးချစ် မြန်မာများဟု ရည်ညွှန်းထားသူများက ရန်ကုန်မြို့ မြို့တော်ခန်းမရှေ့ ဆန္ဒထုတ်ဖော်ခဲ့ကြသည်။
* ရခိုင်တိုင်းရင်းသား တိုးတက်ရေးပါတီမှ ထုတ်ပြန်ချက်တွင် ဒုက္ခသည်ပေါင်း တစ်သောင်းခွဲအထက်တွင်ရှိသည်ဟု ထုတ်ပြန်ခဲ့သည်။
* ရန်ကုန်မြို့ ဆူးလေဘုရားအနီးတွင် သမ္မတမိန့်ခွန်းကို ထောက်ခံမှု ဖြင့် ဆန္ဒထုတ်ဖော်ခဲ့သည်။

## ၁၂. ၆. ၂၀၁၂ ရက်နေ့

* မသီတာထွေးအမှုအား ဆက်လက် စစ်ဆေးခဲ့သည်။
* စစ်တွေမြို့၊ ကမ္ဘောဇဘဏ်ရှေ့၊ လမ်းမကြီးပေါ်တွင် ဓာတ်ဆီ ပုလင်းဖြင့် မီးရှို့ဖို့ ဝင်ရောက်လာသည့် အသက်(၇)နှစ်လောက်ရှိမည့်



ဘင်္ဂလီကုလား လူငယ်တစ်ဦးအား ဖမ်းဆီးရာတွင် ထွက်ပြေးရာမှ သေဆုံးခဲ့ရသည်။

* စစ်တွေမြို့တွင် ကသည်းရပ်ကွက်၊ ကုန်တန်းရပ်ကွက်၊ စက်ရုံစု (နာဇီရွာ)ရပ်ကွက်၊ ဓညဝတီရပ်ကွက်၊ မြို့သူကြီးရပ်ကွက်၊ ပြည်တော် သာရပ်ကွက်မှ စံပြရွာတို့တွင် မီးရှို့အကြမ်းဖက်မှုဖြစ်သည်။
* ဘင်္ဂလားဒေ့ရှ်နိုင်ငံသို့ ထွက်ပြေးသည့် ဘင်္ဂလီကုလားများအား ဘင်္ဂလားဒေ့ရှ်က လက်မခံဘဲ ပြန်လည်နှင်ထုတ်ခဲ့သည်။ ဘင်္ဂလားဒေ့ရှ် နိုင်ငံခြားရေး ဝန်ကြီး ဒီပူမွန်နီက မြို့တော်ဒါကာတွင် လက်မခံနိုင် ကြောင်းပြောကြားခဲ့သည်။
* မြန်မာနိုင်ငံလုံးဆိုင်ရာ အစ္စလာမ်အဖွဲ့ခေါင်းဆောင်တွေနှင့် နိုင်ငံတော်သံဃမဟာနာယက ဆရာတော်ကြီးများ ငြိမ်းချမ်းရေးအတွက် လျှောက်ထား ဆွေးနွေးခဲ့ကြသည်။ MIS တွင် တွေ့ဆုံခဲ့ကြပြီး Sky Net ရုပ်သံလိုင်းမှ တိုက်ရိုက် ထုတ်လွှင့်ခဲ့သည်။
* သံတွဲ မြို့နယ် ဂျိတ်တောကျေးရွာ သောက်ရေကန် အဆိပ်ခတ်ခံရ သောကြောင့် ကန်ထဲရှိ ငါးများ သေဆုံးခဲ့ရသည်။
* ပေါက်တောမြို့တွင် အကြမ်းဖက် မီးလောင်မှုများ ဖြစ်ပွားခဲ့သည်။
* တောင်ကုတ်မြို့တွင် ဖျက်စီးခံခဲ့ရသည့် ရိုးမသစ္စာကားကို ရန်ကုန် သို့ ယူဆောင်သွားခဲ့သည်။
* ရန်ကုန်မြို့ ဆူးလေဘုရားတွင် ရခိုင်ပြည်ငြိမ်ချမ်းရေးအတွက် ဆုတောင်းပွဲများ ပြုလုပ်ခဲ့ရာ ရခိုင် ဦးပဥ္စင်း ရှင်ရာဟုလာကို လုံခြုံရေး များက ဖမ်းဆီးခေါ်ဆောင်သွားသည်။
* ဘင်္ဂလီကုလား အကြမ်းဖက်ခေါင်းဆောင် ဒေါက်တာထွန်းအောင် (ခ) နုရ်ဟောက်ကို မောင်တောမြို့တွင် ဖမ်းဆီးခဲ့သည်။

## ၁၃. ၆. ၂၀၁၂ ရက်နေ့

* ကုလမဂ္ဂ အထူးအကြံပေးနှင့် ဒု အတွင်းရေးမှူးချုပ် မစ္စတာ ဗီဂျေ နမ်ဘီးယားနှင့်အတူ ယူအန်အဖွဲ့အစည်းများ ရခိုင်ပြည်နယ်သို့ ရောက်ရှိ

ခဲ့သည်။

* ပေါက်တောမြို့နယ်၊ အမှတ်(၃)ရပ်ကွက်တွင် အကြမ်းဖက်မှု ဖြစ်ပွားခဲ့သည်။

* UNHCR က ဘင်္ဂလားဒေ့ရှ်ကို လူ့သားဆိုင်ရာ အခွင့်အရေးအရ လက်ခံဖို့ တိုက်တွန်းခဲ့သည်။

* အလှူငွေပေးအပ်ရန်အတွက် မြန်မာနိုင်ငံ ဘောလုံးအဖွဲ့ချုပ်၊ ရုပ်ရှင်အဖွဲ့သားများနှင့် ပြည်တွင်းမီဒီယာအချို့ ဒုက္ခသည်များကို လာရောက်လှူဒါန်းခဲ့သည်။

* စစ်တွေမြို့၊ မကျည်းမြိုင်ရပ်ကွက်ထဲရှိ မီးရှို့ဖို့ဝင်လာသူ ဘင်္ဂလီကုလား(၃)ဦးအား ဖမ်းဆီးရရှိခဲ့သည်။

* အစိုးရအာဏာပိုင်များမှ ရခိုင်ပြည်နယ်အခြေအနေကို ထိန်းသိမ်းထားနိုင်ပြီဟု ကြေငြာခဲ့သည်။

* Eleven Media Group (EMG) မှ သဘောထား ကြေညာချက်တစ်စောင် ထုတ်ပြန်ခဲ့သည်။

* တရုတ်နိုင်ငံကူမင်သို့ သယ်ယူမည့် ရွှေသဘာဝဓာတ်ငွေ့လုပ်ငန်းကို ခဏလောက် ရပ်နားထားခဲ့သည်။

* ရခိုင်အရေးအခင်းသည် ဒီမိုကရေစီကို အတားအဆီးဖြစ်စေသည်ဟု ကင်းတားနား ပြောကြားခဲ့သည်။

* စစ်တွေမြို့တွင် တုတ်၊ ဓား လက်နက်များ မကိုင်ဆောင်ရ အမိန့်ကို မြို့နယ်အုပ်ချုပ်ရေးမှူးမှ ထုတ်ပြန်ခဲ့ပြီး တုတ်၊ ဓား၊ လက်နက်များကို သိမ်းဆည်းခဲ့သည်။

* မောင်တောတွင် အကြမ်းဖက်သမား (၂၉)ဦးနှင့် ဓာတ်ဆီပုလင်း (၂၈)ပုလင်း၊ ဓား/လှံ(၂၈)လက်၊ ပုလင်းအလွတ် (၃၄)လုံး တို့ကို ဖမ်းဆီးထိန်းသိမ်းခဲ့သည်။

* ရခိုင်ပြည်နယ်အတွင်းသို့ ရောက်ရှိနေသည့်နိုင်ငံခြားသားများအား ဘေးကင်းစွာ ထွက်ခွာနိုင်ရန် မြန်မာနိုင်ငံဟိုတယ်/ခရီးသွားဝန်ကြီးဌာနမှ စီစဉ်ပေးခဲ့သည်။



**<u>၁၄. ၆. ၂၀၁၂ ရက်နေ့</u>**

* ဘင်္ဂလီကုလား(၂)ယောက်ကို မင်းဂံရပ်ကွက်တွင် ဖမ်းဆီးရမိ။ ထူးခြားသည်မှာ အသံဖမ်းစက်၊ ဓာတ်ပုံကင်မရာ၊ မီးရှို့ရာတွင် သုံးသည့် မီးကွင်းများကို ဖမ်းဆီးရမိသည်။

* ရသေ့တောင်မြို့နယ် ကုန်တန်းကျေးရွာတွင် အကြမ်းဖက် မီးရှို့မှု ဖြစ်ပွါးခဲ့သည်။

* ကုလသမဂ္ဂ ဗီးဂျေနမ်ဘီးယား စစ်တွေမြို့မှ ပြန်လည် ထွက်ခွာခဲ့သည်။

* စစ်တွေမြို့ ဆေးရုံကြီးဘေး ကျောင်းကြီးလမ်းထဲတွင် အမည်မသိသော အလောင်းတစ်လောင်းကို တွေ့ရှိခဲ့သည်။

* ဘင်္ဂလားဒေ့ရှ် အစ္စလာမ်မစ်ပါတီ Jammate e-Islami က ရိုဟင်ဂျာများကို လက်နက်တပ်ဆင်ကာ မြန်မာနိုင်ငံတွင် မငြိမ်သက်မှုဖြစ်စေရန် လှုံ့ဆော်ပေးခဲ့သည်ဟု ဘင်္ဂလားဒေ့ရှ်နိုင်ငံခြားရေးဝန်ကြီးက ဝန်ခံခဲ့သည်။

* ဆွစ်ဇာလန်နိုင်ငံ ဂျာနီဗာတွင် အလုပ်သမားအဖွဲ့ကြီး ညီလာခံ၌ ဒေါ်အောင်ဆန်းစုကြည်မှ ရခိုင်ပြည်နယ်အရေးအခင်းကို ဥပဒေစိုးမိုးမှုမရှိကြောင်း၊ ရခိုင်ဒေသ ပဋိပက္ခမှာ မြန်မာပြည်အတွက် အရေးကြီးတဲ့ သင်ခန်းစာဖြစ်ကြောင်းကို သတင်းစာရှင်းလင်းပွဲတွင် ပြောသွားခဲ့သည်။

* အမေရိကန် သံရုံးယာယီတာဝန်ခံ မိုက်သာရ်စတန်သည် မူဆလင်နှင့် ရခိုင်အဖွဲ့အစည်းများကို သီးခြားတွေ့ဆုံခဲ့ပြီး ရခိုင်ပြည်အခြေအနေကို စိုးရိမ်ကြောင်း ပြောကြားခဲ့သည်။

* စစ်တွေမြို့ရှိ ဘဏ်အချို့ စတင်ဖွင့်လှစ်ခဲ့သည်။

* ဘင်္ဂလီကုလားတို့၏ အကြမ်းဖက်ခေါင်းဆောင် UNHCR/CSSEP အဖွဲ့မှ ချိုလေးမာကို အာလီဆိုသူနှင့်အတူ မောင်တောရဲမှ သုံးမိုင်ဂိတ်တွင် ဖမ်းဆီးခဲ့ပြီး ကျီးကန်းပြင် နစက ဌာနချုပ်သို့ ခေါ်ဆောင်သွားခဲ့သည်။

**၁၅. ၆. ၂၀၁၂ ရက်နေ့**

* စစ်တွေမြို့အတွင်း မီးလောင်သွားခဲ့သည် နေရာများကို တားမြစ်နယ်မြေအဖြစ် အစိုးရက သတ်မှတ်ခဲ့သည်။
* စစ်တွေမြို့တွင် ဈေးဆိုင်အချို့ ပြန်လည်ဖွင့်လှစ်ခဲ့သည်။
* မောင်တောတွင် ဒုက္ခသည်အချို့ နေရပ်များကို ပြန်သွားကြသည်။

အမေရိကန် နိုင်ငံခြားရေး ဝန်ကြီးဌာနမှ ကြေညာချက်တစ်စောင် ထုတ်ပြန်ခဲ့သည်။

* ငွေစက္ကူ (၁၀၀၀၀)ကျပ်တန် ထုတ်ဝေသည်။
* ရခိုင်ပြည်နယ်အစိုးရမှ သတင်းစာရှင်းလင်းပွဲလုပ်ပြီး အပျက်အစီးစာရင်များကို ထုတ်ပြန်ခဲ့သည်။
* ဇွန်လ(၈)ရက်နေ့မှ (၁၃)ရက်နေ့ထိ နေအိမ် ၂၅၂၈ လုံး၊ ရခိုင်တိုင်းရင်းသားအိမ် ၁၁၉၂ အိမ်နှင့် မွတ်ဆလင်အိမ် ၁၃၃၆ လုံး၊ ဘုန်းတော်ကြီးကျောင်း (၉)ကျောင်း၊ ဗလီ(၇)လုံး၊ စာသင်ကျောင်း (၁)ကျောင်း၊ သေဆုံးသူ (၂၉)ဦးတွင် ရခိုင် (၁၃)ဦး၊ မွတ်ဆလင် (၁၆)ဦးဟု နယ်စပ်ရေးရာဝန်ကြီး ဗိုလ်မှူးကြီး ထိန်လင်းက ပြောကြားခဲ့သည်။ စစ်တွေမြို့ပေါ်တွင် ဒုက္ခသည်စခန်း (၃၇)ခုတွင် ဒုက္ခသည် (၃၁၈၈၄) ယောက်နှင့် ဒဏ်ရာရသူ (၃၈)ဦးရှိခဲ့သည်ဟု ရှင်းလင်းခဲ့သည်။
* စစ်တွေမြို့ အမှတ်(၁) ရဲစခန်းရှေ့ အခင်းဖြစ်ပွားမှုအတွက် ရခိုင်တိုင်းရင်းသားများ တိုးတက်ရေးပါတီ (RNDP) ၏ ပါတီဝင် ၄ ဦးနှင့် ရခိုင်အရပ်သား ၄ ဦး ဖမ်းဆီးခံခဲ့ရသည်။
* ရွှေတိဂုံရင်ပြင်ပေါ်တွင် ဘာသာရေးနှင့် မအပ်စပ်သော လူစုလူဝေးကိစ္စများကို တားဆီးပိတ်ပင်လိုက်သည်။
* ကျောက်တော်မြို့နယ်၊ အပေါက်ဝကျေးရွာတွ လူနေထိုင်မှုမရှိသည့် အိမ်(၁၂)လုံး မီးရှို့ခံလိုက်ရသည်။
* ညဥ့်အချိန် မြို့သူကြီးရပ်ကွက်တွင် ဘင်္ဂလီကုလားများသည် ပင်လယ်ပြင်မှ စက်လှေများဖြင့် ဝင်ရောက်ပြီး မီးရှို့ခဲ့သောကြောင့် ကစ္ဆပနဒီ မြစ်ကမ်းစပ်အနီးမှ နေအိမ်အချို့ မီးလောင်ခဲ့သည်။



* ခင်မောင်(ခ) အန္တဝါဆာဒတ် (UNHCR)၊ ခင်ဆွေ(ခေါ်) ကာယာစ်(ကမ္ဘာ့စားနပ်ရိက္ခာအစီအစဉ်)တို့ အပါအဝင် NGO အဖွဲ့အစည်းမှ ထိပ်ပိုင်းခေါင်းဆောင် (၁၀)ဦးလောက်ကို ထိန်းသိမ်းခဲ့သည်။

**၁၆. ၆. ၂၀၁၂ ရက်နေ့**

* စစ်တွေ-ဘူးသီးဘောင် ရေကြောင်းယဉ်များ စတင်ပြေးဆွဲခဲ့သည်။
* အမေရိကန်ပြည်ထောင်စုတွင် နယူးယောက်မြို့တော် ဗဖလိုးမြို့ရှိ မြန်မာ တိုင်းရင်းသားများ စုပေါင်း၍ ဗဖလိုးမြို့ မြို့တော်ဝန်ရုံးရှေ့တွင် ရခိုင်အရေးနှင့် ပတ်သတ်ပြီး ဆန္ဒပြခဲ့ကြသည်။
* နိုင်ငံပိုင် သတင်းစာတွင် မေလ ၂၈ ရက်နေ့မှ ဇွန်လ (၁၄)ရက်နေ့ထိ အကြမ်းဖက်မှု ၇၈ ကြိမ်ဖြစ်ပွားခဲ့ပြီး လူပေါင်း ၅၀ သေဆုံး၊ ၅၄ ဦး ဒဏ်ရာရ၊ အိမ်ပေါင်း ၂၂၃၀ လုံး ဖျက်ဆီးခံရသည်ဟု ထုတ်ပြန်ခဲ့သည်။
* ရခိုင်ပြည်အခြေအနေကို ထိန်းသိမ်းနိုင်ရန်အတွက် ကြက်ခြေနီအဖွဲ့မှ လူ(၄၀)ယောက် လာရောက်ခဲ့သည်။ ဒေသခံ ကြက်ခြေနီ (၅၀၀) ဖြင့် ပူးပေါင်းလုပ်ဆောင်ခဲ့သည်ဟု ဖော်ပြထားသည်။
* စစ်တွေမြို့တွင် ဒုက္ခသည်စခန်း ၆၇ ခုရှိပြီး လူဦးရေ သိန်းနှင့်ချီရှိသည့်အတွက် ကျန်းမာရေးပြဿနာနှင့် ရင်ဆိုင်နေခဲ့ရသည်။

**၁၇. ၆. ၂၀၁၂ ရက်နေ့**

* နယ်စည်းမထား ဆရာဝန်များအဖွဲ့ AZG မှ အကြီးတန်းဝန်ထမ်းဦးကျော်လှအောင် အဖမ်းခံရမှုနှင့် ပတ်သတ်ပြီး သတင်းစာရှင်းလင်းပွဲပြုလုပ်ခဲ့သည်။

**၁၈. ၆. ၂၀၁၂ ရက်နေ့**

* မသီတာထွေးကို မုဒိန်းကျင့်၊ ပစ္စည်းလုယက်သူတို့အား ကျောက်ဖြူထောင်မှ သေဒဏ်ချမှတ်လိုက်သည်။

* တောင်ကိုးရီယားနိုင်ငံ ဆိုးလ်မြို့ရှိ မြန်မာ သံရုံးရှေ့တွင် မြန်မာများက ဆန္ဒပြခဲ့ကြသည်။

* နော်ဝေနိုင်ငံ အိုစလိုမြို့တွင် ငြိမ်းချမ်းရေး နိုဗယ်ဆုသွားယူခဲ့သည့် ဒေါ်အောင်ဆန်းစုကြည်မှ "ရိုင်ဟင်ဂျာဟာ ပြည်တွင်းက မဟုတ်ဘဲ ပြည်ပကနေ ဝင်ရောက်လာတာဖြစ်တယ်။ ဒါကို နိုင်ငံသားလို့ သတ်မှတ်လို့မရဘူး"လို့ ပြောကြားခဲ့သည်။

* (၉) ရက်ကြာ ပိတ်ထားခဲ့သော မြန်မာ-ဘင်္ဂလားဒေ့ရှ် ကုန်သွယ်မှု ပြန်လည် စတင်သည်။

* ဇွန်လ အရေးအခင်းနှင့် ပတ်သတ်ပြီး ရခိုင်တိုင်းရင်းသား ၄၀ လောက် အဖမ်းခံထားရသည်ဟု RFA သတင်းဌာနက ဖော်ပြခဲ့သည်။

* (၁၅)ရပ်နေ့က အပေါက်ဝ မီးလောင်မှုတွင် ရခိုင်တိုင်းရင်းသား (၉)ဦးနှင့် ရဟန်းတော် (၁)ပါး အဖမ်းခံခဲ့ရပြီး စစ်တွေ အကျဉ်းထောင်သို့ ခေါ်ဆောင်လာမှုကို ကျောက်တော် ဒေသခံများက ဆန္ဒပြခဲ့ကြသည်။ လူအုပ်များသည့်အတွက် လုံခြုံရေးမှ သေနတ်ပစ်ဖောက်ပြီး လူစုခွဲခဲ့သည်။

* အင်္ဂလန်နိုင်ငံရောက် မျိုးချစ်မြန်မာတိုင်းရင်းသားများ စုစည်း၍ BBC ( Television Centre - Shepherd' Bush/Wood Lane) အား ဆန္ဒပြကန့်ကွက်ခဲ့ကြသည်။

## ၁၉. ၆. ၂၀၁၂ ရက်နေ့

* ရသေ့တောင်မြို့နယ်၊ ကူတောင်ကျေးရွာတွင် ဘင်္ဂါလီကုလားတို့၏ အကြမ်းဖက်မှုကြောင့် ရခိုင်(၁၀)ဦး သေဆုံးခဲ့သည်။ တချို့ ရခိုင် အလောင်းများကို ဘင်္ဂလီကုလားများ ဝှက်ထားသောကြောင့် စစ်တပ်မှ တောင်းယူခဲ့ရသည်။

* အရေးအခင်းကိုင်တွယ်ပုံကို အမေရိကန်အစိုးရမှ မြန်မာအစိုးရကို ချီးကျူးခဲ့သည်။

* အိန္ဒိယနိုင်ငံတွင် နှစ်ပေါင်း ၁၀ ကျော်ကြာ အကျဉ်းခံခဲ့ပြီး ကုလသမဂ္ဂ ဒုက္ခသည်များဆိုင်ရာ မဟာမင်းကြီးရုံး အကူအညီဖြင့် နေထိုင်



နေကြသော ရခိုင်နှင့် ကရင် ရဲဘော်များမှာ နယ်သာလန် နိုင်ငံတွင် အခြေချ နေထိုင်ရန်ထွက်ခွာခဲ့သည်။

* ရခိုင်ပြည်နယ် စစ်တွေမြို့တွင် ဝန်ကြီးများရုံး အစည်းအဝေးတွင် ကာကွယ်ရေးနှင့် ပြန်လည်နေရာချထားရေး ဒု-ဝန်ကြီး ဘုန်းဆွေက အစိုးရ အနေဖြင့် ယခု ရခိုင်အရေးတွင် ဒိုင်လူကြီး လုပ်မည်ဟု ပြောကြားခဲ့သည်။

## ၂၀. ၆. ၂၀၁၂ ရက်နေ့

* မသီတာထွေးကို မုဒိမ်းကျင့်၊ ပစ္စည်းလု၊ သတ်ဖြတ်မှုကြောင့် သေဒဏ်ချခံရသူ ဘင်္ဂလီကုလား(၂)ဦးအား ကျောက်ဖြူထောင်မှ စစ်တွေထောင်သို့ ပြောင်းရွှေ့ခဲ့သည်။ ကျောက်ဖြူထောင်တွင် ကြိုးတိုင်မရှိသည့်အတွက် ယူဆောင်ရခြင်းဖြစ်သည်။

* ၈၈ မျိုးဆက်ကျောင်းသားအဖွဲ့မှ မမီးမီးနှင့် မနီလာသိန်းတို့က ကယ်ဆယ်ရေးပစ္စည်းများနှင့်အတူ ရခိုင်ကို လာရောက်စုံစမ်းခဲ့သည်။

* NGO ဝန်ထမ်းနှစ်ဦးအား ဖမ်းဆီးရရှိခဲ့ပြီး ပြည်ပသို့ နိုင်ငံတော်သတင်းများကို ပေးပို့မှုဖြစ်သည် အီလက်ထရွန်နစ် အက်ဖြင့် အရေးယူခဲ့သည်။

* စစ်တွေမြို့ လေယာဉ်ကွင်းအနီး အုန်းတောထဲရှိ ဆောက်လုပ်ထားသော ရခိုင်အိမ်များကို ဘင်္ဂလီများ လာရောက် မီးရှို့သောကြောင့် အိမ်တစ်ဆောင် မီးလောင်ခဲ့ရသည်။

* ချင်းပြည်နယ် ပလက်ဝမြို့တွင် ရခိုင်ဒုက္ခသည်များအတွက် အလှူငွေ ကောက်ခံမှုကို မြို့နယ်အုပ်ချုပ်ရေးမှူးက တားမြစ်ပိတ်ပင်ထားကြောင်း သိရှိခဲ့ရသည်။

* ရခိုင်ပြည်နယ် ပဋိပက္ခများနှင့် ဆက်နွယ်မှုရှိသည်ဟူသော မသင်္ကာမှုဖြင့် မူဆလင် ၇ ဦးအား ဘင်္ဂလားဒေ့ရှ် အာဏာပိုင်များက တနင်္လာနေ့တွင် ကောက်စဘဇားမြို့ ဟိုတယ်တစ်ခုမှ ဖမ်းဆီးရမိကြောင်း သိရှိရသည်။

## ၂၁. ၆. ၂၀၁၂ ရက်နေ့

* ရခိုင်ဒီမိုကရေစီအဖွဲ့အချုပ်မှ ရန်ကုန်မြို့ ဒို့ရိုးရာ စားသောက်ဆိုင်တွင် တခြားနိုင်ငံရေးခေါင်းဆောင်များနှင့်အတူ သတင်းစာရှင်းလင်းပွဲ ပြုလုပ်ခဲ့သည်။
* မြန်မာ-ဘင်္ဂလားဒေ့ရှ်နယ်စပ် ခြံစည်းရိုးကာရံခြင်းအတွက် ကျပ်ဘီလျံနှစ်ဆယ်နီးပါး သုံးစွဲမည်ဟု True News မှာ ဖော်ပြခဲ့သည်။
* ရခိုင်ပြည်နယ်အတွင်းရှိ ဆူပူအကြမ်းဖက်မှုများနှင့် ပတ်သတ်၍ ပြည်ပမီဒီယာများက လွဲမှားစွာ ဖော်ပြခဲ့မှုကို ရန်ကုန်မြို့ရှိ အင်္ဂလန်သံရုံးရှေ့တွင် ဆန္ဒထုတ်ဖော်ခဲ့ကြသည်။
* စစ်တွေမြို့ အောင်မင်္ဂလာရပ်ကွက် အောင်ထွန်းဦးလမ်းတွင် ဘင်္ဂလီအမျိုးသမီး ဒေါ်ခင်ခင်ဆိုသည့် စာတိုက်ဝန်ထမ်း အမျိုးသမီးတစ်ဦးက မိမိ၏ နေအိမ်ကို ပြန်လည် မီးရှို့ခြင်းဖြစ်ကြောင်း၊ ၎င်းကို လုံခြုံရေးတပ်ဖွဲ့ဝင်များက ဖမ်းဆီးရမိသည်။
* ရခိုင်ပြည်နယ်တွင် သေဆုံးသူ အားလုံး စုစုပေါင်း ၆၂ ဦးရှိပြီဟု ပြည်နယ်အစိုးရရုံးအဖွဲ့ပြောခွင့်ရသူ ဦးဝင်းမြိုင်က ပြောကြားခဲ့သည်။

## ၂၂. ၆. ၂၀၁၂ ရက်နေ့

* ကယ်ဆယ်ရေးပစ္စည်းများကို ရန်ကုန်မှ ရေကြောင်း သင်္ဘောများဖြင့် စတင်ပို့ဆောင်ခဲ့သည်ဟု လူမှုဝန်ထမ်းကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေး ဝန်ကြီးဌာနမှူး ဦးသိန်းဌေးအောင်မှ ပြောကြားခဲ့သည်။
* မောင်တောမြို့တွင် နေထိုင်ရန် အိမ်ရှိသည့် ဒုက္ခသည်များကို ပြန်လည်ပို့ပေးခဲ့သည်။ နေအိမ်များ မီးထဲပါသွားသော ဒုက္ခသည်များကို ကားချန်ထားခဲ့သည်။
* ရသေ့တောင်ဒေသခံ ရခိုင်တိုင်းရင်းသား ၁၀ ဦး အသတ်ခံရမှုနှင့် ပတ်သက်၍ သင်္ကာမကင်းသူ ၂၂ ဦး အား ဖမ်းဆီးစစ်ဆေးခဲ့သည်။
* ဘင်္ဂလားဒေ့ရှ်နိုင်ငံမှ စက်လှေဖြင့် ကပ္ပလီပင်လယ်ပြင်ကို ဖြတ်ကာ မြန်မာပြည်တောင်ပိုင်း ရေးမြို့နယ်၊ ခေါဇာမြို့နယ်ခွဲ ကော့လှိုင်ကျေးရွာ



အုပ်စု သဲခုံရွာသို့ ဆိုက်ကပ်လာသည့် ဘင်္ဂါလီ လှေစီးခရီးသည် ၈၄ ဦး အနက် ၈၂ ဦးကို လူဝင်မှုကြီးကြပ်ရေး ဥပဒေ ပုဒ်မ ၁၃/၁ ဖြင့် ရေးမြို့နယ် တရားရုံးမှ ထောင်ဒဏ် တစ်နှစ်စီ ချမှတ်လိုက်ကြောင်း ရေးမြို့မ ရဲစခန်းက ပြောသည်။

## ၂၃. ၆. ၂၀၁၂ ရက်နေ့

* မြန်မာနိုင်ငံ အာမခံလုပ်ငန်းမှာ စက်ရုံစုရပ်ကွက်အတွင်း မီးလောင်မှုတွင် ပါဝင်သွားသော ဈေးဆိုင် ၃၀ အား အာမခံလျော်ကြေးငွေ ၂၃၊ ၇၂၅ သန်းကို ပြန်လည်ပေးအပ်မည်ဟု အာမခံလုပ်ငန်းမှ တာဝန်ရှိသူတစ်ဦးမှ ပြောကြားခဲ့သည်။
* ရသေ့တောင်မြို့နယ် ကူတောင်ကျေးရွာမှ သေဆုံးသူ (၁၀)ဦးအား သင်္ဂြိုဟ်ခဲ့ကြသည်။

## ၂၅. ၆. ၂၀၁၂ ရက်နေ့

* လျှပ်တပြက်ဂျာနယ် အယ်ဒီတာချုပ် ဦးမြတ်ခိုင် ပုဒ်မ ၅၀၅ (ခ)(ဂ)တို့ဖြင့် စွဲဆွဲမှုအား အာမခံဖြင့် လွတ်လာခဲ့သည်။ မသီတာထွေး အသတ်ခံရမှုနှင့်ပတ်သတ်၍ သတင်းဓာတ်ပုံအား ပုံကြီးချဲ့ဖော်ပြခဲ့မှုအား စာပေစိစစ်နှင့် မှတ်ပုံတင်ဌာနမှ ညွှန်ကြားချက်အရ ဖမ်းဆီးထိန်းသိမ်းခံခဲ့ရသည်။ ထိုသတင်းကို ၁၃ ရက်နေ့ထုတ် လျှပ်တပြက်ဂျာနယ်တွင် ဖော်ပြခဲ့ခြင်းဖြစ်သည်။
* ဘင်္ဂလီ လူမျိုးများဟု ယူဆရသူ လူပေါင်း ၁၀၀ ကျော်ကို ရခိုင်ပြည်နယ် ဂွမြို့မှ (၄) မိုင်ခန့်ဝေးသော ဂွကျွန်းတွင် ဖမ်းဆီးရရှိမိသည်။
* အမေရိကန် နိုင်ငံခြားရေးဝန်ကြီးဌာန ပုံမှန် သတင်းစာရှင်းလင်းပွဲတွင် ပြောခွင့်ရ အမျိုးသမီး Victoria Nuland က သတင်းထောက်များကို ရခိုင်အရေးနှင့် ပတ်သတ်ပြီး ရှင်းလင်းပြောကြားခဲ့သည်။
* ဘင်္ဂလားဒေ့ရှ်-မြန်မာနှစ်နိုင်ငံ ပူးပေါင်းဖြေရှင်းသင့်ပြီး အရေး

အခင်းတွင် သေဆုံး ၇၈ ဦးထိ ရှိကြောင်းကို RFA သတင်းဌာနတွင် ဖော်ပြခဲ့သည်။

၂၆. ၆. ၂၀၁၂ ရက်နေ့

* ရခိုင်တိုင်းရင်းသားများ တိုးတက်ရေးပါတီက ကြေငြာချက်ထုတ်ပြန်ပြီး ရခိုင်နှင့် ဘင်္ဂါလီများကို သီးသန့်ခွဲခြားထားဖို့နှင့် တရားမဝင် ဘင်္ဂါလီကုလားများကို ယူအန် အစီအစဉ်ဖြင့် တတိယနိုင်ငံ တစ်ခုခုကို ပို့ဆောင်ရန် ဖော်ပြခဲ့သည်။

၂၇. ၆. ၂၀၁၂ ရက်နေ့

* စစ်တွေမြို့ရှိ မြို့မဈေးမှ ဘင်္ဂါလီကုလားများပိုင် ပစ္စည်းများကို ပြန်ပေးခဲ့သည်။

၂၈. ၆. ၂၀၁၂ ရက်နေ့

* မောင်တောမြို့တွင် ပျောက်ဆုံးနေသူ ၂၈ ဦးထိ ရှိကြောင်း သီရိမင်္ဂလာခန်းမတွင် ငြိမ်းချမ်းစွာ အတူနေထိုင်ရေး ဆွေးနွေးပွဲမှာ ပြောကြားခဲ့သည်။

* ဘင်္ဂလားဒေ့ရှ်ကို ထွက်ပြေးသွားသူ ဘင်္ဂါလီများကို လက်ခံမည်ဟု ဦးခင်ရီ ပြောကြားခဲ့သည်။

၂၉. ၆. ၂၀၁၂ ရက်နေ့

* ရပ်ရှင်အစည်းအရုံးမှ ဦးဆောင်ပြီး ရုပ်ရှင်သရုပ်ဆောင်များမှ ရန်ကုန်မြို့၏ အထင်ကရ နေရာများတွင် လှုပ်ရှားမှုများဖြင့် ရခိုင်ပြည် ဒုက္ခသည်များအတွက် ရံပုံငွေများ ရှာဖွေခဲ့ကြသည်။

* မြေပုံမြို့ရှိ တရာတန်ကန် အဆိပ်ခပ်ခံခဲ့ရပြီး ငါးများ သေဆုံးခဲ့သည်။

* လန်ဒန် အခြေစိုက် The Burmese Rohingya Organisation UK (BROUK) အဖွဲ့ဥက္ကဋ္ဌ ဦးထွန်းခင်မှ ရခိုင်လူမျိုးတွေနဲ့ အစိုးရတပ်ဖွဲ့ဝင်တွေက ပူးပေါင်းသတ်ဖြတ်တဲ့အတွက် ရခိုင်ပြည်နယ် အကြမ်းဖက် ဆူပူမှုအတွင်း ရိုဟင်ဂျာ ၆၅၀ သေဆုံးကြောင်း ဗြိတိန်နိုင်ငံ ပါလီမန် မြန်မာဒီမိုကရေစီ ရရှိရေးဆိုင်ရာ ပါတီပေါင်းစုံအဖွဲ့ ရှေ့မှောက်မှာ လိမ်လည်ပြောဆိုခဲ့သည်။



၃၀. ၆. ၂၀၁၂ ရက်နေ့

* ရုပ်ရှင်သရုပ်ဆောင် အကယ်ဒမီ နေတိုးဦးဆောင်ပြီး နှင်းဆီအဖွဲ့သားများ၏ ညီညွတ်ခြင်း နှင်းဆီအငြိမ့်ကို ရန်ကုန်မြို့ အမျိုးသားဇာတ်ရုံတွင် ကပြခဲ့ပြီး ရံပုံငွေများကို ရခိုင် ဒုက္ခသည်များအတွက် လှူဒါန်းခဲ့သည်။

* ရခိုင်ပြည်နယ် ကျောက်ဖြူထောင်မှ မွတ်ဆလင် လူမျိုးအကျဉ်းသား ၂၄ ဦးကို ကြံ့ဖွံ့ပါတီ အသင်းဝင်ကဒ်ပြားများဖြင့် ထောင်ထဲမှ လွှတ်ပေးခဲ့သည်။

၂၀၁၂ ခုနှစ် ဇွန်လတွင် ဖြစ်ပွားခဲ့သော ရခိုင်အရေးအခင်းနှင့် ပတ်သတ်ပြီး ပြည်တွင်း/ပြည်ပ သတင်းဌာန အသီးသီးတွင် ဖော်ပြခဲ့မှုများနှင့် စာရေးသူကိုယ်တိုင် စုဆောင်းထားသော မှတ်စုများမှ ကောက်နှုတ်ထားခြင်းဖြစ်သည်။

# ၂၀၁၂ ခုနှစ်
# ဇွန်လ
# အရေးအခင်း အကြမ်းဖက်မှုတွင်
# အသက်ပေးဆပ်ခဲ့ရသူများ၏
# ကိုယ်ရေးအကျဉ်း





မသီတာထွေး
အသက် (၂၆)နှစ်
ရမ်းဗြဲမြို့နယ်၊ သပြေချောင်းကျေးရွာ
မွေးချင်း (၆)ယောက်အနက် အငယ်ဆုံးသမီး
၂၈. ၅. ၂၀၁၂ ရက်နေ့တွင် ဘင်္ဂလီကုလား(၃)ဦးမှ အကြမ်းဖက်ခံရသူ

၈.၆. ၂၀၁၂ ရက်နေ့ မောင်တောမြို့ အရေးအခင်းတွင် အကြမ်းဖက်ခံရသူများ



ဦးအောင်သိန်းလှ
အသက် (၅၇)နှစ်
မောင်တောမြို့နယ်၊ သရေကုန်ဘောင်ကျေးရွာတွင် ဇနီးဖြစ်သူ ဒေါ်သိန်းညိုနှင့် အတူနေထိုင်ခဲ့ပြီး ဘင်္ဂလီကုလားတို့ အကြမ်းဖက်တွင် အသက်ပေးခဲ့ရသည်။



ဦးဘဒို
အသက် (၇၅)နှစ်
သရေကုန်ဘောင်ကျေးရွာတွင် သမီးဖြစ်သူ ဒေါ်ပန်းနုနှင့် အတူနေထိုင်ခဲ့ပြီး ဘင်္ဂလီကုလားတို့ အကြမ်းဖက်မှုကြောင့် အသက်ပေးခဲ့ရသည်။ ကျောက်တော်မြို့နယ်၊ ရွှေပြည်သာ ဇာတိဖြစ်ပြီး ၁၉၉၂ ခုနှစ်ကတည်း ရွှေပြည်သာရွာတွင် အခြေတကျ နေထိုင်သည်။



ဦးမောင်ချမ်းသာ
အသက်(၄၀)နှစ်
ဇနီးဒေါ်မပွင့်ခိုင်၊ သားသမီး(၂)ယောက်နှင့်အတူ
သရေကုန်ဘောင်ကျေးရွာတွင် နေထိုင်ခဲ့သည်။
သူသည် ဇော်မတက်မူလွန်ကျောင်းတွင် ကျောင်းအုပ်ဆရာကြီး
ဖြစ်ပြီး သူတပည့် ဘင်္ဂါလီကုလားများမှ ၈.၆.၂၀၁၂ ရက်နေ့
အကြမ်းဖက် သတ်ဖြတ်ခဲ့သည်။



ဦးမြင့်သိန်း
အသက်(၅၄)နှစ်
ပမာလူမျိုးဖြစ်ပြီးဇနီးဒေါ်ညိုညိုဝင်း၊
သားသမီး(၃)နှစ်နှင့်အတူ ခရေမြိုင်ကျေးရွာတွင်
နေထိုင်ခဲ့ပြီး ၈.၆.၂၀၁၂ ရက်နေ့တွင်
အစွန်းရောက် ဘင်္ဂါလီကုလားတို့
အကြမ်းဖက်မှုကြောင့် အသက်ပေးခဲ့ရသည်။



ဦးလှမောင်
အသက်(၆၅)နှစ်
ဇနီးဒေါ်ဦးမြသိန်းနှင့်အတူ ဗိုလ်မှူးကျေးရွာတွင် နေထိုင်
ခဲ့ပြီး ရဲမှူးထမ်းဟောင်းတစ်ဦးဖြစ်သည်။
၈.၆.၂၀၁၂ ရက်နေ့ အစွန်းရောက် ဘင်္ဂါလီကုလားတို့၏
အကြမ်းဖက်မှုတွင် အသက်ပေးခဲ့ရသည်။



ဦးပညာသာမိ
အသက်(၃၆)နှစ်၊ ဝါတော်(၁၆)နှစ်
ရွှေတိုင်ဘုန်းကြီးကျောင်းတွင် သီတင်းသုံးနေသည့်
ဆရာတော်တစ်ပါးဖြစ်ပြီး ၈.၆.၂၀၁၂ ရက်နေ့
ဘဂုံးနားဇလီရှေ့မှ ဖြတ်သွားစဉ် အစွန်းရောက်
ဘင်္ဂါလီကုလားတို့မှ အကြမ်းဖက် သတ်ဖြတ်ခဲ့သည်။
ဇာတိမှာ ပုဏ္ဏားကျွန်းမြို့နယ်၊ ယိုးတရုတ်ကျေးရွာမှ ဖြစ်ပါသည်။





ဦးသာလှမြ
အသက်(၆၇)
ရွှေရင်အေးကျေးရွာတွင် နေထိုင်ခဲ့ပြီး ၈.၆.၂၀၁၂
ရက်နေ့ အစွန်းရောက်ဘင်္ဂါလီကုလားတို့၏
အကြမ်းဖက်မှုကြောင့် အသက်ပေးခဲ့ရသည်။



ဦးသန်းထွန်း
အသက်(၃၅)နှစ်
မောရဝတီကျေးရွာတွင် ဇနီးဒေါ်ထွန်းနုနှင့်အတူ
နေထိုင်ခဲ့ပြီး ၈.၆.၂၀၁၂ ရက်နေ့တွင်
အစွန်းရောက် ဘင်္ဂါလီကုလားအကြမ်းဖက်
သမားတို့လက်ချက်ကြောင့် အသက်ပေးခဲ့ရသည်။

ဦးသာဒိုးအောင်
အသက်(၇၁)နှစ်
သားဦးကျော်ကျော်ဝင်းနှင့်အတူ မောရဝတီ
ကျေးရွာတွင် အေးချမ်းစွာ
နေထိုင်လုပ်ကိုင်စားသောက်ခဲ့ပြီး
၈.၆.၂၀၁၂ ရက်နေ့တွင်
အစွန်းရောက် ဘင်္ဂါလီကုလားအကြမ်းဖက်
သမားတို့လက်ချက်ကြောင့် အသက်ပေး
ခဲ့ရသည်။

ဒေါ်လှကြိုင်မြ
အသက်(၈၀)နှစ်
ခရေမြိုင်ကျေးရွာတွင် နေထိုင်ခဲ့ပြီး
၈.၆.၂၀၁၂ ရက်နေ့ အကြမ်းဖက်မှုတွင်
အသက်ပေးခဲ့ရသည်။

ဦးစောလှ
အသက်(၇၅)နှစ်
ဇနီးဒေါ်မသာ၊ သားသမီး(၃)ယောက်နှင့်အတူ
ရွှေရင်အေး ကျေးရွာတွင် နေထိုင်ခဲ့ပြီး
၈.၆.၂၀၁၂ ရက်နေ့ အကြမ်းဖက်မှုတွင်
အသက်ပေးခဲ့ရသည်။

ဦးစောလှ
အသက်(၇၅)နှစ်
ဇနီးဒေါ်မသာ၊ သားသမီး(၃)ယောက်နှင့်အတူ
ရွှေရင်အေး ကျေးရွာတွင် နေထိုင်ခဲ့ပြီး
၈.၆.၂၀၁၂ ရက်နေ့ အကြမ်းဖက်မှုတွင်
အသက်ပေးခဲ့ရသည်။

မောင်ညီညီ
အသက်(၁၁)နှစ်
ရွှေရင်အေးကျေးရွာမှ ဦးသိန်းဇော်နှင့်
ဒေါ်မိုးမိုးတို့၏သား
တတိယတန်းကျောင်းသား
၈.၆.၂၀၁၂ ရက်နေ့ အကြမ်းဖက်တွင်
အသက်ပေးခဲ့ရသည်။

ဦးမြင့်ရွှေ
အသက်(၅၇)နှစ်
ဇနီးဒေါ်သိန်းရွှေနှင့်အတူ ရွှေရင်အေးကျေးရွာတွင်
နေထိုင်ခဲ့ပြီး ၈.၆.၂၀၁၂ ရက်နေ့ အကြမ်းဖက်မှုတွင်
အသက်ပေးခဲ့ရသည်။

## စစ်တွေမြို့အကြမ်းဖက်မှုတွင် အသက်ပေးခဲ့ရသူများ



ဦးထွန်းဝင်း
အသက်(၃၂)နှစ်
လူပို့လူလွှတ်ဖြစ်သည်။
စစ်တွေမြို့ ကန်တော်ကြီးရပ်ကွက်(၃)မှ ဖြစ်ပြီး
၁၀.၆.၂၀၁၂ ရက်နေ့ မင်းဂံ(၁၁)ရပ်ကွက်တိုက်ပွဲတွင်
အသက်စွန့်သွားခဲ့ရသည်။



ဦးလှဋ္ဌေး
အသက်(၄၅)နှစ်
စစ်တွေမြို့ မင်းဂံရပ်ကွက် အကွက်(၃)တွင် ဇနီးဒေါ်နုနုတင်၊
သားသမီး(၂)ယောက်နှင့်အတူ
နေထိုင်ခဲ့ပြီး ၁၂.၆.၂၀၁၂ ရက်နေ့၊ ရွာသာယာကျေးရွာ
အကြမ်းဖက်မှုတွင် အသက်စွန့်သွားခဲ့ရသည်။



ဦးကျော်သိန်း
အသက်(၆၂)နှစ်
ဇနီးဒေါ်ဦးကျော်သိန်း၊ သားသမီး(၆)ယောက်နှင့်အတူ
ကျေးတောရွာမတွင် နေထိုင်ခဲ့ပြီး ၁၁.၆.၂၀၁၂ ရက်နေ့
သံထော်ကျေးရွာ အကြမ်းဖက်မှုတွင်
အသက်ပေးသွားခဲ့ရသည်။



ဦးကျော်ထွန်းသာ
အသက်(၅၃)နှစ်
စစ်တွေမြို့ မင်းဂံရပ်ကွက် အကွက်(၃)တွင် ဇနီးဒေါ်ဦးစောခင်၊
သားသမီး(၅)ယောက်နှင့်အတူနေထိုင်ခဲ့သည်။
၉.၆.၂၀၁၂ ရက်နေ့တွင် အကြမ်းဖက်ခံရပြီး ဒဏ်ရာပြင်းထန်စွာ
ရရှိခဲ့သည်။ စစ်တွေမြို့ ပြည်သူ့ဆေးရုံတွင် ကွယ်လွန်သွားသည်။





ဦးဇော်တင်ဦး
အသက်(၃၀)နှစ်
ဇနီးဒေါ်ဦးယိုင်သာနှင့်အတူ ရွှေပြည်သာကျေးရွာ
တွင်နေထိုင်ခဲ့ပြီး ၁၁.၆.၂၀၁၂ ရက်နေ့
သံထော်လီကျေးရွာ အကြမ်းဖက်မှုတွင်
အသက်ပေးခဲ့ရသည်။



ဦးမောင်သန်းရွှေ
အသက်(၃၆)နှစ်
ဇနီးဒေါ်ဦးသန်းမြ၊ သားသမီး(၅)ယောက်နှင့်အတူ
ဗျိုင်းဖြူရွာတွင် နေထိုင်ခဲ့ပြီး ၁၁.၆.၂၀၁၂ ရက်နေ့
သံထော်လီတိုက်ပွဲတွင် အသက်ပေးခဲ့ရသည်။



ဦးဘရွှေ
အသက်(၄၈)နှစ်
ဇနီးဒေါ်စောမြင့်၊ သားသမီး(၆)ယောက်နှင့်အတူ မင်းဂံရပ်ကွက်
(၁၇)တွင်နေထိုင်ပြီး ၉.၆.၂၀၁၂ ရက်နေ့ ညဦးပိုင်းတွင်
အစွန်းရောက် ဘင်္ဂလီကုလားများမှ ဆွဲခေါ်သွားပြီး
အသားများကို မီးကင်းစားခဲ့ကြသည်ဟု ဆိုသည်။



ဦးမြသာထွန်း
အသက်(၃၇)နှစ်
ဇနီးဒေါ်မသိန်း၊ သမီး(၂)ယောက်နှင့်အတူ ဗျိုင်းဖြူရွာတွင်
နေထိုင်ခဲ့ပြီး ၁၁.၆.၂၀၁၂ ရက်နေ့ သံထော်လီကျေးရွာ
အကြမ်းဖက်မှုတွင် အသက်ပေးခဲ့ရသည်။



ဦးအောင်စံသိန်း
ကြိမ်းချောင်းကျေးရွာ၊ ပုဏ္ဏားကျွန်းမှ ဖြစ်ပြီး
၁၁.၆.၂၀၁၂ ရက်နေ့ သံထော်လီအကြမ်းဖက်မှုတွင်
အစွန်းရောက် ဘင်္ဂလီကုလားများ၏ သတ်ဖြတ်မှုကို
ခံခဲ့ရသည်။



မောင်မောင်ချေ
အသက်(၁၇)နှစ်
၁၂.၆.၂၀၁၂ ရက်နေ့က စက်ရုံစုအရေးအခင်းတွင်
အသက်စွန့်လွှတ်ခဲ့ရသည်။

## ရသေ့တောင်မြို့နယ်၊ ကူတောင်ကျေးရွာ အရေးအခင်းတွင် ကျဆုံးသူများ



ဦးမောင်သိန်းဟန်
အသက် (၄၉)နှစ်
ဇနီးဒေါ်ခင်ဌေးကြည်၊ သားသမီး(၆)ယောက်နှင့်အတူ ရသေ့တောင်မြို့နယ်၊ ဦးဂါကျေးရွာတွင် နေထိုင်ခဲ့သည်။ ၁၉.၆.၂၀၁၂ ရက်နေ့တွင် ကူတောင်ကျေးရွာတွင် အစွန်းရောက်ဘင်္ဂါလီကုလားတို့မှ သတ်ဖြတ်မှုကြောင့် အသက်စွန့်ခဲ့ရသည်။



ဦးစောသန်း
အသက်(၅၀)နှစ်
ဇနီးဒေါ်လှအေးသိန်း၊ သားသမီး(၅)ယောက်နှင့်အတူ ရသေ့တောင်မြို့နယ်၊ ကူတောင်ကျေးရွာတွင် နေထိုင်ခဲ့သည်။ ၁၉.၆.၂၀၁၂ရက်နေ့ ကူတောင်ကျေးရွာတွင် အစွန်းရောက် ဘင်္ဂါလီကုလားတို့က သတ်ဖြတ်မှုကြောင့် အသက်စွန့်ခဲ့ရသည်။



မောင်ထွန်းဇော်မြင့်(ခ)ထွန်းထွန်း
အသက်(၁၈)နှစ်
ကျဆုံးသွားသူ ဦးသံဒါအောင်၏ သားဖြစ်ပြီး ဒသမတန်း ကျောင်းသားတစ်ဦးဖြစ်သည်။ ကူတောင်ကျေးရွာ အရေးအခင်းတွင် အစွန်းရောက် ဘင်္ဂါလီကုလားတို့၏ သတ်ဖြတ်ခြင်းကို ခံခဲ့ရသည်။



ဦးသံဒါအောင်
အသက်(၅၄)နှစ်
ဇနီးဒေါ်ယိုင်ကျော့ဖြူ၊ သားသမီး(၅)ယောက်နှင့်အတူ ရသေ့တောင်ကျေးရွာ၊ ကူတောင်ကျေးရွာတွင် နေထိုင်ခဲ့သည်။ ရ.ယ.က.စာရေး ကျောင်းအကျိုးတော်ဆောင်အဖွဲ့၏ အတွင်းရေးမှူးဖြစ်ပြီး ၁၉.၆.၂၀၁၂ ရက်နေ့ ကူတောင်ကျေးရွာအကြမ်းဖက်မှုတွင် အစွန်းရောက် ဘင်္ဂါလီကုလားတို့၏ သတ်ဖြတ်မှုကို ခံခဲ့ရသည်။





ဦးအောင်ရွှေထွန်း
အသက်(၅၂)နှစ်
ဇနီး ဒေါ်မခင်န၊ သားသမီး(၂)ယောက်နှင့်အတူ ကူတောင်ကျေးရွာတွင်နေထိုင်ခဲ့သည်။ ၁၉.၆.၂၀၁၂ရက်နေ့ ကူတောင်ကျေးရွာတွင် အကြမ်းဖက် အစွန်းရောက် ဘင်္ဂါလီကုလားတို့၏ သတ်ဖြတ်မှုကြောင့် အသက်ပေးခဲ့ရသည်။



ဦးဝင်းလှိုင်(ခ)ဖြူးချေ
အသက်(၃၁)နှင်
ဇနီး ဒေါ်ယဉ်သိန်းနု၊ သား(၁)ယောက်နှင့်အတူ ကူတောင် ကျေးရွာတွင် နေထိုင်ခဲ့သည်။၁၉.၆.၂၀၁၂ရက်နေ့ ကူတောင်ကျေးရွာတွင် အကြမ်းဖက် အစွန်းရောက် ဘင်္ဂါလီကုလားတို့၏ သတ်ဖြတ်မှုကြောင့် အသက်ပေးခဲ့ရသည်။



ဦးသန်းရွှေ
အသက်(၅၀)နှစ်
ဇနီးဒေါ်သန်းနုဝေ၊ သားသမီး(၄)ယောက်နှင့်အတူ ရသေ့တောင်မြို့နယ်၊ ကူတောင်ကျေးရွာတွင် နေထိုင်ခဲ့သည်။ ၁၉.၆.၂၀၁၂ရက်နေ့တွင် ကူတောင်ကျေးရွာအကြမ်းဖက်တွင် ဘင်္ဂါလီကုလားတို့၏ အကြမ်းဖက်သတ်ဖြတ်မှုကြောင့် အသက်ပေးခဲ့ရသည်။ ရခိုင်တိုင်းရင်းသား တိုးတက်ရေးပါတီ၏ ပါတီဝင်လည်းဖြစ်သည်။



ဦးထွန်းဝေ
အသက်(၃၇)နှစ်
ဇနီးဒေါ်အေးသိန်းမေ၊ သားသမီး(၃)ယောက်နှင့်အတူ ကူတောင် ကျေးရွာတွင် နေထိုင်ခဲ့သည်။ ၁၉.၆.၂၀၁၂ ရက်နေ့ ကူတောင်ကျေးရွာ အကြမ်းဖက်မှုတွင် အစွန်းရောက် ဘင်္ဂါလီကုလားတို့၏ သတ်ဖြတ်မှုကို ခံခဲ့ရသည်။



ဦးတင်လှိုင်
အသက်(၃၂)နှစ်
ဇနီးဒေါ်ဆန်းနုစင်၊ သားသမီး(၂)ယောက်နှင့်အတူ
ကူတောင်ကျေးရွာတွင် နေထိုင်ခဲ့သည်။
၁၉.၆.၂၀၁၂ ရက်နေ့ကူတောင်ကျေးရွာတွင်
အစွန်းရောက်ဘင်္ဂါလီကုလားတို့မှ အကြမ်းဖက်
သတ်ဖြတ်မှုကြောင့် အသက်ပေးခဲ့ရသည်။



ဦးကျော်မင်းထွန်း
အသက်(၄၀)နှစ်
ဒါရိုက်တာ၊ ပြဇာတ်မင်းသားတစ်ဦးဖြစ်ပြီး ရသေ့တောင်
မြို့နယ်၊ လောင်းရောင်းကျေးရွာတွင် နေထိုင်ခဲ့သည်။
၁၉.၆.၂၀၁၂ ရက်နေ့ကူတောင်ကျေးရွာ အကြမ်းဖက်မှုတွင်
အစွန်းရောက် ဘင်္ဂါလီကုလားတို့၏ သတ်ဖြတ်မှုကို
ခံခဲ့ရသည်။



၂၀၁၂ ခုနှစ် ဇွန်လ အကြမ်းဖက်မှုတွင် အသက်ပေးသွားသူ
သူရဲကောင်း (၃၄)ယောက်
အမှတ်တရ ကျောက်တိုင်



## ကျေးဇူးစကား

ပထမဦးဆုံး ကျေးဇူးရှင် မွေးသဖခင်(ဦးအောင်သာထွန်း)နှင့် မိခင် ဒေါ်အောင်နုဖြူအား ဦးစွာပထမ ဦးညွတ်ကန်တော့ပါသည်။ ပုဏ္ဏားကျွန်းမြို့နယ်၊ နတ်တောင်ကျေးရွာမှ နတ်တောင်ဘုန်းတော်ကြီးကျောင်း ပဓာန ဆရာတော်ဘုရားကြီး၊ စာရေးသူအား ပညာအမွေပေးခဲ့ကြသော နတ်တောင်ကျေးရွာမှ မူလတန်းပြ ဆရာ/မများ၊ ပုဏ္ဏားကျွန်းမြို့ အထက်တန်းကျောင်းမှ ဆရာ/မများအားလည်း ကန်တော့ပါ၏။

စာအုပ်ဖြစ်မြောက်ဖို့အတွက် ကိုယ်အား၊ စိတ်အားဖြင့်၊ အကြံဉာဏ်အားဖြင့် ပေးခဲ့ကြသော၊ အထူးသဖြင့် နားလည်မှုအပြည့်ဖြင့် လိုအပ်သည်များကို ကူညီပေးခဲ့သည့် စာရေးသူ၏ ချစ်ဇနီး ဒေါ်အေးအေးနွယ်၊ လိုအပ်သည်များကို လမ်းညွှန်မှုနှင့် နောက်ကျောမျက်နှာဖုံးအတွက် ကဗျာကို ချီးမြှင့်ပေးသော စာရေးသူ၏အစ်ကို သိန်းဝင်း (သျှင်းသန့်-ပုဏ္ဏားကျွန်း)အား ဦးစွာကျေးဇူးတင်ရှိပါသည်။ ပရုဖ်ဖတ်ပြီး လမ်းညွှန်မှုနှင့် အမှာစာများ ချီးမြှင့်ပေးသော ရခိုင်မဂ္ဂဇင်း အယ်ဒီတာ ဆရာသိန်းနောင်၊ ဆရာလေးဝတီခိုင်ကျော်၊ အရှင်ဘုရား

သုခမိန်တို့အား ရှိခိုးကန်တော့ ကျေးဇူးအထူးတင်ရှိပါသည်။

စာရေးသူမေးသမျှကို ဖြေကြားပေးခဲ့ကြသော မောင်တောမြို့မှ ဒေသခံများ၊ စစ်တွေမြို့ မင်းဂံရပ်ကွက်မှ ဒေသခံများ၊ အခင် ဦးလုံးမောင်ချေ၊ အခင်ကြီး ဦးမြသာ၊ ဦးမောင်စံလှ၊ စာအုပ်အတွက် ကွင်းဆင်းရာတွင် လိုအပ်သည်များကို ကူညီပေးခဲ့သော ချစ်တပည့် ကျော်စိုး၊ ဓာတ်ပုံများကို စုဆောင်းပေးသော ချစ်တပည့် ခင်ဇော်သန့် (ခ) ခိုင်ကျော်လင်း၊ Sein Down (ပေါက်တော)၊ ကိုသန်းလှိုင်၊ ကိုထွန်းလင်းအောင်၊ ကိုကောလင်းတို့အားလည်းကောင်း၊ ခိုင်ကောင်းစံ (ပန်းမြတ်စံ-PNG)၊ ဦးထွန်းအောင်စိန်၊ ဝံလက်ဖောင်ဒေးရှင်း ဒါရိုက်တာ အဖွဲ့နှင့် အဖွဲ့ဝင်များအားလည်းကောင်း ကျေးဇူးအထူးတင်ရှိပါသည်။ ဤစာအုပ်ကို ပုံနှိပ်ရေးအတွက် စီစဉ်ပေးသော ကိုမြတ်ဌေး(ပေါက်လေ) အားလည်းကောင်း၊ အထူးသဖြင့် ဤစာအုပ်ကို ဝယ်ယူပြီး အားပေးခဲ့သည့် စာဖတ်သူတို့အား အတိုင်းမရှိ ကျေးဇူးတင်ရှိပါသည်။

**လက်ဆယ်ဖြာ ထိပ်မှာမိုးလျက်**

**ဝေဟင်အောင်**

ဝန်ခံချက်။ ။'သွေးနဲ့ရေးသည့်မြေ'ဝတ္ထုသည် ဖြစ်ရပ်မှန်ဇာတ်လမ်းဖြစ်ပြီး နာမည်များကို အနည်းငယ်ပြုပြင် ပြောင်းလဲထားပါသည်။





## ဝေဟင်အောင် ကိုယ်ရေးအကျဉ်း

အဖအမည် - ဦးအောင်သာထွန်း

အမိအမည် - ဒေါ်အောင်နုဖြူ

အိမ်ထောင်ရေးအခြေအနေ - ဇနီး ဒေါ်အေးအေးနွယ်၊ သမီး မယုဝေသီရိအောင်

မွေးချင်း (၄)ယောက် -

ဦးမောင်သိန်းအေး (ကလောင်အမည် - ခိုင်မင်းဝါ)၊ နယူးဇီးလန်နိုင်ငံ။
ဒေါ်ယိုင်ချေ၊
ဦးသိန်းဝင်း(ကလောင်အမည် - သျှင်းသန့်(ပုဏ္ဏားကျွန်း))၊
စာရေးသူ

အလုပ်အကိုင် - iT Zone, Computer Center တွင် သင်တန်းဆရာ

မွေးရပ်ဇာတိ - ရခိုင်ပြည်နယ်၊ ပုဏ္ဏားကျွန်းမြို့နယ်၊ နတ်တောင်ကျေးရွာ။

ယခုနေရပ်လိပ်စာ - ဇနီးဒေါ်အေးအေးနွယ်၊ သမီး မယုဝေသီရိအောင်တို့နှင့်အတူ၊ ကက - ၄၊ ကျောင်းကြီးလမ်း၊ ကျေးပင်ကြီးရပ်ကွက်၊ စစ်တွေမြို့ ရခိုင်ပြည်နယ်တွင် နေထိုင်လျက်ရှိပါသည်။

**သွေးနဲ့ရေးသည့် မြေ**

---

သည်မြေမှာ မွေး

သည်မြေမှာ ကြီးခဲ့ကြတဲ့ လူတွေ

သည်မြေသမိုင်း မရိုင်းဖို့

စုပေါင်းကာကွယ်ခဲ့ကြတယ်.....။

သည်မြေမှာ....

ခေတ်အဆက်ဆက်

တံခါးတချက် မကျိုးပျက်ဖို့အရေး

ညီညွတ်ခြင်း လက်တွေနဲ့

သွေးလဲတက် ဓားလဲထက်ခဲ့ကြတယ်လေ....။

သည်မြေဟာ

မျိုးဆက်တိုင်းရဲ့ သမိုင်းမှာ

မြေတလက်မ ပါမသွားဖို့အရေး

အသက်တွေ စတေး

သွေးပေါင်းများစွာ ပေးခဲ့ -

ပေးဆဲ - ပေးနေရဦးမယ့်..

" သွေးနဲ့ရေးသည့် မြေ " ပါ....။

[illegible]



ဝေဟင်အောင်

သွေးနဲ့ရေးသည့်မြေ

၂၀၁၂ ခုနှစ် ဇွန်လ ရခိုင်ပြည်နယ်အတွင်း အကြမ်းဖက်မှု သမိုင်းနောက်ခံဝတ္ထု
နှင့်
သမိုင်းမှတ်တမ်းများ



# သွေးနဲ့ရေးသည့်မြေ

## ဝေဟင်အောင်

တတိယအကြိမ်

